# ဂန္ဓဝင်ပုဂ္ဂိုလ်ကျော်များ
## အတ္ထုပ္ပတ္တိ ပေါင်းချုပ်

လှသမိန်




ဟံသာဝတီ

မြန်မာနိုင်ငံ

# ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ

## အတ္ထုပ္ပတ်

[ပုဂ္ဂိုလ်(၂၀၀)အတ္ထုပ္ပတ္တိနှင့် ကျမ်း၊ စာရင်းများ ပါရှိသည်။]

လှသမိန်
စုဆောင်းပြုစုသည်။



ဟံသာဝတီပုံနှိပ်တိုက်
ရန်ကုန်မြို့။

၁၃၂၃ (သာသနာ ၂၅၀၅) ၁၉၆၁

# နိဒါန်း

အတ္ထုပ္ပတ္တိမည်သော ကျမ်းများသည် ရာဇဝင်သမိုင်း၏ တစိတ်တဒေသပင်ဖြစ်၍ စာပေလောကတွင် အဖိုးထိုက်တန်သော ကျမ်းမျိုးဖြစ်ချေသည်၊ နိုင်ငံတော်တွင်ထင်ရှားသော နိုင်ငံရေးဆိုင်ရာ, စီးပွားရေးဆိုင်ရာ, စာပေဆိုင်ရာ, ယဉ်ကျေးမှုအနုပညာဆိုင်ရာ,စက်မှု, လက်မှု, လောကဓာတ် သိပ္ပံပညာ တီထွင်မှုဆိုင်ရာနှင့် စစ်မှုစစ်ရေးဆိုင်ရာ စသည့်ပညာဝန်းကျင်အရပ်ရပ်မှ အသီးသီးသောထူးချွန်ပြောင်မြောက်သည့် ပုဂ္ဂိုလ်ကြီးများ၏ အကြောင်းအရာတို့သည်ကား နစ်ငုပ်ပျောက်ကွယ်မသွားစကောင်းပေ၊ ထိုထိုပုဂ္ဂိုလ်တို့၏ အကြောင်းအတ္ထုပ္ပတ်တို့ကို သမိုင်းစဉ်တလျှောက် မှတ်သားသည်ဆောင်ကာ တုပသင့်ရာ၊ သင်္ခန်းစာယူသင့်ရာ၊ ဆည်းပူးလေ့လာသင့်ရာ၊ ဝေဘန် နှိုင်းချိန်သင့်ရာ၊ စီစစ်စွေ့ငုသင့်ရာနှင့် မြတ်နိုးဂုဏ်ပြုသင့်ရာတို့ကိုဎင်း, ပုဂ္ဂိုလ်အသီးသီးတို့၏စိတ်ဓာတ်, အလေ့အလာ, အရည်အချင်း, စွမ်းဆောင်မှုနှင့် ကျေးဇူးတရားများကိုဎင်း, ထုတ်နုတ်လေ့လာနိုင်ခြင်းဖြင့် အနာဂတ်လူ့လောကအတွက် အကျိုးကျေးဇူး ရှိစေနိုင်သည်သာဖြစ်ပေသည်၊ လူကိုလေ့လာရာ၌ဖြစ်စေ, ခေတ်ကိုလေ့လာရာ၌ဖြစ်စေ, လက်ရာလုပ်ငန်းအမွေအနှစ်ကိုလေ့လာရာ၌ဖြစ်စေ အတ္ထုပ္ပတ္တိကျမ်းများသည် အကျိုးကျေးဇူးများစွာကို ဆောင်နိုင်သည်သာမက ထိုကျမ်းများသည်ပင် အတိတ်ဘိုးဘေးဘီဘင်တို့၏ ရုပ်တုမော်ကွန်းတိုင်ကြီးများသဖွယ် တင့်တယ်စွာဂုဏ်ဆောင်နိုင်ကြပေသည်။

ထို့ကြောင့်လည်း ကမ္ဘာ့စာပေတွင် စွယ်စုံကျမ်းကြီးများ၌ ဖြစ်စေ, သီးခြားအတ္ထုပ္ပတ္တိပေါင်းချုပ် ကျမ်းကြီးများအနေဖြင့်ဖြစ်စေ, ပုဂ္ဂိုလ်အလိုက်ခွဲခြား၍ အတ္ထုပ္ပတ္တိတစောင်တဖွဲ့စီအားဖြင့်ဖြစ်စေ, ပညာဝန်းကျင်အရပ်ရပ်မှ ပုဂ္ဂိုလ်ကြီးများ၏ အတ္ထုပ္ပတ္တိများကို ရေးသားပြုစုထားရှိကြလေသည်၊ ဤသို့ရေးမှတ်ထားခြင်းဖြင့် တခေတ်နှင့်တခေတ်၊ တသက်တမ်းနှင့် တသက်တမ်းကိုဆက်စပ်ပေး၍ ဇာတိမာန်နှင့်ပုဂ္ဂလိကဂုဏ်ရည်တို့ကို ထာဝစဉ်ဖွင့်ဖေါ်တင်ပြထားနိုင်ခဲ့ကြပေသည်။

# နိဒါန်း

မြန်မာနိုင်ငံတော်တွင် အတ္ထုပ္ပတ္တိကျမ်းများ အတော်များများပေါ်ထွက်ခဲ့ကြလေပြီ၊ သို့ရာတွင် တပေါင်းတစုတည်းသော အတ္ထုပ္ပတ္တိပေါင်းချုပ်ကျမ်းမျိုးကား နည်းပါးပေသေးသည်၊ ထွက်ပေါ်သင့်သော ပုဂ္ဂလိကအတ္ထုပ္ပတ္တိများလည်း များစွာထွက်ပေါ်ရန် လိုနေပေသေးသည်၊ သိသင့်သိထိုက်သော ပုဂ္ဂိုလ်ပေါင်းများစွာသည် အကြောင်းမတန်နစ်ငုပ်မှေးမှိန်သွားရသည်များလည်း ရှိလေသည်၊ ရံဖန်ရံခါတွင် စာပြန်ပွဲအောင်သံဃာတော် ထေရုပ္ပတ္တိများ,ပုံလွန်တော်မူသော ဒေသိယထေရ်ကြီးဝါကြီးများ၏ထေရုပ္ပတ္တိများနှင့် အစိုးရအဖွဲ့သစ်ဝန်ကြီးများ၏ အတ္ထုပ္ပတ္တိများပေါ်ပေါက်လာတတ်သော်လည်း အများပြည်သူတို့အတွက် ထုတ်ဝေရောင်းချခြင်းမျိုးမဟုတ်သဖြင့် သိမှီစုဆောင်းနိုင်ရန်ပင် မလွယ်ကူလောက်အောင်ပင် ရှိတတ်ပေသေးသည်၊ အနုပညာရှင်များ၏အတ္ထုပ္ပတ္တိများနှင့် ခေတ်စာရေးဆရာများ၏ အတ္ထုပ္ပတ္တိများသည်ပင် မဂ္ဂဇင်းများတွင်ဖြစ်စေ, သီးခြားတစောင်တဖွဲ့အနေဖြင့်ဖြစ်စေ ပေါ်ထွက်ခဲ့ဘူးစေကာမူ ပြည့်စုံလုံလောက်ခြင်းရှိပြီဟု မဆိုနိုင်သေးပေ၊ ယင်းသို့အားဖြင့် အတ္ထုပ္ပတ္တိစာပေတို့သည် ပညာဝန်းကျင်တခုလုံးအတွက် များစွာလိုအပ်ပေသေးရာ အတ္ထုပ္ပတ္တိရေးသားပြုစုခြင်း, မှတ်တမ်းတင်ခြင်း, စံနစ်တကျစုဆောင်းခြင်းများကို ပြုလုပ်ရန် အထူးပင်လိုအပ်လှပေသည်။

မြန်မာနိုင်ငံ၏ စာပေသမိုင်းကို သုံးသပ်လျှင်လည်း ပြဇာတ်များ, ကဗျာများ ပြောင်မြောက်စွာရေးသားခဲ့၍ မင်းတုန်းမင်းလက်ထက်လောက်အထိ ဟိုးလေးတကျော် နာမည်ကြီးခဲ့သည့် ဆင်ပေါင်ဝဲဇာတိဦးကြင်ဥ၏အတ္ထုပ္ပတ္တိကိုငှင်း, ဘကြီးတော်ဘုရားလက်ထက်တွင် ဝေဿန္တရာစသည့် ဇာတ်တော်ကြီးစကားပြေများကိုရေးသားပြုစုတော်မူခဲ့သည့် အရှင်ဦးဩဘာသ၏ထေရုပ္ပတ္တိကိုငှင်း,ပြည့်ကုံစုံလင်စွာရှာဖွေမတွေ့ရှိနိုင်ခဲ့ကြတော့ပေ၊ နှစ်ပေါင်း ၁၀၀-နီးပါးမျှသာကွာခြားသေးသော စလေဆရာဦးပုည၏ မိဖ မည်ရည်, ဖွားသက္ကရာဇ် တို့သည်ပင်လျှင် အမျိုးမျိုးအဖုံဖုံ ကွဲလွဲနေပေတော့သည်၊ ဤသို့လျှင် နစ်ငုပ်နေသောပုဂ္ဂိုလ်ကျော်များနှင့်ကွဲလွဲနေသော အတ္ထုပ္ပတ္တိများရှိနေသည်မှာမျက်မှောက်ခေတ်က စံနစ်တကျမှတ်သား ပြုစုခဲ့သော အတ္ထုပ္ပတ္တိတို့

နည်းပါးခြင်းကြောင့်ပင် ဖြစ်လေသည်၊ မျက်မှောက်ခေတ် အသက်ရှင်ဆဲကာလတွင် အတ္ထုပ္ပတ္တိများသည် ပုဂ္ဂိုလ်ထင်ရှား ရုပ်ဒြပ်မျှလောက် အရေးမပါ အရာမရောက်သော်ငြားလည်း ကွယ်လွန်ဆုံးပါးသွားသည်၏ နောက်အဖို့တွင်ကား အကျိုးတစုံတရာအားထုတ်ဆောင်ရွက်ခဲ့သူ ပုဂ္ဂိုလ်ကြီးတဦးတယောက် ဖြစ်ပါမူကား ထိုသူ၏ အတ္ထုပ္ပတ္တိသည်သာလွန်ဝို၍အရေးပါလာတတ်ပေသည်၊မှန်ကန်စုံလင်သော အတ္ထုပ္ပတ္တိဆိုင်ရာ အချက်အလက်များသည် ပုဂ္ဂိုလ်၏အသက်ရှင်ဆဲမျက်မှောက်ကာလတွင်မှ အခိုင်အမာအမှန်အကန် ရရှိနိုင်မြဲဖြစ်ပေသည်၊ ထိုပုဂ္ဂိုလ်အပေါ်တွင် ထင်မြင်လေ့လာချက်များသည်လည်း ထိုပုဂ္ဂိုလ်နှင့်ခေတ်ပြိုင်ပညာရှင်ကြီးများထံမှပင် ရေရာကျနစွာရရှိနိုင်ပေသည်၊ နှစ်ကာလရွေ့လွန်လျှင် ရွေ့လွန်သည်နှင့်အမျှ တိမ်းယိမ်းချွတ်ချော်တတ်ပေသည်။

ယင်းသို့ ဖြစ်သောကြောင့် မြန်မာစာပေသမိုင်း တလျှောက်တွင် ပေါ်ပေါက်ခဲ့သော ရဟန်းပုဂ္ဂိုလ်,လူပုဂ္ဂိုလ်များ၏ အတ္ထုပ္ပတ္တိများကို ရှာဖွေစိစစ်ရန်လိုအပ်သောအခါ အချို့မှာ ကျမ်းတစောင်တဖွဲ့တည်း၏ အဆိုအမိန့် ဖေါ်ပြချက်တို့ဖြင့်မလုံလောက်တော့ဘဲ ကျယ်ကျယ်ပြန့်ပြန့်ရှာဖွေစူးစမ်းဆက်စပ်ကာ လေ့လာယူရသည့်အခြေသို့ ဆိုက်ရောက်ရလေတော့သည်၊ ထိုမှတပါးအတ္ထုပ္ပတ္တိများကို တစောင်တဖွဲ့တည်းအားဖြင့် ရှာဖွေရရှိခြင်းမရှိဘဲ စာပေကျမ်းဂန်အသီးသီးမှ ကောက်နှုတ်စုပေါင်း၍ လေ့လာကြရပေသေးသည်၊ သို့ဖြစ်သောကြောင့် အခြားပညာဝန်းကျင်တို့ကိုလက်လွှတ်မူ၍ မိမိနီးစပ်လေ့လာ ဆည်းပူးမိသမျှသော စာပေကျမ်းဂန်ဆိုင်ရာရဟန်းပုဂ္ဂိုလ်,လူပုဂ္ဂိုလ်တို့၏ အတ္ထုပ္ပတ္တိများကို တစောင်တဖွဲ့တည်း စုပေါင်းသိမ်းရုံးလျက် ပြုစုမှတ်တင်ရသော် အကျိုးများပေစွဟု ကြံစည်စိတ်ကူးမိခဲ့လေသည်၊ စင်စစ်သော်စာပေဂန္ထဝင်သည် စာပေပြုစုသော ဂန္ထကာရက စာဆို စာပြုပုဂ္ဂိုလ်တို့၏ အတ္ထုပ္ပတ္တိများနှင့် မကင်းစကောင်းပေ၊ ထိုကြောင့်လည်း များပြားလှသော အလုပ်တာဝန်များအကြားမှ ရမိကောင်းသမျှ အတ္ထုပ္ပတ္တိတို့ကို စိစစ်လေ့လာစုဆောင်းခဲ့ပေရာ ၁၃၁၇-ခုနှစ် ဒုတိယဝါဆိုလတွင် ကျမ်းပြုနှင့်စာဆိုပုဂ္ဂိုလ်များ၏အတ္ထုပ္ပတ္တိပေါင်း(၉၂)ပုဒ်ကိုပေါင်းစု၍

အတ္ထုပ္ပတ္တိပေါင်းချုပ်အမည်ဖြင့် *ဦးစွာပဌမတစောင်တဖွဲ့ ရိုက်နှိပ်ထုတ်ဝေခဲ့ပေသည်။

သို့ရာတွင် ရှာဖွေစုဆောင်းဆဲ အတ္ထုပ္ပတ္တိပေါင်းများစွာကြွင်းကျန်သေးသည့်ပြင် ဖြည့်စွက်ပြင်ဆင်ရန်အချက်များလည်း ရှိသေးသည်ဖြစ်ရကား ထပ်မံစုဆောင်းရရှိသော အတ္ထုပ္ပတ္တိများကိုပါထပ်ပေါင်းလျက် စံနစ်တကျသုတ်သင်ဖြည့်စွက်ခြင်း, စီစစ်တည်းပြတ်ခြင်းများပြုလုပ်ကာ ပိုမိုစုံလင်ပြည့်ဝသော ဤအတ္ထုပ္ပတ္တိပေါင်းချုပ်ကိုအကွရာစဉ်များ,နောက်ဆက်တွဲများဖြင့် မွမ်းမံကာအသစ်တဖန်ထပ်မံထုတ်ဝေလိုက်ခြင်းဖြစ်ပေသည်၊ ဤအတ္ထုပ္ပတ္တိပေါင်းချုပ်သည် လုံးဝဥဿုံစုံလင်သည်ဟု မဆိုနိုင်ငြားသော်လည်း ဤအချိန်အထိ စုဆောင်းထုတ်ဝေပြီးစီးခဲ့သော အတ္ထုပ္ပတ္တိပေါင်းချုပ် ကျမ်းများတွင်ကား †အပြည့်စုံဆုံးသော အတ္ထုပ္ပတ္တိကျမ်းတစောင်ဖြစ်ကြောင်းကို တွေ့ရှိကြလိမ့်မည်ဖြစ်ပေသည်။

ဤဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ အတ္ထုပ္ပတ်ကျမ်းကို ပြုစုပုံနှင့်ပတ်သက်၍လည်း အနည်ငယ်ဖေါ်ပြလိုပေသေးသည်။

ဤအတ္ထုပ္ပတ်ကျမ်းသည် ကျမ်းပြုစာဆိုပုဂ္ဂိုလ်တို့၏ ဖွားသက္ကရာဇ်, ဇာတိ, မိဖမျိုးနွယ်, ဆရာစဉ်ဆက်, ပညာသင်ကြားပုံ, ပဝတ္တိ ဌာန, လွန်သောသက္ကရာဇ်, ပြုစုသောကျမ်းဂန်စာပေ, ထူးခြားသောဝိသေသဂုဏ် စသည်တို့ကိုသာ ရနိုင်သမျှစေ့ငု၍ ရည်ညွှန်းလွယ်စေရန် အကျဉ်းဆုံးရေးသားပြုစုထားသောကျမ်းဖြစ်ပေသည်၊ စာပေအလင်္ကာသဘောဖြင့် ဖွဲ့နွဲ့ခြင်း, ချဲ့ထွင်မွမ်းမံခြင်း, အဖြစ်အပျက်များကို ထည့်သွင်းခြင်း,

---

* ဒဂုန်နတ်ရှင်၏ စာပြုစာဆို ပုဂ္ဂိုလ်ကျော်များ ၆၄-ဦး၏ အတ္ထုပ္ပတ္တိပေါင်းချုပ်ကို ၁၃၁၇-ခုနှစ် ဝါခေါင်လတွင်မှ ရိုက်နှိပ်ထုတ်ဝေခဲ့သည်။

† ရှေးယခင်က အတ္ထုပ္ပတ္တိ အနည်းငယ်ပါဝင်သည့်အတ္ထုပ္ပတ္တိထုံးဟူသော အတ္ထုပ္ပတ္တိပေါင်းချုပ် ပုံနှိပ်စာတမ်းတစောင် သီးခြားထွက်ပေါ်ခဲ့ဘူးပေသည်၊ သို့ရာတွင် ထိုအတ္ထုပ္ပတ္တိထုံးကိုရှာဖွေမရရှိနိုင်ခဲ့တော့ပေ၊ သို့စေကာမူထိုစာတမ်းပါ အတ္ထုပ္ပတ္တိများကို နှောင်းပေါ်အတ္ထုပ္ပတ္တိစာအုပ်တအုပ်တွင် တိုက်ရိုက်တူးယူဖေါ်ပြပါရှိခဲ့သဖြင့် စီစစ်လေ့လာနိုင်ခွင့်ရရှိပြီးဖြစ်ပေသည်။

ဆိုင်ရာစာပေကျမ်းဂန်နှင့် ပုဂ္ဂိုလ်ဝေဖန်သုံးသပ်ချက်များဖြည့်စွက်ခြင်း စသည်တို့ကားမပါရှိပေ၊၍အတ္ထုပ္ပတ္တိကျမ်း၏ အချို့သောပုဂ္ဂိုလ်များ၏ အတ္ထုပ္ပတ္တိများမှာ အကျယ်ရိုက်နှိပ်ပြီးသည်များလည်းရှိပေသည်။

အချို့သောအတ္ထုပ္ပတ္တိတို့မှာ ပုဂ္ဂိုလ်တဦးတယောက်အတွက်စာမျက်နှာ ၉၀၀-ကျော်မျှပင်ရှိပေသည်၊ အကယ်၍ အတ္ထုပ္ပတ္တိအားလုံးကိုအကျယ်တဝင့် ရေးသားမည်ဆိုပါက အတ္ထုပ္ပတ္တိပေါင်းချုပ်ကျမ်း အနေဖြင့် အလွန်ကြီးလေးဖွယ်ရာရှိပေသည်၊ ထိုကြောင့်ပင် လိုအပ်သောအချက်အလက်များကိုသာ ပဓာနထား၍ တိုတိုကျဉ်းကျဉ်းဖြင့် ရေးသားဖော်ပြထားပေသည်။

၎င်းအတ္ထုပ္ပတ်ကျမ်းတွင် ကျမ်းပြုနှင့် စာဆိုပုဂ္ဂိုလ်များ၏ အတ္ထုပ္ပတ္တိကိုသာအဓိကထား၍ ဖော်ပြသည်ဖြစ်သော်လည်း ဆရာစဉ်အနေဖြင့်၎င်း၊ ကျမ်းတတ်ပုဂ္ဂိုလ်ကျော်အနေဖြင့်၎င်း၊ ဆက်စပ်နေသည့် သိသင့်သိထိုက်သောပုဂ္ဂိုလ်များ၏ အတ္ထုပ္ပတ္တိများကိုလည်း တပါတည်း ထည့်သွင်းဖော်ပြထားပေသည်၊ ဥပမာ ညောင်ကန်ဆရာတော်များကို ဖော်ပြရာတွင် အစဉ်အဆက်အားဖြင့် ပါဝင်နေသည့် ကျမ်းပြုပုဂ္ဂိုလ်မဟုတ်သောဆရာတော်များကိုပါ အစီအစဉ်မပြတ်လေ့လာနိုင်စေရန် ထည့်သွင်းဖော်ပြထားပေသည်၊ထို့မှတပါးအချို့သော ဆရာတော်များမှာ ပြုစုသောကျမ်းဂန် စာပေစာရင်းအင်း မထောက်မိ၍သာ ကျမ်းပြုဆရာတော် စာရင်းသို့မသွင်းရသော်လည်း ကျမ်းပြုဆရာတော် မဟုတ်ဟူ၍လည်း တထစ်ချဆိုနိုင်ရန် ခက်ခဲစရာရှိပေသည်၊ ထိုကြောင့်သိသင့်သော ဆရာတော်များကို မချွင်းလှပ်ဘဲဖော်ပြထားပေသည်။

အချို့သောကျမ်းပြုရဟန်း ပုဂ္ဂိုလ်,လူပုဂ္ဂိုလ်တို့မှာ ကျမ်းပြုစာဆိုအဖြစ်ထင်ရှားသော်လည်း အတ္ထုပ္ပတ္တိဟု ဆိုရလောက်အောင် ဖွားသက္ကရာဇ်,လွန်သက္ကရာဇ်,ဇာတိ,မိဖစသည်တို့ကို ခြေခြေမြစ်မြစ် စုံစုံလင်လင်စုံစမ်းမရသောကြောင့် အတ္ထုပ္ပတ္တိများတွင် ထည့်သွင်းခြင်းမပြုဘဲ ချန်လှပ်ထားခဲ့ရပေသည်၊ သို့ရာတွင် ထိုထိုအတ္ထုပ္ပတ္တိစုံစမ်းမရသော ကျမ်းပြုဆရာတို့၏စာရင်းနှင့်ရမိသမျှသောအချက်အလက်,ထိုထိုပုဂ္ဂိုလ်တို့ပြုစုသောကျမ်းအမည် စသည်တို့ကိုကား စာရင်းတခုသီးခြားဖွင့်လှစ်

၍ နောက်ဆက်တွဲတွင်ဖော်ပြထားပေသည်၊ ထိုပုဂ္ဂိုလ်များအနက်မှ ဖြစ်စေ၊လုံးဝဖော်ပြခြင်းမရှိသေးသော အတ္ထုပ္ပတ္တိထင်ရှားသည့်ကျမ်းပြုစာဆိုပုဂ္ဂိုလ်ကျော်များအကြောင်းအရာတို့ကိုဖြစ်စေ ထပ်မံစုံစမ်းတွေ့ရှိကြပါမူကား ထပ်ဖြည့်မှတ်သားကြရန်ပင်ဖြစ်လေသည်။

ပုဂ္ဂိုလ်များ၏အတ္ထုပ္ပတ္တိများကို စီစဉ်ရာတွင် ဖွားသက္ကရာဇ်စဉ်အတိုင်းဖော်ပြထားပေသည်၊ထိုသို့ဖော်ပြရာတွင် အချို့ပုဂ္ဂိုလ်တို့သည်ထင်ရှားပေါ်လွင်ရာ၌ မိမိထက်ငယ်ရွယ်သော နောက်ဖွားပုဂ္ဂိုလ်များထက်နောက်ကျ၍ ကြီးရင့်အိုမင်းမှ ပေါ်လွင်ခြင်းရှိတတ်သည့်အခါတွင် ထင်ပေါ်မှုအရ ရှေ့နောက်ဖြစ်ကောင်းဖြစ်နေပေမည်၊ မြောက်စားကိုးကွယ်ရာမင်းလက်ထက် အားဖြင့်လည်းရှေ့နောက်ဖြစ်ကောင်းဖြစ်နေပေမည်၊ သို့ရာတွင် ဖွားသက္ကရာဇ်စောလျှင်စောသည့်အတိုင်း ရှေ့ဦးဖော်ပြထားသည်ကို သတိပြုသင့်ပေသည်၊ ဤသို့သောပုဂ္ဂိုလ်မျိုးလည်း နည်းပါးလှပေသည်၊အတ္ထုပ္ပတ္တိများကို သက္ကရာဇ်စဉ်ဖော်ပြရာ၌ အချို့ပုဂ္ဂိုလ်များ၏ဖွားသက္ကရာဇ်ကို မသိရသည့်အခါမှန်းဆ၍ (မည်မျှခန့်) ဟုဖော်ပြထားပေသည်၊ ထိုသို့ မှန်းဆ ရာတွင်လည်း ပြုစုသောကျမ်းပြီးသက္ကရာဇ် သို့မဟုတ် လွန်သောနှစ်, သို့မဟုတ်ခေတ်ပြိုင်ပုဂ္ဂိုလ် မင်းလက်ထက်စသည်တို့ကို ရနိုင်သမျှ ချိန်ဆပြီးမှ အနီးကပ်ဆုံးခန့်မှန်း၍ ဖော်ပြထားခြင်းသာဖြစ်ပေသည်၊ ထိုသို့ခန့်မှန်းခြင်းမပြုပါက သက္ကရာဇ်စဉ်အလိုက်ဖော်ပြရာတွင် ညှပ်သွင်းရန်ခက်ခဲဖွယ်ရှိမည်ဖြစ်ပေသည်၊အချို့သောဖွားသက္ကရာဇ်,လွန်သက္ကရာဇ်တို့မှာ လုံးဝနစ်ငုပ်သည်လည်းမဟုတ်သောအခါ ရာ,ဆယ်,ခုကိန်းတို့အနက် အတိအကျသိရသမျှကို ဖော်ပြ၍ ကျန်မသိသာသော ကိန်း အတွက်သာလျှင် ကြက်ခြေပြ၍ချန်လှပ်ထားပေသည်၊ဥပမာ(၁၂++)ဟုဖော်ပြသည်မှာ သက္ကရာဇ် ၁၂၀၀ ကျော်ဖြစ်ကြောင်းထင်ရှားသော်လည်း မည်သည့် ဆယ်,မည်သည့်ခုနှစ်ဟုမသိရှိရသောကြောင့် ဖြစ်ပေသည်၊ ဥပမာ (၁၁၃+) ဟုပြလျှင် သက္ကရာဇ် ၁၁၃၀-ကျော်ဖြစ်၍ ၁၁၃၁-ခုနှစ်မှ ၁၁၃၉-ခုနှစ်အတွင်း ဖြစ်ကြောင်း အနီးကပ်ဆုံးခန့်မှန်းနိုင်ရန် ဖြစ်ပေသည်၊ ဤနည်းအားဖြင့် သက္ကရာဇ်အတိအကျမသိရစေကာမူ အဘယ်ခေတ်,အဘယ်မင်းလက်ထက်, အဘယ်ခုနှစ်ပိုင်းအတွင်း ဖြစ်သည်ကို တတ်နိုင်သမျှနီးစပ်စွာ ထောက်ဆနိုင်စေရန်အတွက် များစွာအကျိုးရှိမည်ဖြစ်ပေသည်၊ဥပမာ

ပုဂ္ဂိုလ်တဦးသည်အသက် ၇၃-နှစ်၌ ကွယ်လွန်ကြောင်းသိရှိရ၍နောက်ဆုံးပြုစုသောကျမ်းပြီးသကရာဇ်သည် ၁၂၀၀-ပြည့်နှစ် အသက်အားဖြင့် ၆၀-ကျော် အတွင်းဖြစ်ကြောင်းသဲလွန်စရသည်ဆိုပါမူ ထိုပုဂ္ဂိုလ်သည် ၁၂၁၀-ပြည့်နှစ်၌ အသက်၆၁-နှစ်ဖြစ်ပါက ၁၂၁၂-ခုနှစ်တွင် ကွယ်လွန်ရမည်ဖြစ်ပြီး အကယ်၍ ၁၂၀၀-ပြည့်နှစ်၌ ၆၉-နှစ်ဖြစ်ပါမူ ၁၂၀၄-ခုနှစ်တွင် ကွယ်လွန်ရမည်ဖြစ်ပေသည်၊ ၆၀-ကျော်ဆိုသည်မှာ ၆၁-မှ ၆၉-အထိဖြစ်ပေရာ အစောဆုံးနှင့် နောက်အကျဆုံးနှစ်သည် ၁၂၀၄-ခုနှစ်နှင့် ၁၂၁၂-ခုနှစ်သာဖြစ်ရပေမည်၊ ထိုကြောင့် ၁၂၀၄-ခုနှစ်နှင့် ၁၂၁၂-ခုနှစ်အတွင်း၌ ကွယ်လွန်ကြောင်းသိနိုင်ပေသည်၊သို့ဖြစ်ရာထိုပုဂ္ဂိုလ်၏ဖွားသကရာဇ်သည်လည်း ၁၁၃၁-ခုနှစ်နှင့် ၁၁၃၉-ခုနှစ်အတွင်းဖြစ်ရပေလိမ့်မည်၊ သို့ဖြစ်သော် ၁၁၃၀-ပြည့်နှစ်နောက်ပိုင်း ၁၁၄၀-ပြည့်နှစ်မတိုင်မီနှစ်များ အတွင်းတနှစ်နှစ်၌ဖွားမြင်ရမည်မှာသေချာသဖြင့် သကရာဇ်ဆယ်စုအထိသေချာစွာသိရှိနိုင်ပြီး ခုအားဖြင့်သာလျှင် ၁-မှ ၉-အတွင်းမကွဲမပြားမသေမချာရှိမည်ဖြစ်ရာ ထိုပုဂ္ဂိုလ်၏သကရာဇ်ကိုပြသောအခါဖွားသကရာဇ် ၁၁၃+၊လွန်သကရာဇ် ၁၂++ဟူ၍ဖော်ပြထားမည်ဖြစ်ပေသည်၊ ဤနည်းမျိုးဖြင့်အခြားသကရာဇ်မထင်ရှားရာတို့၌လည်းသိသာနိုင်သမျှစိစစ်တွက်ချက်၍ဖော်ပြထားပေသည်၊ ရဟန်းတော်များ၏ အတ္ထုပ္ပတ္တိများတွင်ဖွားနှစ်,ပျံလွန်နှစ်ကို ဖော်ပြထားပြီး ဖြစ်သဖြင့် သက်တော်, ဝါတော်တို့ကို သီးခြားမဖော်ပြတော့ပေ၊ အလွယ်ပင် တွက်ယူနိုင်ပေသည်၊ အသက်လွန်မှ ရဟန်းဘောင်တက်ရောက်သော ပုဂ္ဂိုလ်များအတွက်လည်း ရဟန်းပြုသောနှစ်,သို့မဟုတ် သက်တော်ကို သီးခြားဖော်ပြထားပေသည်။

အတ္ထုပ္ပတ္တိအမှတ်အသားများမှာ အမျိုးမျိုးအဖုံဖုံမူကွဲလွဲတတ်သည်မှာဓမ္မတာပင်ဖြစ်ပေရာမူကွဲများကိုရှာဖွေတိုက်စစ်ပြီး ညှိနှိုင်းပြီးနောက် ယုတ္တိသျှော်ကန် မှန်သင့်ရာကိုသာလက်ခံထားပေသည်၊စဉ်းစားဆင်ခြင်ဖွယ်ကျမ်းကြီးကျမ်းခိုင်အမှတ်အသားဖြစ်လျှင်သော်ကား အောက်ခြေမှတ်ချက်ဖြင့်မူကွဲကိုဖော်ပြထားပေသည်၊ ဘွဲ့တော်, တံဆိပ်တော်, ငယ်မည်ဇာတိ,မိဖမည်ရည်,ပြုစုသောကျမ်းစသည်တို့သည်လည်း ရောထွေးမှားယွင်းတတ်ပေရာ အမှတ်အသားတိမ်းပါးမှားယွင်းသည်တို့ကိုအနိုင်အမာတွေ့ရသော်ပြင်ဆင်မှတ်သားကြရန်ပင်ဖြစ်ပေသည်၊ဤအတ္ထုပ္ပတ္တိ

ပေါင်းချုပ်အတွက် ညှိနှိုင်းကိုးကားသောပမာနကျမ်းစာရင်းကိုလည်း ဖေါ်ပြထားသည်ဖြစ်ရာမည်မျှအထိခိုင်လုံမှန်ကန်လောက်သည်ကိုကား ချင့်ချိန်သိရှိနိုင်မည်ဖြစ်ပေသည်၊အကျယ်ကိုဖတ်ရှုလိုသူတို့အတွက်လည်း မူလကျမ်းရင်းများကို လေ့လာနိုင်မည်ဖြစ်ပေသည်၊ ပမာဒအရာယွင်း ပါးတိမ်ဇုတ်သဖြင့်မစေ့မစပ်ကြွင်းလပ်တိမ်းယိမ်းသည် အရာတို့ကိုတွေ့ သော်ကားခွင့်လွှတ်ရန်သာရှိပေလိမ့်မည်။

အတ္ထုပ္ပတ္တိများကို ဖွားသကရာဇ်စဉ်အတိုင်း ဖေါ်ပြထားသော်ငြား လည်း ဘွဲ့အမည်ဖြင့်ဖြစ်စေ, ထင်ရှားရာအနွတ္ထသညာဖြင့် ဖြစ်စေမှတ် သားခေါ်တွင်သော ရဟန်းပုဂ္ဂိုလ်များ၏ ထေရုပ္ပတ္တိများကိုအလွယ် တကူရှာဖွေတွေ့ရှိစေရန်နှင့် သညာကိုသိကဘွဲ့တော်သိနိုင်၍ ဘွဲ့တော်ကို သိက သညာကိုသိနိုင်စေရန်အလို့ငှါ ဘွဲ့တော်အက္ခရာစဉ်အညွှန်းကို၎င်း, အနွတ္ထသညာအက္ခရာစဉ်အညွှန်းကိုရင်း တပါတည်းထည့်သွင်း ဖေါ်ပြထားပေသည်။

အတ္ထုပ္ပတ္တိပါပုဂ္ဂိုလ်တို့ပြုစုသော ကျမ်းစာရင်းမှာလည်းထောက် ထားရမိစာရင်းပေါက်သမျှသာဖြစ်၍တပါးသောကျမ်းငယ်များနှင့် အ ရ အမိနည်းပါးသောကျမ်းများ၏ အမည်များကြွင်းလပ်နေကောင်းနေ မည်ဖြစ်ရာ ထင်ရှားခိုင်လုံစွာတွေ့ရှိပါက ဖြည့်သွင်းမှတ်သားရန်ပင်ဖြစ် လေသည်၊ အထူးသဖြင့်ရဟန်းတော်များ၏ ထေရုပ္ပတ္တိများတွင်ဘွဲ့မည် တူ,တံဆိပ်တော်တူ, ကျောင်းတိုက်တူ စသည်ပုဂ္ဂိုလ်ချင်း မှားယွင်း မှတ်သားမိတတ်၍ လူပုဂ္ဂိုလ်စာဆိုများအတွက်လည်း ကျမ်းမည်တူ, ဘွဲ့မည်တူအားဖြင့်မှားယွင်းမှတ်သားမိတတ်သည့်ကိုသတိမူသင့်ပေသည်၊ ဤကျမ်း၏နောက်ဆက်တွဲတွင်ဘွဲ့ရစာဆိုများ,မြို့စားရွာစားစာဆိုများ, ဘုရင့်စာဆိုများ, မင်းမှုထမ်းစာဆိုများ,စစ်မှုထမ်းစာဆိုများစသည်တို့ နှင့်ဘွဲ့တူ,အမည်တူစာဆိုများကို စာရင်းပြုလုပ် ဖေါ်ပြထားပေသေး သည်။

အတ္ထုပ္ပတ္တိ များကို စုဆောင်းရာတွင် အထူးသဖြင့် သကရာဇ် ၁၂၁၃-ခုနှစ်က မင်းလှသီရိသီဟသူစုဆောင်းခဲ့သောဆရာတော်သံဃာ တော် ၁၀၅-ပါး၏ ထေရုပ္ပတ္တိစာရင်း လက်ရေးမူ တစောင်နှင့် ပုရပိုက်မူ တစောင်ကို နိုင်ငံတော် စာကြည့်တိုက်တွင် တွေ့ရှိရပေရာ၊

ထိုကျမ်းမှာတွေ့ရှိရသမျှ အစောဆုံး အစုံဆုံးအတ္ထုပ္ပတ္တိပေါင်းချုပ်ပင် ဖြစ်ပေသည်၊ သို့ရာတွင် လူပုဂ္ဂိုလ်စာဆိုအတ္ထုပ္ပတ္တိများ မပါရှိသည့်ပြင် ဆရာတော်၁၀၅-ပါးဟု စာရင်းတင်သော်လည်း အချို့သောဆရာတော် တို့၏ ထေရုပ္ပတ္တိမှာမပြည့်စုံဘဲရှိသဖြင့် ထေရုပ္ပတ္တိ ၈၀-ကျော်မျှသာ ပါဝင်သည်ဟု ဆိုဖွယ်ရှိလေသည်၊ ထို့ပြင် အချို့သောဆရာတော်တို့၏ ထေရုပ္ပတ္တိမှာ အလွန်နည်းပါးလှ၍ ဆရာတော်အချို့၏ ထေရုပ္ပတ္တိသာ လျှင် ထိုက်သင့်သမျှ ပြည့်စုံလေသည်၊ ထို့ပြင် ပြုစုသောကျမ်းများကို ဖော်ပြခြင်း မပြုသည့်ပြင် အချို့သော ဆရာတော်များမှာ ၁၂၁၃-ခုနှစ် တွင် သက်တော်ထင်ရှားရှိနေဆဲဖြစ်သဖြင့် ပျံလွန်တော်မူသော သက္ကရာဇ် များကိုလည်း မဖော်ပြနိုင်ခဲ့ပေ၊ စင်စစ်သော် ထိုမှတ်တမ်းမှာ ရှေးခေတ် ထင်ရှားသော ဆရာတော်အချို့၏ ထေရုပ္ပတ္တိနှင့် လက်ထက်တော်တွင် ထင်ရှားသောဆရာတော်ကြီးများကို စာရင်းကောက်ယူလျှောက်ထား၍ မှတ်တမ်းတင်ထားခဲ့သော ထေရုပ္ပတ္တိအမှတ်အသားမျှသာဖြစ်၍ ပြည့်စုံ ခြင်း မရှိသည်ကို အပြစ်ဆိုဖွယ်ကားမရှိပေ၊ ထိုမျှလောက်တစုတပေါင်း တည်း စုံစမ်းရှာဖွေရေးသား မှတ်တမ်းတင်ခဲ့သည်ကိုပင် ချီးကျူး ဂုဏ်ပြု စရာရှိပေသည်၊ ထိုမှတ်တမ်းသည်ပင် ဤအတ္ထုပ္ပတ္တိပေါင်းချုပ်အတွက် ထိုက်တန်စွာ ကျေးဇူးပြုခဲ့သည်ကိုဝန်ခံပေသည်၊သုတေသန စုဆောင်းမှု ဟူသည်မှာ ထပ်မံရှာဖွေ လိုက်စားလေ ကျယ်ဝန်းပျံ့နှံ့လေ ဖြစ်ပေရာ၊ နောင်သောကာလတွင် သုတေသီတို့ ရရှိစုဆောင်းပြီး မှတ်စုမှတ်တမ်း များကို အခြေခံ၍ ဝေဘန်ဖြည့်စွက်ကြရန်သာ ရှိပေသည်။ (မင်းလှ သီရိသီဟသူ၏ မှတ်တမ်းကိုကား ရိုက်နှိပ် ထုတ်ဝေခဲ့ဘူးခြင်း မရှိချေ။)

ဤအတ္ထုပ္ပတ္တိပေါင်းချုပ်ကို ပြုစုသူသည် ဂိုဏ်းဂဏဝါဒီ, ဆရာစဉ်, ပုဂ္ဂိုလ် စသည်အားဖြင့် အဂတိတရား လိုက်စားခြင်းမရှိဘဲ ဂန္ထဝင် တစိတ်တဒေသ ပြုစုသူ၏ သန့်စင်သော မနသိကာရဖြင့် အတ္ထုပ္ပတ္တိ များကို စုဆောင်းဖော်ပြထားပေသည်၊ မြန်မာနိုင်ငံတော်တွင် သီလဝန်, ဂုဏဝန်, ကျမ်းတတ်, ကျမ်းပြု, ကျမ်းစု, စာချဆရာတော်များ, လူ ပုဂ္ဂိုလ်များ အလွန်ပင် များပြားလှသည်ဖြစ်ရာ ကြွင်းကျန်ရစ်သော ထည့်သွင်းဖော်ပြထိုက်သည့် အတ္ထုပ္ပတ္တိများရှိနေဦးမည်ကို ကောင်းစွာ နှလုံးသွင်းမိပေသည်၊ ထိုသို့ကြွင်းကျန်ရခြင်းမှာ သက်ရှိထင်ရှားပုဂ္ဂိုလ်

များ၏ အတ္တုပ္ပတ္တိများကို ချန်လှပ်ထားလိုသော မူလရည်ရွယ်ချက်နှင့် အချို့ပြည့်စုံစွာစုဆောင်းမရရှိသေးခြင်း,မထောက်မိသေးခြင်းနှင့်ကျယ်ကျယ်ပြန့်ပြန့် တာဝန်ယူဆောင်ရွက်ခွင့် မသာခြင်း စသည့်အကြောင်းများကြောင့်သာ ဖြစ်သဖြင့် ခွင့်လွှတ်နိုင်လိမ့်မည်ဟုမျှော်လင့်ရပေသည်၊ မိမိတို့စုဆောင်း ရရှိထားသော အတ္တုပ္ပတ္တိများကို ပေးပို့ခြင်း, ညွှန်ပြထောက်မခြင်းအားဖြင့် ကူညီကြပါမူကား ဝမ်းမြောက်ကျေးဇူးတင်စွာဖြင့် လက်ခံ၍ နောင်အခါပြည့်သွင်း ရိုက်နှိပ်သွားမည် ဖြစ်ပါသည်၊ ထိုသို့ကူညီကြပါရန်လည်း မေတ္တာရပ်ခံပါသည်။

ဤကျမ်းတွင်အတ္တုပ္ပတ်ဟူ၍ အမည်တပ်ထားခြင်းနှင့် ပတ်သက်၍ အနည်းငယ် ဖေါ်ပြလိုပေသေးသည်၊ ရှေးအခါကမူကား အတ္တုပ္ပတ္တိဟူသော စကားအစား ဗုဒ္ဓဖြစ်စဉ်နှင့် ထေရဝင်ဖြစ်စဉ်တို့ကို ဇာတက, ထေရာပဒါန်,အပဒါန်,အပဒါန သဒ္ဒါတို့ကိုသာသုံးနှုန်းခဲ့ကြပေသည်၊ အတ္တုပ္ပတ္တိ, အဇ္ဈုပ္ပတ္တိဟူသော စကားလုံးများ အသုံးအစွဲတွင်လာသော အခါတွင်ကား ပုဂ္ဂိုလ်အားလျော်စွာ မြတ်စွာဘုရားအတွက် ဗုဒ္ဓုပ္ပတ္တိ၊ ရဟန်းအတွက် သံဃုပ္ပတ္တိ, ထေရုပ္ပတ္တိ, သမဏုပ္ပတ္တိ, လူအတွက် ဇနုပ္ပတ္တိ, သီးခြား ပုဂ္ဂိုလ်များအတွက် မဟာဗုဒ္ဓဃောသုပ္ပတ္တိ, ရှင်ရဋ္ဌသာရုပ္ပတ္တိ စသည်ဖြင့် အတ္တသဒ္ဒါ,ဥပ္ပတ္တိသဒ္ဒါတို့ကိုစွဲ၍ ခေါ်တွင် သုံးနှုန်း ခဲ့ကြပေသည်၊ သို့ရာတွင် ပုဂ္ဂိုလ် အားလုံးအတွက် သင့်မြတ်လျော်ကန်စေရန် အတ္တုပ္ပတ္တိဟူ၍ သာမန် သုံးနှုန်းထားခြင်းကို ပါဝင်သော ရဟန်းတော်များ၏ ထေရုပ္ပတ္တိအတွက်လည်း အဂါရဝဟူ၍ သဘောမထားကြပါရန် အနူးအညွတ် မေတ္တာရပ်ခံ လိုပေသည်၊ ထိုမှတပါး လူပုဂ္ဂိုလ်များ၏အမည်နာမတွင် မောင်,ကို,ဆရာ စသည်မှအပ (ဦး)ဟူသော အခေါ်အဝေါ် ကိုလည်း သုံးနှုန်းထားသဖြင့် ရဟန်း ပုဂ္ဂိုလ်များအဘွက် ဘွဲ့တော်ရှေ့တွင်(ဦး,ဥုး)တို့ကိုမသုံးဘဲ (ရှင်)ဟူ၍ တသမတ်တည်း သုံးနှုန်းထားပေသည်၊(ရှင်,သျှင်)ဟူသော စကားလုံးတို့သည် အရှင်ဟူသော အမွန်အမြတ်အဓိပ္ပါယ်ကိုပင် ဆောင်ပေသည်၊ ရှင်နှင့်သျှင်ကိုလည်း ပတိသဒ္ဒါ, အယျသဒ္ဒါ, အာယသ္မာသဒ္ဒါ, အာဝုသော သဒ္ဒါ, ဘဒ္ဒန္တသဒ္ဒါအားလျော်စွာ ရေးထုံးခွဲခြားလိုသူများလည်း ရှိပေသည်၊ သို့ရာတွင် အရဟန္တ,အရဟန်, အရှန်, အရှင်, ရှင် ဟူဘိသကဲ့သို့ အသုံးအနှုန်းများရာသို့လိုက်၍ (ရှင်)ဟု သုံးနှုန်းထားခြင်းပင်

ဖြစ်ပေသည်၊ သာမဏေဘွဲ့ကို(ရှင်)တပ်၍၎င်း, ရဟန်းဘွဲ့ကို(ဦး)တပ်၍၎င်း အသုံးအနှုန်း စွဲမြဲလာခဲ့သဖြင့် ရဟန်းတော်များ၏ဘွဲ့တွင်(ရှင်)ကိုသုံးနှုန်းရန်ထက် (အရှင်)ကိုသုံးနှုန်းရန် စဉ်းစားမိပေသေးသည်၊ သို့ရာတွင် ပုဒ်ရှေ့ဩ (အ)ကျေ၍ သုံးနှုန်းသော သာဓက များစွာရှိသည် တကြောင်း, ရှင်သာရိပုတ္တရာ, ရှင်မောဂ္ဂလာန်, ရှင်ပဉ္စကဗုဒ္ဓါ, ရှင်အရဟန် ဟူ၍ အရှင်နှင့်ရှင်ကို အနက် အကွဲအပြားမရှိ သုံးစွဲရိုးရှိသည် တကြောင်း- အက္ခရာ အတိုနည်း ခေါ်မှတ် လွယ်ကူစေရန် အတွက် တကြောင်း, ထိုအကြောင်း များကြောင့် (ရှင်)ဟူသော အသုံးအနှုန်းဖြင့် ဘွဲ့တပ်ထားသည်ကိုလည်း အဂါရဝဟူ၍ သဘောမမှတ်ယူကြစေရန် မေတ္တာရပ်ခံလိုပေသည်၊ (ရှေးက သဃ်ာကြီးကို- သင်ကြီး၊ သခင်ကြီးကို-ခင်ကြီး ဟူ၍ အရိုအသေမပျက် အတိုခေါ်ဝေါ် သုံးစွဲထုံးလည်းရှိပေသည်။)

၍ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ အတ္ထုပ္ပတ္တိသည် စာပေလေ့လာလိုက်စားသူများနှင့် ပုဂ္ဂိုလ်ချွန်များ အကြောင်းကို မပျောက်မပျက်သိလိုမှတ်သားထားလိုသော သူတော်သီတို့အတွက် အထောက်အပံ့ တခုရစေရန်အတွက်ပင် ရည်ရွယ်ပေသည်၊ ပုဂ္ဂိုလ်တိုင်းသည် အချိန်ကုန်ခံ၍ စာနှံ့အောင် တပင်တပန်း ရှာဖွေလေ့လာခြင်းပြုနိုင်မည် မဟုတ်ပေရာ ထိုထိုသော ပုဂ္ဂိုလ်များအတွက် အချိန်သက်သာစွာဖြင့် လွယ်လင့်တကူ တစုတပေါင်း တည်းလေ့လာသိမှတ်ခွင့် ရကြမည်ဆိုလျှင် ၍ကျမ်းပြုစုသူအဖို့ ကျေနပ်ဝမ်းမြောက်လိမ့်မည် ဖြစ်ပေသည်၊ ယခုခေတ်ကဲ့သို့သော စာအုပ်စာတမ်း မှတ်စုမှတ်ရာ ရှားပါးသည့်ကာလ,အချိန်ကိုလု၍ လုပ်ကိုင်ဆောင်ရွက် နေကြရသော ကာလနှင့် အတိတ်၏အမွေကိုလက်လှမ်းမှီသမျှ နောက်မကျမီ ရတန်သမျှစုဆောင်းသိုမှီး ထိန်းသိမ်းအပ်သည့်ကာလတွင် ၍အတ္ထုပ္ပတ္တိပေါင်းချုပ်ကျမ်းသည် ဂန္ထဝင်ဗိမာန်အတွက် အုတ်ကောင်းတချပ်သဖွယ် အထောက်အပံ့ပြုနိုင်လိမ့်မည်ဟု မျှော်လင့်မိပေသည်။

၍ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များအတ္ထုပ္ပတ်ကို စုဆောင်းရှာဖွေရာတွင် အကူအညီ ပေးခဲ့ကြသော ရှင်ရေဝတ(ဒုတိယ ဝိသုဒ္ဓိမဂ်ဆရာတော် သာသနာ့မာရ်အောင် ကမ္ဘဋ္ဌာန်းတိုက်ကမာရွက် ရန်ကုန်)ယဉ်ကျေးမှု

ဝန်ကြီးဌာန အတွင်းဝန်ဟောင်း ဦးဖိုးလတ် မဟာဝိဇ္ဇာ, ဦးအုန်းရွှေ ဆဋ္ဌပိဋကတ်တော် မြန်မာပြန်ဌာန အတွင်းရေးမှူး, ဦးခင်စိုး သာသနဓဇသီရိပဝရ ဓမ္မာစရိယနှင့် ဟံသာဝတီ ပါဠိဆရာများအပြင် အခြားအမည်မဖော်ပြနိုင်သော ပုဂ္ဂိုလ်များနှင့် ကိုးကားရာကျမ်းများကိုပြုစုတော်မူခဲ့ကြသောကျမ်းပြုပုဂ္ဂိုလ်အသီးသီးတို့အားလည်း ကျေးဇူးတင်ရှိကြောင်း ဖော်ပြအပ်ပါသည်၊ ထိုမှတပါး ဤအဘိဓာန်ကျမ်းကို တစောင်တဖွဲ့အဖြစ် ရိုက်နှိပ်ထုတ်ဝေနိုင်သည်အထိ စာပေ၏အကျိုးသက်သက်ကို ရှေးရှုစေတနာထားကာ အားပေးကူညီသော ဟံသာဝတီ ဦးဘခင်အားလည်း အထူးတလည်ကျေးဇူးတင်ရှိကြောင်း ဖော်ပြအပ်ပါသည်။

လှသမိန်
၁၀-၁၀-၆၁

# ညွှိနှိုင်းကိုးကားသောကျမ်းများ

အဓိကအားဖြင့် ထောက်ထားညှိနှိုင်းရာဖြစ်သော
ကျမ်းစုမျှ လောက်သာ ဖော်ပြပါသည်။

၁။ ကဗျာ့ကြေးမုံ၊ ပိဋကတ်ကြေးမုံ၊ (ရှင်နိဂြောဓ) မိဘဂုဏ်ပုံနှိပ်တိုက်၊ မိတ္ထီလာမြို့၊ ၁၃၁၆။

၂။ ကဗျာဗန္ဓသာရ (ပုဂံဝန်ထောက်ဦးတင်) ၁၂၅၄-ကျမ်းပြီး၊ အမျိုးသားပုံနှိပ်တိုက်၊ ရန်ကုန်။

၃။ ကဗျာသာရတ္ထ သင်္ဂြိုဟ်၊ (ဆရာလွှမ်း) ၁၂၇၂-ကျမ်းပြီး ကျော်လင်းပုံနှိပ်တိုက်၊ ရန်ကုန်။

၄။ ကဗျာသင်္ဂဟမေဒနီ၊ (ရှင်ဇေယျပုလ္လနှင့်ရှောဘတ်မောင်လွှင်) အထက်မြန်မာနိုင်ငံသတင်းစာမီးစက်ပုံနှိပ်တိုက်၊ ၁၂၇၀။

၅။ ကဗျာသေတ္တုကျမ်း၊ (ဆရာတင်) သစ္စဝါဒီသတင်းစာတိုက်၊ ရန်ကုန်၊ ၁၂၉၀။

၆။ ကလျာဏီကျောက်စာ၊ (ရှင်ရာဇိန္ဒ) သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၀၀။

၇။ ကဝိမဏ္ဍနမေဒနီ၊ (ဆီးပန်းနီဆရာတော်) ရတနာသိဒ္ဓိပုံနှိပ်တိုက်၊မန္တလေးမြို့၊ ၁၂၆၉။

၈။ ကဝိရတနာကျမ်း၊(ဝန်ထောက်ဦးမြစ်)မောရဝတီသတင်းစာတိုက်၊ရန်ကုန်၊ ၁၂၈၉။

၉။ ကဝိလက္ခဏာဒီပနီ၊ (မြောင်လှမြို့စား) ၁၂၂၇-ကျမ်းပြီး သံတော်ဆင့်မီးစက်ပုံနှိပ်တိုက်၊ မန္တလေး၊ ၁၂၄၂။

၁၀။ ကဝိသေနင်္ဂဗျူဟာ၊ (ဦးအောင်) ၁၂၇၄-ကျမ်းပြီး၊အမျိုးသားပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၇၃။

၁၁။ ကောဏ္ဍညထေရာပဒါန်၊ (ရှင်အာစိဏ္ဏ) ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၁၉။

၁၂။ ကုန်းဘောင်မဟာရာဇဝင်တော်ကြီး၊ (ဦးတင်)မန္တလေးတိုင်းသတင်းစာပုံနှိပ်တိုက်၊ ၁၂၆၇။

၁၃။ ကျပင်းတရားစာ၊ပ-ဒု၊ (ကျပင်းဆရာတော်) ခေတ်စာပုံနှိပ်လုပ်ငန်း၊ ရန်ကုန်၊ ၁၃၁၀။

၁၄။ ကျည်းပင်ပု အုတ်ကျောင်းဆရာတော်ထေရုပ္ပတ္တိ၊ (ရှင်ပဏ္ဍိစ္စ) ဇေယျာဘုမ္မိပုံနှိပ်တိုက်၊ စလင်းမြို့၊ ၁၃၁၉။
၁၅။ ကြေးသီးကုန်းမဟာထေရုပ္ပတ္တိ၊ (ရှင်ဇနိန္ဒ) ရတနာဒီပပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၂၉၂။
၁၆။ ခင်ကြီးဖျော်အတ္ထုပ္ပတ္တိ၊ (ကန်တော်မင်းကျောင်းဆရာတော်) ၁၂၆၇-ကျမ်းပြီး၊ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်။
၁၇။ စတုရာရက္ခကျမ်း၊ (သင်္ဂဇာဆရာတော်) ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊၁၃၁၆။
၁၈။ စွန်းလွန်းဆရာတော်ထေရုပ္ပတ္တိ၊ (ရှင်သောဘဏ) လယ်တီမဏ္ဍိုင်ပုံနှိပ်တိုက်။ ရန်ကုန်၊ ၁၃၁၉။
*၁၉။ ဆရာတော်သံဃာတော် ၁၀၅-ပါးစာရင်း၊ (မင်းလှသီရိသီဟသူ)၁၂၁၃-ကျမ်းပြီး၊ (လက်ရေးမူနှင့်ပုရပိုက်မူ) နိုင်ငံတော်စာကြည့်တိုက်၊ ရန်ကုန်။
၂၀။ ညောင်ကန်သာသနာဝင်၊ (ရှင်သုဒဿန) လူထုပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၃၂၁။
၂၁။ ညောင်ရမ်းဝိဘာဝနီကျမ်း၊ (ရှင်လက္ခဏ) မာလာမြိုင်ပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၃၁၀။
၂၂။ ညောင်လွန့်တောရထေရုပ္ပတ္တိ၊ (တပည့်များ) ဇမ္ဗူမိတ်ဆွေပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၁၆။
၂၃။ တောဝေးကန်မဟာထေရုပ္ပတ္တိ၊ (လယ်တီရှင်မဟိန္ဒ) သုခဝတီပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၃၀၃။
၂၄။ တော်စိန်ခိုအတ္ထုပ္ပတ္တိစာတမ်း၊ (ပုဂံ ဝန်ထောက် ဦးတင်) မြန်မာ့တာရာသတင်းစာတိုက်၊ မန္တလေးမြို့၊ ၁၂၉၂။
၂၅။ တောင်တွင်းကြီးရာဇဝင်၊(ရှင်ဉာဏ) မြန်မာ့ယူနီယံပုံနှိပ်တိုက် ရန်ကုန်၊ ၁၂၉၀။
၂၆။ ထေရုပ္ပတ္တိကထာ၊မစိုးရိမ်ရှင်သုဇာတ-(ရှင်ကဝိပိယ) ခေတ်ပုံနှိပ်လုပ်ငန်း၊ ရန်ကုန်၊ ၁၃၁၀။

---

*နိုင်ငံတော်စာကြည့်တိုက်ရှိ ထင်ရှားသူတို့အကြောင်းနှင့် ထင်ရှားသူတို့အတ္ထုပ္ပတ်ပုရပိုက်နှစ်ဆူမှာကား ဂန္ထဝင်ပုဂ္ဂိုလ်များ၏အတ္ထုပ္ပတ္တိများမဟုတ်ချေ။

၂၇။ ဒါ်းပိန်ဆရာတော်ထေရုပ္ပတ္တိကထာ၊(ရှင်စန္ဒဇောတိ) သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၂၁။
၂၀။ ဒုတိယမဟာရာဇဝင်တော်ကြီး၊(ပညာရှိများ) မန္တလေးတိုင်းသတင်းစာပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၂၇၁။
၂၉။ ဒက္ခိဏာရာမဘုရားကြီးတိုက် သာသနာဝင်၊ (ရှင်ဇနိတာဘိဝံသ)လှခင်အင်ဆန်းပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၃၀၉။
၃၀။ ဒက္ခိဏာရာမိကမဟာထေရုပ္ပတ္တိ၊ (ကျောင်းကုန်းဆရာတော်) သုခဝတီပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၃၁၀။
၃၁။ နန်းစဉ်ပုစ္ဆာအမေး,အဖြေကျမ်း၊ (ရှင်အတုလယသ) ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၇၇။
၃၂။ ပခန်းဆရာတော်ထေရုပ္ပတ္တိ၊(ရှင်သဒ္ဓမ္မ-ရှင်ဉာဏ-ရှင်ဇာဂရ) ၁၃၀၂-ကျမ်းပြီး၊ သီရိမင်္ဂလာပုံနှိပ်တိုက်၊ ပခုက္ကူမြို့။
၃၃။ ပရိယတ္တိ သာသနဟိတအသင်း နှစ်ငါးဆယ် မြောက်သကျသီဟမဓမ္မာစရိယ ဆရာတော်များအတ္ထုပ္ပတ္တိ၊ သုခဝတီပုံနှိပ်တိုက်၊မန္တလေးမြို့၊ ၁၃၁၀။
၃၄။ ပိဋကတ်သမိုင်း၊ (မိုင်းခိုင်းမြို့စား) ၁၂၅၀-ကျမ်းပြီး၊ သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၆၇။
၃၅။ ပိဋကတ်သုံးပုံစာတမ်း၊(လယ်တီဝဏ္ဏိတ) ဇမ္ဗူမိတ်ဆွေပုံနှိပ်တိုက်၊ရန်ကုန်၊ ၁၃၀၂။
၃၆။ ပိမိုးနင်း၊(ပိမိုးနင်း) ဂျာနယ်ကျော်ပုံနှိပ်တိုက်၊ရန်ကုန်၊ ၁၃၀၂။
၃၇။ ပေါရာဏဒီပနီကျမ်း၊ ပ၊ ဒု၊ (မော်ဝိဆရာသိန်း) ၁၂၅၇ ကျမ်းပြီး၊ ဇေတုဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၅၇။
၃၀။ ပဏ္ဍိတဝေဒနီယကျမ်း၊ (ရှင်တိလောက) ၁၂၆၇-ကျမ်းပြီး၊ ဂန္ဓမာပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၁၉။
၃၉။ ဗဟန်ကျောင်းရှင်ကဝိဓဇထေရုပ္ပတ္တိ၊ (ရှင်စန္ဒာဝရာဘိဝံသ) ဒေလီးဂေဇက်ပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၂၂။
၄၀။ ဗြိတိသျှပြတိုက်ရှိ မြန်မာစာအုပ်များစာရင်း (အယ်ဒီဘားနက်) ဝီလျံကလောဝစ်ပုံနှိပ်တိုက်၊ လန်ဒန်၊၁၂၇၅၊ (အင်္ဂလိပ်ဘာသာ။)

၄၁။ ဘုရားကြီးမဟာထေရုပ္ပတ္တိစာတမ်း၊ (ရှင်ပဏ္ဍိတဓဇ) သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၂၂။
၄၂။ ဘုရားဖြူမဟာထေရုပ္ပတ္တိဒီပနီ၊ (ဦးကြီးဖေ-ဦးဖေမြင့်) ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၀၂။
၄၃။ ဘိုးဝဇီရစာပေ၊ (စန်းယုအောင်) သမတစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၃၁၅။
၄၄။ ဘုန်းတော်ကြီးဦးသီလထေရုပ္ပတ္တိ၊ (ရှင်အရိယ) ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၃၂၀။
၄၅။ မဏိရတနာပုံကျမ်း၊ (ရှင်စန္ဒလင်္ကာ) ၁၁၄၃-ကျမ်းပြီး၊ ဟံသာဝတီပုံနှိပ်တိုက်၊ရန်ကုန်၊ ၁၂၈၉။
၄၆။ မဟာဆွေ၊ (မဟာဆွေ) သွေးသောက်ပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၁၅။
၄၇။ မဟာထေရုပ္ပတ္တိကထာ၊ မင်းကျောင်းဆရာတော်၊ (ရှင်နန္ဒမာလာ) ရတနာသိဒ္ဓိပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၃၀၁။
၄၈။ မဟာထေရုပ္ပတ္တိကထာ၊ မန်လည် ဆရာတော်၊ (လယ်တီပဏ္ဍိတ) ၁၂၈၁-ခုကျမ်းပြီး၊လက်ရေးမူ။
၄၉။ မဟာထေရုပ္ပတ္တိကျောက်စာ၊ ဝဇီရာ ရာမဆရာတော်၊ (ရှင်ဝါသဝ) ရတနာသိဒ္ဓိပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၂၇၂။
၅၀။ မဟာထေရုပ္ပတ္တိဝိဘာဝနီ၊ ငွေတောင်ဆရာတော်၊(ရှင်သူရိယာဘိဝံသ) ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၉၃။
၅၁။ မဟာပဒုမာရုံထေရုပ္ပတ္တိ၊(ရှင်သူရိယ) သီဝံသညာပုံနှိပ်တိုက်၊ ရေဦးမြို့၊ ၁၃၁၄။
၅၂။ မဟာရာဇဝင်တော်ကြီး၊ ပ၊ ဒု၊ တ၊ (ဦးကုလား) ဟံသာဝတီပုံနှိပ်တိုက်၊ ၁၃၂၃။
၅၃။ မဟာဝိသုတာရာမထေရုပ္ပတ္တိဒီပနီ၊ (ရှင်နန္ဒိယ) သီရိမင်္ဂလာပုံနှိပ်တိုက်၊ ပခုက္ကူမြို့၊ ၁၃၁၄။
၅၄။ မဟာဝိသုဒ္ဓါရာမိက ထေရုပ္ပတ္တိဒီပနီနိသျ၊ (လယ်တီပဏ္ဍိတ) ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၆၉။
၅၅။ မင်္ဂလသုတ်ပျို့ဋီကာ၊ (ရှင်ဥတ္တမဗုဒ္ဓိ) တိုးပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၉၅။

၅၆။ မောင်းထောင်ရှပ်လုံးဖေါ်ဋီကာ၊ (မောင်းထောင်ဦးပဋ္ဌင်း) သုခဝတီပုံနှိပ်တိုက်၊ မန္တလေး၊ ၁၃၁၃။
၅၇။ မြန်မာစာညွှန့်ပေါင်းကျမ်း၊ ပ၊ ဒု၊ တ၊ စ။ (ဦးကျော်ထွန်း စုဆောင်းသည်)နိုင်ငံတော်အစိုးရပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၉၁-၉၃။
၅၈။ မြန်မာ စာပေသမိုင်း၊ (ဦးဖေမောင်တင်) ဇမ္ဗူ့မိတ်ဆွေ ပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၀၀။
၅၉။ မြန်မာမင်းအုပ်ချုပ်ပုံစာတမ်း၊ ပ၊ဒု၊တ၊စ၊မ၊ (ပုဂံဝန်ထောက် ဦးတင်) နိုင်ငံတော်အစိုးရပုံနှိပ်တိုက်၊ရန်ကုန်၊ ၁၂၉၃-၉၅။
၆၀။ မြန်မာပညာယှိကြီးများ (မော်ပီဆရာသိန်း) ၁၂၉၉-ကျမ်း ပြီး၊ ပညာအလင်းပြတိုက်၊နတ်တလင်းမြို့။
၆၁။ မှန်နန်းမဟာရာဇဝင်တော်၊ ပ-ဒု-တ-(ပညာရှိများ) မိဘဂုဏ် ပုံနှိပ်တိုက်၊မိတ္ထီလာမြို့၊၁၃၁၀။
၆၂။ ယောအတွင်းဝန် ဦးဘိုးလှိုင်အတ္ထုပ္ပတ္တိ၊ (ဦးတင်အုန်း) ယုဝ ရောင်စုံပုံနှိပ်တိုက်၊မန္တလေးမြို့၊၁၃၂၂။
၆၃။ ရှင်ဉာဏထေရုပ္ပတ္တိ၊ (ရှင်ပညာဝံသ) ဂုဏဝတီ ပုံနှိပ်တိုက်၊ မန္တလေးမြို့၊၁၂၂၉။
၆၄။ ရှင်မဟာသာမိထေရုပ္ပတ္တိ၊ ဆင်မကျွန်း၊ (မောင်စံတင်) ကဝိ မဟိန်ပုံနှိပ်တိုက်၊ရေနံချောင်းမြို့၊ ၁၃၁၇။
၆၅။ ရှင်နာဂိတအတ္ထုပ္ပတ္တိ၊ (ဦးသိန်းဟန်) သုခဝတီပုံနှိပ်တိုက်၊ မန္တလေးမြို့၊၁၃၁၀။
၆၆။ ရှင်သီလဝံသ,ရှင်ရဋ္ဌသာရတို့၏အတ္ထုပ္ပတ္တိ၊ ပေမူ၊ နိုင်ငံတော် စာကြည့်တိုက်၊ရန်ကုန်။
၆၇။ ရွှေကျင်ဆရာတော်ထေရုပ္ပတ္တိ၊ (ရှင်ဝိမလ) ဟံသာဝတီပုံနှိပ် တိုက်၊ ရန်ကုန်၊၁၂၀၀။
၆၈။ ရွှေခုံတိုင်ထေရုပ္ပတ္တိစာတမ်း၊ (=) ရန်ကုန်တံဆိပ်ထုပုံနှိပ် တိုက်၊၁၂၇၀။
၆၉။ ရွှေလှံမဟာထေရုပ္ပတ္တိဒီပက၊(ရှင်မဏ္ဍလ)ရတနာပုံပုံနှိပ်တိုက်၊ မန္တလေးမြို့၊၁၂၉၀။

၇၀။ ရွှေဟင်္သာတောရသမိုင်း (ရှင်ပဏ္ဍိတ) ကုသလဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၁၉။
၇၁။ လောကုပ္ပတ္တိပကာသနီ၊ (ဦးဘိုးဖြူ) ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၀၀။
၇၂။ လက်ဝဲနော်ရထာ အမေး၊ တောင်တွင်းသာသနာပိုင်အဖြေ၊ ကဝိန္ဒာသီရိပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၆၂။
၇၃။ လဍ္ဍုဂဟဏဒေါသဒီပနီ၊ (ညောင်ရမ်းဆရာတော်) သုခဝတီပုံနှိပ်တိုက်၊ မန္တလေး၊ ၁၃၀၄။
၇၄။ လယ်တီမဟာ ထေရုပ္ပတ္တိကထာ၊ (အယ်ဒီတာ မောင်ရွှေ) ပညာအလင်းသတင်းစာတိုက်၊ ၁၂၀၅။
၇၅။ လယ်တီမဟာထေရုပ္ပတ္တိကထာ၊ (လယ်တီဝဏ္ဏိတ) ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၁၀။
၇၆၊ ဝိသုဒ္ဓါရုံထေရုပ္ပတ္တိပါဠိနိသျ၊ (ရှင်စာတုရ) ဂုဏဝတီပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၂၇၀။
၇၇။ ဝေါဟာရလိနတ္ထဒီပနီ၊ (လှေသင်းဝန်) ၁၁၉၂- ကျမ်းပြီး၊ မြန်မာ့တာရာသတင်းစာတိုက်၊ မန္တလေးမြို့။
၇၀။ ဝံသဒီပနီ (ရှင်ပရမ) မင်္ဂလာဇေယျုံပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၇၀။
၇၉။ သာသနဗဟုဿုတပကာသနီ (ရှင်ရာဇိန္ဒ) ဒိးဒုတ်သတင်းစာပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၂၉၀။
၀၀။ သာသနာလင်္ကာရကျမ်း၊ (သီရိမဟာနန္ဒသကြ်န်) ၁၁၉၃၊ ကျမ်းပြီး၊ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၁၀။
၀၁။ သာသနာလင်္ကာရဆရာတော် (ရှင်နန္ဒသာမိ) ဖြစ်တော်စဉ် ထေရုပ္ပတ္တိကထာ၊ (ရှင်ဇာနန္ဒာစာရာဘိဝံသ) ဘီအီးတီပုံနှိပ်တိုက် ရန်ကုန်၊ ၁၃၁၅။
၀၂။ သာသနာဝင်ကျမ်း၊ (မောင်းထောင်) နေရှင်း ရှင်ကောဝိဒ၊ (မြန်မာပြန်) သာရသင်္ဂဟပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၀၂။
၀၃။ သာသနဝံသဒီပနီ (ရှင်သီရိသောဘဏ) ၁၂၉၂-ကျမ်းပြီး၊ ဂန္ဓမာပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၃၁၇။

၇၄။ သီလဝိသောဓနီ(ရှင်ဝိနန္ဒာသဘ)၁၁၉၉-ကျမ်းပြီး၊ ဟံသာဝတီပုံနှိပ်တိုက်၊၁၂၆၀။

၇၅။ သီလာစာရထေရုပ္ပတ္တိကထာ (ရှင်ဇောတိပါလ) သုဓမ္မဝတီပုံနှိပ်တိုက်၊မန္တလေးမြို့၊၁၃၁၄။

၇၆။ သင်္ဂဇာစကားပုံပေါင်းချုပ်၊ (ဆရာသိန်း) ဟံသာဝတီပုံနှိပ်တိုက်၊ရန်ကုန်၊၁၃၁၄။

၇၇။ သဒ္ဓမ္မဇောတိကာရာမိကဖြစ်တော်ပုံအစဉ်(ရှင်ပညာနန္ဒ)ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ရန်ကုန်၊၁၂၉၇။

၇၈။ အဘယာရာမထေရုပ္ပတ္တိ၊ (ရှင်ကုဏ္ဍလ၊ ရှင်ဝါသေဋ္ဌ၊ရှင်စန္ဒဇောတိ၊)သုဓမ္မဝတီပုံနှိပ်တိုက်၊ ၁၃၂၀။

၇၉။ အဘိဓာနတ္ထဝိသောဓနီ၊ (လှေသင်းဝန်) ၁၂၁၂-ကျမ်းပြီး၊ တိုးစာပုံနှိပ်တိုက်၊ရန်ကုန်။

၈၀။ အဘိဓာန်နိသျ(ပထမကျော်အောင်စံထားဆရာတော်)သုဓမ္မဝတီပုံနှိပ်တိုက်၊ရန်ကုန်၊၁၂၈၀။

၈၁။ အမျိုးသမီးစာဆိုတော်များ (ဒေါ်မမကြီး) မြန်မာ့ဂုဏ်ရည်ပုံနှိပ်တိုက်၊ရန်ကုန်၊၁၂၉၅။

၈၂။ အလင်္ကာနိသျသစ်၊(ရွှေဟင်္သာတောရဆရာတော်) သုဓမ္မဝတီပုံနှိပ်တိုက်၊၁၃၁၇။

၈၃။ အင်္ဂပူမဟာထေရုပ္ပတ္တိ (ကန်တွင်းဆရာတော်) သုဓမ္မဝတီပုံနှိပ်တိုက်၊ရန်ကုန်၊၁၃၁၇။

၈၄။ အင်ရုံစာတမ်း၊ (ဝန်ကြီးသီရိဥဇ္စနာ) ပညာနန္ဒ ပုံနှိပ်တိုက်၊ ရန်ကုန်၊၁၃၂၀။

၈၅။ ဦးကျော်ရှိန်အတ္ထုပ္ပတ္တိ(—)တိုင်းချစ်မြန်မာ သတင်းစာတိုက်၊ မန္တလေးမြို့၊ ၁၂၇၃။

၈၆။ ဦးပုညအတ္ထုပ္ပတ္တိ၊ (နေဘ်ရထာသီရိ) သမဝါယမဟိတပုံနှိပ်တိုက်၊ မန္တလေးမြို့။

၈၇။ ဦးပုညအတ္ထုပ္ပတ္တိမူကျယ်၊ (ဆရာတင်) ၁၂၇၀-ကျမ်းပြီး၊ သာသနာလင်္ကာရပုံနှိပ်တိုက်၊ရန်ကုန်၊ ၁၃၁၇။

၉၀။ ဦးသီလအရှင်မြတ်၏ ထေရုပ္ပတ္တိစာတမ်း၊ (ပဲခူးဆရာဖူး) ဟံသာဝတီပုံနှိပ်တိုက်၊ ၁၂၆၃။

ပုံနှိပ်တိုက်များမှ ရိုက်နှိပ်ထုတ်ဝေသော ကျမ်းစာရင်းဟောင်းများ။

သတင်းစာ, ဂျာနယ်, မဂ္ဂဇင်း, မှတ်စုဟောင်းများနှင့် အခြားကျမ်းပေါင်းများစွာမှလည်း ထုတ်နုတ်စုဆောင်းကိုးကားအပ်ကြောင်း ဝန်ခံပါသည်။

---

# မာတိကာ

## ပဉ္စမပိုင်း-ရဟန်းတော်များ

သက္ကရာဇ်စဉ်အတိုင်း

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

* ဦးရေစာရင်း၌ ၁၂၂-အမှတ်စဉ် ကျန်နေပါသည်၊ ၎င်းအမှတ်ကို မချန်လှပ်ဘဲ တဆက်တည်းမှတ်ယူကြပါရန်။

* နောက်ဆက်တွဲပါ ပုဂ္ဂိုလ်များကို အထက် မာတိကာတွင် ဆိုင်ရာ သက္ကရာဇ်စဉ်အတွင်း၌ ဖြည့်သွင်းမှတ်ယူရန် ဖြစ်ပါသည်။

## ဒုတိယပိုင်း-လူပုဂ္ဂိုလ်ကျော်များ

*ရှင်ကရဝိကကို ရဟန်းပုဂ္ဂိုလ်ကျော်များစာရင်းတွင် ပြောင်းလဲထည့်သွင်း မှတ်ယူပါ။

†ဦးဖျော်ကိုသက္ကရာဇ်စဉ်အရ ဝဏ္ဏဓမ္မကျော်ထင်နှင့်ဦးညိုအကြားတွင် ထည့်သွင်းမှတ်ယူပါ။

# ပဉ္စမပိုင်း

# ရဟန်းတော်များ



အစ္ဆုပ္ပတ်စဉ်

ဆရာစဉ်ဆက်



# ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ

## အတ္ထုပ္ပတ်

နမော တဿ ဘဂဝတော အရဟတော
သမ္မာသမ္ဗုဒ္ဓဿ။

### ၁။ ရှင်ဓမ္မဝိလာသ
(၄၂၁–၅၀၁)

ရှင်ဓမ္မဝိလာသမှာ ပုဂံခေတ်တွင်ထင်ရှားသော ကျမ်းပြုဆရာတော်တပါးဖြစ်လေသည်။

သကရာဇ် ၄၂၁– ခုနှစ် ဝါဆိုလဆန်း ၇-ရက် သောကြာနေ့တွင် ဒလမြို့နယ် ပဋိပ္ပဇေယျရွာ၌ ဦးတိုက်- ဒေါ်လုံမကလေးတို့မှ ဖွားမြင်ရာ ငယ်မည်မှာ မောင်သန့်စင် ဖြစ်လေသည်။

အသက် ၅-နှစ်မျှအရွယ်တွင် မိဘများက အညာသို့ဆန်တက်ကြ၍ ထီးလှိုင်ရွာတွင်ခိုမှီနေထိုင်လေသည်၊ အသက် ၆-နှစ်အရွယ်တွင် ထီးလှိုင်ရွာဆရာတော်ထံ၌သာမဏေဝတ်ရာဘွဲ့အားဖြင့် သာရိပုတြာဟု တွင်လေသည်၊ မောင်သန့်စင်သည် ပုဂံမြို့ ရွှေကျောင်း ဆရာတော်ထံ၌ ဆက်လက်သင်ကြားပြီး ရဟန်းဘောင်သို့ တက်ရောက်လေသည်။

အလောင်းစည်သူမင်းလက်ထက်တွင် ရှင်သာရိပုတြာအား မွန်တို့ပြည်သို့ သာသနာပြုစေလွှတ်လေသည်၊ သကရာဇ် ၄၅၄-ခု နှစ်တွင်

ဆရာတော်သည် မနုရင်းမွေ့သတ်ကို ချွတ်ကာ မွေ့သတ်ကျမ်းသစ်စီရင်၍ ဘုရင်မင်းမြတ်ထံပို့အပ်ရာနှစ်သက်၍ မနုဝိလာသမွေ့သတ်ဟု အမည်ပေးကာ ဆရာတော်အားလည်း မနုဝိလာသထေရ်ဟု ဘွဲ့တော် ဆက်ကပ်လေသည်။

နောင်တွင် ထိုဘွဲ့အတိုင်းပင် ရှင်မနုဝိလာသ ဟု တွင်လေသည်၊ ဆရာတော်သည် ၅၀၁-ခုနှစ်တွင် ပျံလွန်တော်မူလေသည်။

---

## ၂။ ရှင်အဂ္ဂဝံသ (ပုဂံဆရာတော်)
(၅၀၀-ခန့်)

ရှင်အဂ္ဂဝံသဆရာတော်မှာ ပုဂံခေတ် အလောင်းစည်သူမင်းကြီး လက်ထက်တွင် မင်းဆရာဖြစ်သော ဆရာတော်ဖြစ်လေသည်၊ ထိုဆရာတော်၏ဦးလေးမှာ လောကုပ္ပတ္တိပကာသနီကျမ်းဆရာ ရှင်အဂ္ဂပဏ္ဍိတ ဖြစ်လေသည်၊ ထိုဆရာတော်မှာ တတိယအဂ္ဂပဏ္ဍိတ ဘွဲ့ရလေသည်၊ ဦးလေးဆရာတော်မှာ ဒုတိယအဂ္ဂပဏ္ဍိတဖြစ်၍ ဦးလေးဆရာတော်၏ ဆရာမှာ ပဌမအဂ္ဂပဏ္ဍိတဖြစ်လေသည်။

ရှင်အဂ္ဂဝံသဆရာတော်သည် ပိဋကတ်ကို မွှေနှောက်၍ သီဟိုဠ်နှင့် ဥရောပတိုက်တခွင်၌ ထင်ရှားကျော်ကြားသော သဒ္ဒနီတိကျမ်းကြီးကို ပြုစုနိုင်ခဲ့သဖြင့် အထူးထင်ရှားသည့်ပြင် မြန်မာစာပေသမိုင်းတွင် သဒ္ဒါကျမ်းတတ်ပုဂ္ဂိုလ်ကျော် ၄-ပါးအနက် တပါးအပါအဝင်ဖြစ် လေသည်။

ထိုဆရာတော် ပြုစုခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ သဒ္ဒနီတိပဒမာလာ။ (၅၁၆)။
၂။ သဒ္ဒနီတိသုတ္တမာလာ။
၃။ သဒ္ဒနီတိဓာတုမာလာ။

---

## ၃။ ရှင်သီလဝံသ (တောင်တွင်းဆရာတော်)
(၁၀၅–၈၈၀)

ရှင်သီလဝံသသည် အင်းဝခေတ်တွင်ထင်ရှားသော ကျမ်းဂန်တတ်ဆရာတော်တပါးဖြစ်လေသည်၊သကရာဇ်၈၁၅-ခုနှစ်တွင် တောင်တွင်းကြီးမြို့မြောက်ဘက်*မြို့လုလင်ရွာ ဦးကြည်-အမိနတ်ထိမ်းကြီးဒေါ်ဒွေးတို့မှ ဖွားမြင်သည်။

ငယ်စဉ်က တောင်တွင်းကြီးမြို့ ၄က်ပစ်တောင် နတ်မီးလင်းဆရာတော်ထံတွင် ပညာသင်ကြားတတ်မြောက်၍ ရဟန်းပြုပြီးနောက် အင်းဝသို့ ကြွသွားရာ အင်းဝဘုရင် မင်းခေါင်က ရတနာဗိမာန်ကျောင်းကို ဆောက်လုပ်၍ လှူဒါန်းကိုးကွယ်လေသည်။

ဆရာတော်သည် ရှင်မဟာရဋ္ဌသာရနှင့် အပြိုင် စာဆိုဖက်ဖြစ်၍ "သဒ္ဒါမှာ ရှင်မဟာကစ္စည်း၊ကဗျာမှာ ရှင်မဟာသီလဝံသတည်း"ဟူ၍၎င်း၊ "ပါရမီမသိနှင့်"ဟူ၍၎င်း၊ "တောင်းကိုမဖေါက်၊ တောင်ကိုဖေါက်သည်၊ စိန်ကျောက်အသွင်၊ သီလဝင်"ဟူ၍၎င်း၊ အစဉ်အဆက်ချီးကျူးခြင်းခံရလေသည်။

ဆရာတော်သည် ပျို့ကဗျာလင်္ကာများကို နက်နဲဆန်းကြယ်စွာ ဖွဲ့ဆိုနိုင်စွမ်းရှိလေသည်၊ ဆရာတော်သည် တောင်တွင်းကြီးမြို့သို့ ပြန်၍ကြွသွားပြီးနောက် သကရာဇ်† ၈၈၂-ခုနှစ် ဓမ္မပါလပျို့ကို ရေးဆဲမပြီးမီ သက်တော် ၆၇-နှစ်တွင် ပျံလွန်တော်မူသည်။

ဆရာတော် ရေးသားပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

---

* မောင်းတိုင်ရပ်၊ ဦးရွှေလှ-ဒေါ်ပိုဟူ၍ တောင်တွင်းကြီးရာဇဝင်၌ဖေါ်ပြသည်။

† ကဝိသေနင်္ဂဗျူဟာကျမ်း ၂၀၉-၂၂၅-တွင် ရှင်ဥတ္တမကျော် ဒုတိယအကြိမ် ၈၈၂-ခုနှစ်၌ အင်းဝသို့ကြွစဉ်က ရှင်သီလဝံသကို တွေ့ရှိသေးသည်ဟု၎င်း၊ ၈၈၈-ခုနှစ်တွင် ရှမ်းတို့ရန်ကြောင့် အင်းဝပျက်ရာ ရှင်သီလဝံသတောင်တွင်းကြီးမြို့သို့ ပြန်ကြွသည်ဟူ၍၎င်း ပါရှိသည်ကိုစဉ်းစားသင့်လေသည်၊ သာသနာ့အလင်းစာစောင် ၁၆-တွင် ၈၈၂-ခုနှစ်၌ ပျံလွန်တော်မူသည်ဟုပါရှိသည်၊ ဦးဖေမောင်တင်၏မြန်မာစာပေသမိုင်း၌ ၈၈၀-ဟုပြသည်။

၁။ ရွှေနန်းဘွဲ့မော်ကွန်း။
၂။ ထူပါရုံကျောက်စာ။
၃။ ရတနာ့ဗိမာန်ကျောင်းကျောက်စာ။
၄။ သျှိသျှားကန်တော် (မိတ္ထိလာကန်တော်) ဘွဲ့များ။
၅။ ပါရမီတော်ခန်းပျို့။
၆။ ဆုတောင်းခန်းပျို့။
၇။ နန်းဖွင့်လင်္ကာ။
၈။ ဗုဒ္ဓုပ္ပတ္တိပျို့။
၉။ ရာဇဝသတီခန်းလင်္ကာ။
၁၀။ တန်တားဦးတည်မော်ကွန်း။
၁၁။ တောင်တွင်းလာပျို့။
၁၂။ သံဝေဂခန်းပျို့။
၁၃။ ဓမ္မပါလပျို့။
၁၄။ ပါရာယနဝတ္ထု။
၁၅။ ရာဇဝင်ကျော်။
၁၆။ မဟာရဟနီတိ။
၁၇။ ဆုံးမစာလင်္ကာ။
၁၈။ ဗုဒ္ဓါလင်္ကာရကျမ်း။
၁၉။ နေတ္တိပါဠိတော်နိသျ။
၂၀။ နေတ္တိဟာရအကောက်။

---

## ၄။ ရှင်ဥတ္တမကျော်

(၈၁၅–၉၀၄)

ရှင်ဥတ္တမကျော်သည် အင်းဝခေတ်တွင်ထင်ရှားသော စာဆိုတော် ရဟန်းတပါးဖြစ်၍ တောင်တွင်းကြီးမြို့ နတ်မီးလင်း ဆရာတော် ဦးသီလာစာရထံတွင် ရှင်သီလဝံသနှင့်အတူ ပညာသင်ကြားခဲ့သော ရဟန်းတော်ပင်ဖြစ်လေသည်။

သကရာဇ် ၈၁၅-ခုနှစ်လောက်တွင် *မြို့လုလင်ရွာ၌ဦးသောကြာ-ဒေါ်နှင်းဆီတို့မှဖွားမြင်ရာ တနင်္ဂနွေသားဖြစ်သည့်အတိုင်း ငယ်မည်မောင်ဥက္ကာဟုခေါ်တွင်လေသည်။

အရွယ်ရောက်သော် သာမဏေဝတ်၍ရှင်ဥတ္တမဟူသောဘွဲ့ကိုရလေသည်၊ ၈၃၅-ခုနှစ်တွင်ရဟန်းဘောင်သို့ဝင်လေသည်၊ ထိုနောက် ၈၅၉-ခုနှစ်တွင် အင်းဝသို့ကြွ၍ ကျောင်းနေဖက်ဖြစ်သော ရှင်သီလဝံသ သီတင်းသုံးရာ စစ်ကိုင်းထူပါရုံဘုရားအနီး ရတနာ့ဗိမာန်ကျောင်းတွင် သီတင်း သုံးတော်မူလေသည်၊ တောင်တွင်း ဆရာတော်ဟူ၍လည်း တွင်လေသည်။

အင်းဝတွင် ခုံတော်မောင်ကျာဘမ်းကို စကားအရာ၌ နိုင်နင်းအောင် ဆုံးမတော်မူနိုင်သဖြင့်ရှင်ဥတ္တမကျော်ဟုတွင်လေသည်၊ ရှင်ဥတ္တမကျော်သည် ဒုတိယမင်းခေါင်က နေပြည်တော်တွင်သီတင်းသုံးရန် လျှောက်ထားသည်ကိုပယ်၍ တောင်တွင်းကြီးမြို့သို့ ပြန်ကြွလေသည်၊ သကရာဇ် ၈၈၂-ခုနှစ်တွင်မှတဖန် အင်းဝမြို့သို့ကြွပြန်ပြီး တောင်တွင်းကြီးမြို့သို့ပင် ပြန်ကြွပြန်လေသည်၊ သကရာဇ် ၉၀၄-ခုနှစ်သက်တော် ၈၉-နှစ်တွင် ပျံလွန်တော်မူလေသည်။

ရှင်ဥတ္တမကျော် ပြုစုတော်မူခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

၁။ တောလားရတု ၉-ပုဒ်။
၂။ ပဋိသမ္ဘိဒါမဂ် ပါဠိတော်နိဿယ။
၃။ မဟာနိဒ္ဒေသ ပါဠိတော်နိဿယ။
၄။ ပေဋကောပဒေသ ပါဠိတော်နိဿယ။
၅။ ဓမ္မသင်္ဂဏီပါဠိတော်နိဿယ။
၆။ ဝိနယသင်္ဂဟာအဋ္ဌကထာနိဿယ။
၇။ သစ္စသံခိပ်ဋီကာသစ်နိဿယ။
၈။ ခုဒ္ဒသိက္ခာဋီကာသစ်နိဿယ။
၉။ အဘိဓမ္မာဝတာရဋီကာသစ်နိဿယ။

* ရှေးအိုးရရပ် ဦးကျော်-ဒေါ်သီလတို့မှဖွားမြင်၍ ငယ်မည်မောင်လျော်ဟူ၍ တောင်တွင်းကြီးရာဇဝင်၌ဆိုသည်။

၁၀။ သဒ္ဒသာရတ္ထဇာလိနီ စာကိုယ်နိဿယ။
၁၁။ ဝဇီရသာရတ္ထသင်္ဂဟ စာကိုယ်နိဿယ။
၁၂။ ကစ္စာယနဘေဒ စာကိုယ်နိဿယ။
၁၃။ ဝါစကောပဒေသ စာကိုယ်နိဿယ။

---

## ၅။ ရှင်အုန်းညို

(၀၁၅-၀၅၅)

ရှင်အုန်းညိုမှာ အင်းဝခေတ် ပေလေးပင်, ရှင်လေးပါးအပါအဝင် ရှင်သီလဝံသနှင့် ခေတ်ပြိုင်စာဆို*ရဟန်းတော်ဖြစ်လေသည်။

သကရာဇ် ၀၁၅-နှစ်တွင် တောင်တွင်းကြီးမြို့ ရွှေအိုးရရပ် (သတိုးထမ်းရွာဟုလည်းဆိုသည်)တွင် ဦးအေး-ဒေါ်ထွေးတို့မှဖွားမြင်ရာ ငယ်မည်မှာ မောင်အုံ့ကြီးဖြစ်လေသည်၊ ရှင်ဥတ္တမကျော်နှင့် မွေးနေ့ထပ်တူဖြစ်လေသည်၊ (၃-လခန့်ငယ်သည်ဟုလည်းဆိုကြ၏။)

ရှင်အုန်းညိုမှာ နတ်မှီဆရာတော်ထံတွင် စာပေသင်ကြားတတ်မြောက်၍ ရှင်သီလဝံသ၊ရှင်ဥတ္တမကျော်တို့ ဘုရင့်နေပြည်တော်၌ ထင်ရှားနေသည်တွင် မိမိလည်း ပရိယတ်ဂုဏ်ပြမည်ဟု ပိဋကတ်ကျမ်းများကိုပြုစုခဲ့လေသည်၊ တောင်တွင်းမင်းငယ် ဇေယျကျော်ထင်က ကျောင်းတော်ဆောက်လုပ်၍ မဏိရတနာကျောင်း သမုတ်ကာ လှူဒါန်းလေသဖြင့် မဏိရတနာဆရာတော်ဟုလည်း ထင်ရှားလေသည်။

သကရာဇ် ၀၅၅-ခုနှစ်တွင် ပုံလွန်တော်မူရာ ပြုစုတော်မူခဲ့သောကျမ်းများအနက် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ ဂါထာခြောက်ဆယ်ပျို့။
† ၂။ ပါရာဇိကဏ်အဌကထာနိဿယ။
၃။ ပါစိတျာဒိအဌကထာနိဿယ။
၄။ အဌသာလိနီအဌကထာနိဿယ။

---

* ရှင်အုန်းညိုသည် ရဟန်းဖြစ်သည် လူဖြစ်သည်ဟုအယူနှစ်မျိုးရှိချေသည်။
† ပိဋကတ်တော်သမိုင်းတွင် ပါရာဇိကဏ်အဌကထာနိဿယကို ရွှေဥမင်ဆရာတော်ပြုစုသည်ဟုပြသည်၊နိဿယနှစ်စောင်ရှိမည်လောဟုထောက်ဆရန်ရှိ၏။

* ၅။ ကင်္ခါဝိတရဏီအဋ္ဌကထာနိသျ။
၆။ သခင်္ဘယပဋိကာနိသျ။
၇။ ဋီကာကျော်နိသျ။
၈။ ပဋ္ဌာန်ကြီးဏ်အဋ္ဌကထာနိသျ။
† ၉။ သမ္မောဟဝိနောဒနီအဋ္ဌကထာနိသျ။

## ၆။ ရှင်ခေမာ

(၁၁၅–၁၃၅)

ရှင်ခေမာမှာ အင်းဝခေတ် ပေလေးပင်၊ ရှင်လေးပါး အပါအဝင် ရှင်သီလဝံသနှင့် ခေတ်ပြိုင်ဖြစ်လေသည်၊

သကရာဇ် ၇၁၅-ခုနှစ်တွင် တောင်တွင်းကြီးမြို့ ရွှေအိုးရရပ်၊ ဦးချမ်း-ဒေါ်လေးတို့မှဖွားမြင်ရာ ရှင်အုန်းညို၏အမိ ဒေါ်ထွေးနှင့် ဒေါ်လေးမှာ ညီအစ်မအရင်းဖြစ်၍ သားယော်ကိုလည်း ရှင်အုန်းညိုကို မောင်အံ့ကြီးဟုမှည့်ခေါ်သကဲ့သို့ မောင်အံ့ကလေးဟုမှည့်ခေါ်လေသည်။

ရှင်ခေမာမှာ နတ်ဒိုဆရာတော်ထံတွင်ပညာသင်ကြား၍ ပရိယတ်ကျွမ်းကျင်သော်လည်း ကျမ်းမပြုစုဘဲ ပဋိပတ်အကျင့်တရားကို အားထုတ်တော်မူ၍ ၅၀ ါအရတွင် တောထွက်ကာ သပိတ်တလုံး သင်္ကန်းသုံးထည် ရောက်ရာ၌ ဆွမ်းခံဘုဉ်းပေးတော်မူလေသည်၊ ၇၃၅-ခုနှစ်၊ ဝါတော် ၂၀-တွင် ပျံလွန်တော်မူလေသည်။

[ရှင်ခေမာမှာ ကျမ်းပြုစာဆိုအဖြစ် မထင်ရှားသော်လည်း ပေလေးပင် ရှင်လေးပါးအဝင်ဖြစ်၍ ဖေါ်ပြလိုက်သည်၊ ရှင်ခေမာအကြောင်းကိုရင်း၊ ပြုစုသောကျမ်းစာရင်းကိုရင်း၊ ပိဋကတ်တော်သမိုင်း၌လုံးဝမတွေ့ရှိရချေ။]

---

* ထို့ပြင် ကင်္ခါဝိတရဏီအဋ္ဌကထာနိသျကိုမူ ပဌမကျော်အောင်စံထားဆရာတော်၏တပည့် အမည်မသိထေရ်ရေးသည်ဟုပြသည်။

† ထိုမှတပါး အဋ္ဌသာလိနီ အဋ္ဌကထာနိသျဟောင်းကိုရင်း၊ သမ္မောဟဝိနောဒနီ အဋ္ဌကထာနိသျဟောင်းကိုရင်း၊ မဏိရတနာဆရာတော်စီရင်သည်ဟုပြဆိုသော်လည်း ထိုမဏိရတနာဆရာတော်မှာ နောက်ကျသော ပုခန်းကြီးမြို့ စီရင်စု နေရင်းရွာဇာတိ မဏိရတနာတိုက်နေ ရှင်အရိယာလင်္ကာရ နေရင်းဆရာတော် (တနင်္ဂနွေမင်းလက်ထက်)ဖြစ်နေသဖြင့် မှားယွင်းဖေါ်ပြမိဟန်တူပေသည်၊ အထက်ပါအတ္ထုပ္ပတ္တိမှာ မူ–ရှင်ဥာဏ၏တောင်တွင်းရာဇဝင်မူအရဖြစ်သည်။

# ၇။ ရှင်ရဋ္ဌသာရ (ပြည်ဆရာတော်)
(၇၃၀–၈၉၂)

ရှင်ရဋ္ဌသာရသည် အင်းဝခေတ်တွင် ထင်ရှားသောဆရာတော်တပါး ဖြစ်လေသည်၊ သကရာဇ် ၇၃၀-ပြည့်နှစ်တွင် အင်းဝမြို့ဟံသာဝတီဘုရင်မ ရှင်စောပု၏တူ ပုသိန်မြို့စား ဗညားအိန်၏မြေး ဓမ္မပါလအမတ်နှင့် သတိုးမင်းဖျားသမီးတော်၏မြစ်တို့မှ ဖွားမြင်၍ ငယ်မည်မှာ မောင်မောက်ဟုတွင်သည်။

နန်းတွင်း၌ ကြီးပြင်းခဲ့၍ ဒုတိယမင်းခေါင်၏ သမီးတော်နှင့် စုံဖက်တော်မူဘူးခဲ့သည်၊ နောင်သော်သံယောဇဉ်ကိုဖယ်ခွါ၍ ရဟန်းပြုတော်မူသည်၊ စာပေကျမ်းဂန်တတ်မြောက်၍ သက္ကဋ, မာဂဓ စသော ဘာသာရပ်များကိုလည်း တတ်မြောက်တော်မူလေသည်။

ရဟန်းဖြစ်တော်မူပြီးနောက် နေပြည်တော်ဆရာအဖြစ်ဖြင့် ဘုရင်က ကိုးကွယ်တော်မူသည်၊ ဆရာတော်သည် ကဗျာလင်္ကာ၌ ကျွမ်းကျင်တော်မူ၍ ပြောင်မြောက်သော ပျို့ကဗျာများကိုရေးသားတော်မူခဲ့သည်၊ ပြည်မြို့၌ မဟာသံဃရာဇာဘွဲ့နှင့် သာသနာပိုင်ပြုခဲ့လေသေးသည်။

သကရာဇ် ၈၉၂-ခုနှစ် သက်တော် ၆၂-နှစ်တွင် ပျံလွန်တော်မူလေသည်၊ ဆရာတော်ပြုစုတော်မူခဲ့သော စာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ စတုဓမ္မသာရပျို့။
၂။ ဂမ္ဘီသာရပျို့။
၃။ ဘူရိဒတ်ဇာတ်ပေါင်းပျို့။
၄။ ဘူရိဒတ်လင်္ကာကြီး။
၅။ သံဝရပျို့။ (၇၉၁)။
၆။ ပုံတောင်နိုင်မော်ကွန်း။
၇။ ရတနာပူရမြို့တည်မော်ကွန်း။
၈။ မိတ္တီလာကန်တော်ဘွဲ့မော်ကွန်း။
၉။ တန်တားဦးတည်မော်ကွန်း။
၁၀။ ရဲရည်တက်မော်ကွန်း။
၁၁။ ရတုကဗျာများ တောင့်တဲတွန့်ရတု။
၁၂။ ဝတ်ရုံကျောင်းဘွဲ့မော်ကွန်း။

၁၃။ ဆုမ္မစာလင်္ကာ။
၁၄။ လက်သစ်တောင်တာဆုမ္မစာ။
၁၅။ ရာဇဝသတီခင်းပိုဒ်စုံရတု။
၁၆။ ရွှေစက်တော်သွားတောလား။
၁၇။ ဒုတိယမင်းခေါင်ထံသွင်းမေတ္တာစာ။

## ၈။ ရှင်အဂ္ဂသမာဓိ
(၈၄၁–၉၁၉)

ရှင်အဂ္ဂသမာဓိမှာ အင်းဝခေတ်တွင် ရှင်တေဇောသာရနှင့် တချိန်တည်းထင်ရှားသော စာဆိုရဟန်းတော်တပါး ဖြစ်လေသည်၊ သကရာဇ် * ၈၄၁-ခုနှစ်တွင် ဒီပဲယင်းမြို့ အရှေ့တောင်ဖက် ကန်ဖျားရွာ၌ နတ်မောက်မြို့စားဘယကျော်သူ † မောင်ထွားမြ၏ဇနီးမှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်နိုး ဖြစ်လေသည်၊ (မောင်မြအောင်ဟူ၍လည်း မှတ်ကွဲရှိလေသည်။)

သကရာဇ် ၈၈၈-ခုနှစ်တွင်အင်းဝပျက်သောအခါ ရှင်အဂ္ဂသာမာဓိသည် မြေထူးမြို့သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူလျက် ပျို့ကဗျာများကို ပြုစုတော်မူခဲ့လေသည်။

ရှင်အဂ္ဂသမာဓိသည် သကရာဇ် ၉၁၉-ခုနှစ် သက်တော် ၇၈-နှစ်တွင် ပျံလွန်တော်မူလေသည်။

ရှင်အဂ္ဂသမာဓိ ရေးသား ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ သုဝဏ္ဏသျှံသဒ္ဒေးခန်းပျို့။
၂။ သုဝဏ္ဏသျှံမြားပစ်ခန်းပျို့။
၃။ သုဝဏ္ဏသျှံသစ္စာခန်းပျို့။
၄။ နေမိမဟာ္လဝှိုးခန်းပျို့။
၅။ နေမိငရဲခန်းပျို့။
၆။ နေမိဘုံခန်းပျို့။

---

* သကရာဇ် ၈၈၄-ခုနှစ်ဟူ၍လည်း အမှတ်အသားရှိ၏၊ မှတ်ကွဲများသည်၊
† နတ်မောက်မြို့စား၏သား ဘယကျော်သူဟုလည်း အချို့ဆိုသည်။

ရှင်အဂ္ဂသမာဓိကိုယ်တိုင်ရေးနေမိဘုံခန်းပျို့နိဂုံး၌ မွေးဘခင်ဟူသောစကားအထင်အရှားပါသည်၊ မှန်နန်းရာဇဝင်၌ အဘိုးဟူ၍ဆိုသည်မှာသင့်ဖွယ်မရှိ။

## ၉။ (ကန်တော်မင်းကျောင်းဆရာတော်)

ရှင် ××

(၇၅၀-ခန့်)

ကန်တော်မင်းကျောင်း ဆရာတော်မှာ အင်းဝခေတ် ဒုတိယ မင်းခေါင်၏ အရီးတော် စစ်ကိုင်းမြို့စား မင်းလှထွတ်၏ ဆရာတော်ဖြစ်၍ ရွှေနန်းကြော့ရှင် အရီးတော် ဘိုးတော်ဖွါးရှင်၏ ဆရာလည်း ဖြစ်လေသည်၊ မင်းလှထွတ်လက်ထက်မှ တူမ,ချွေးမဖြစ်သော ဘိုးတော်ဖွါးရှင်လက်ထက်အထိ ဆက်လက်ကိုးကွယ်ခြင်း ခံရလေသည်။

ဆရာတော်သည် စစ်ကိုင်းစီရင်စု မြင်းမူမြို့မှ တတိုင်ကွာ ထီးဆောင်းရွာ မြောက်ဘက် ကန်တော်ရွာတွင် ဖွါးမြင်လေသည်။

ဆရာတော် ပြုစုခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

၁။ ရွှေနန်းကြော့ရှင်ထံသွင်း မေတ္တာစာ။

၂။ *လောကသာရပျို့ ဆုမ္မစာ။

---

## ၁၀။ (ဗားမဲ့ဆရာတော်)

ရှင် × ×

(၇၇၄-၉၇၂)

ဗားမဲ့ဆရာတော်ကို သက္ကရာဇ် ၇၇၄-ခုနှစ်တွင် ရာမည တိုင်း၌ ဖွားမြင်သည်၊ လောကီကျမ်းများကို လေ့လာတတ်မြောက်သည်၊ ဟံသာဝတီ ငါးဆူဒါယကာမင်း လက်ထက်တွင် ကြေးပုရပိုက်တဆူကို ရရှိလေ့လာရာမှ အင်းအိုင်ယတြာ လောကီအတတ်ကိုတတ်မြောက်သည်၊ ဗားမြို့က် ဆရာတော်, ဗားတမွတ် ဆရာတော်, ဗားတမော့ ဆရာတော်တို့နှင့် တခေတ်တည်းဖြစ်သည်၊ ၉၅၅-ခုနှစ်တွင် ဟံသာဝတီမင်းက ဆရာတော်အား အလိုမကျ၍ ညောင်ရမ်းသို့ပို့ရာ ညောင်ရမ်းမင်းက ကောင်းစွာ ပင့်ဆောင် ကိုးကွယ်သည်၊ ဆရာတော်သည် မင်းကြီးအား လောကီမှုတို့၌ အကြံဉာဏ်ပေး ညွှန်ကြားတော်မူသည်၊ ၉၆၇-ခုနှစ်တွင် ညောင်ရမ်းမင်းလွန်သော် သားတော် အနောက်ဘက်လွန်မင်းက ဆက်လက် ကိုးကွယ်တော်မူသည်။

---

*လောကသာရပျို့ကို ရခိုင်ဆရာတော် ရေးသည်ဟုလည်း အချို့မှတ်ယူသည်။

ဆရာတော်သည် ၉၇၂-ခု နှစ်တွင် အင်းဝမြို့၌ ပျံလွန်တော်မူရာ ရေးသား ပြုစုတော်မူခဲ့သော စာပေများတွင် အောက်ပါ ကျမ်းပါဝင် လေသည်။

၁။ ဗားမဲ့ လက်တွေ့ကျမ်း။

## ၁၁။ ရှင်ဇာနဂုတ္တ
(၉၀၀-ခန့်)

ရှင်ဇာနဂုတ္တသည် အင်းဝခေတ်တွင်ထင်ရှားသော စာဆိုရဟန်းတော် ဖြစ်၍ ရှင်သီလဝံသ၏ တပည့် ဖြစ်လေသည်၊ *တိလောက ခင်ကြီးဟု လည်း ခေါ်တွင်လေသည်၊ သဒ္ဒာဘာသာကိုတတ်မြောက်၍ စည်သူ ကျော်ထင်ကို အမှူးပြု၍ ဆုံးမဩွာဒ်ပြရန် နဝရတ်ပျို့ကို ရေးသားခဲ့လေ သည်။

## ၁၂။ ရှင်တေဇောသာရ
(၉၀၀-ခန့်)

ရှင်တေဇောသာရမှာ အင်းဝခေတ်တွင်ထင်ရှားသော စာဆိုတော် တပါးဖြစ်၍ ရှင်ရဋ္ဌသာရ၏ တပည့်ရင်းဖြစ်လေသည်၊ ဖွားသကရာဇ် မိဘမည်ရည် တို့ကိုမူကား မသိရပေ၊ ရှင်တေဇောသာရသည် ရှင် သီလဝံသ၏တပည့်ဖြစ်၍ ရှင်အုန်းညိုနှင့်အပြိုင်စာဆိုဖက်ဖြစ်လေသည်။

သကရာဇ် ၈၈၈-ခု နှစ်တွင် ရှမ်းမိုးညှင်းစလုံ၏ ရန်ဘေးကြောင့် အင်းဝပြည်ကြီး ဖရိုဖရဲဖြစ်ရာ ရှင်တေဇောသာရသည် ပြည်သို့စုန်ဆင်း လေသည်၊ ပြည်မှာပင် ပျို့ကဗျာများကို ရေးသားတော် မူလေသေး သည်။

ရှင်တေဇောသာရ ပြုစုတော်မူခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

---

* ခင်ကြီးဖျော် အဋ္ဌုပ္ပတ္တိကို ပြုစုတော်မူသော ကန်တော်မင်းကျောင်း ဆရာတော်မှာ အခြားဆရာတော်တပါးဖြစ်သည်၊ ထိုကျမ်းမှာ ၁၂၆၇-ခု နှစ် တွင် ပြီး၍ ခင်ကြီးဖျော်မှာ ၁၀၈၆- ၁၁၂၄-ခုနှစ် အတွင်း ပေါ်ပေါက် လေသည်။

၁။ ရွှေဟင်္သာပျို့(၈၇၀)။
၂။ ပြာဒိုဟာခန်းပျို့(၈၉၈)။
၃။ ဗျာဒိတ်တော်ခန်းပျို့။
၄။ အာဒါသမုခပျို့။

---

## ၁၃။ ရှင်ဥပါလိ(တောင်ဖီလာဆရာတော်)

(၉၄၀-၁၀၁၃)

တောင်ဖီလာ ဆရာတော်မှာ အနောက်ဘက်လွန် မင်းတရားကြီး ပြည်မြို့ကိုအောင်မြင်ရာမှ အင်းဝသို့ပင့်ဆောင်လာခဲ့သော ပုဂ္ဂိုလ်ဖြစ်၍ ကျမ်းဂန် တတ်သဖြင့် ထင်ရှားသော ဆရာတော်ပင် ဖြစ်လေသည်၊ သာမဏေဘဝက ဘွဲ့မှာ ရှင်မုနိန္ဒဃောသဖြစ်၍ ရဟန်းဘွဲ့မှာ ဦးရိုးတော်၏ အမည် အရှင်ဥပါလိဖြစ်လေသည်။

ဆရာတော်သည် စစ်ကိုင်းမြို့လေးထပ်ကျောင်းတွင် သီတင်းသုံးပြီးနောက် သကရာဇ် ၁၀၀၀-ပြည့် နှစ်တွင် တောင်ဖီလာ ကျောင်းတွင် သီတင်းသုံးတော်မူသဖြင့် တောင်ဖီလာဆရာတော်ဟုတွင်လေသည်။

ဆရာတော်မှာ ၉၄၀-ပြည့် နှစ်တွင် စလင်းမြို့အရှေ့ သာထွန်းဦး စေတီတည်ရာအရပ်၌ ဖွားတော် မူသော်လည်း ရှမ်းတို့ အရေးကြောင့် အောက်ပြည်သို့ စုန်ခဲ့၍ တောင်ငူတွင် ရှင်ဓမ္မရာဇဂုရု ထံ၌ ပညာသင်ကြားပြီး နောက် ပြည်မြို့တွင် သာမဏေဝတ်နေလေသည်၊ ထိုနောက် အင်းဝသို့ရောက်မှ ပြည်ဘုရင် ရန်နိုင်မှူးကို ပဠင်းဒါယကာ ပြုလျက် အရှင် အဘိသင်္ကေတထံ၌ ရဟန်းဘောင်သို့ တက်ရောက် လေသည်၊ ၉၇၀-ပြည့်နှစ်တွင် အနောက်ဖက်လွန်မင်းသည် အင်းဝသို့ပင့်ဆောင်သွားသည်။

စစ်ကိုင်းလေးထပ် ကျောင်းတွင် သီတင်းသုံးတော်မူစဉ် တိပိဋကာလင်္ကာရ မဟာရာဇဂုရု တံဆိပ်တော် ကပ်လှူခြင်းခံရလေသည်၊ တောင်ဖီလာ ပုဂ္ဂိုလ်ကျော်ဟူ၍ ထင်ရှားလေသည်၊ ၉၇၇-ခုနှစ်တွင် ညီတော်မင်းရဲကျော်စွာက ကိုးကွယ်သည်၊ ၁၀၁၀-ပြည့်နှစ် တပေါင်းလပြည့်နေ့တွင် တောသို့ဝင်တော်မူသည်။

ဆရာတော်သည် *၁၀၁၃-ခုနှစ်တွင် ပျံလွန်တော်မူလေသည်။

ဆရာတော်ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ဝေဿန္တရာပျို့ဟောင်း(၉၅၄)။
၂။ မာတိကာအကောက်။
၃။ ယသဝဓုန ဝတ္ထု။
၄။ သမ္ဗန္ဓခေါတ်ကျမ်း။
၅။ ကမ္မဇရုပ်ကျမ်း။
၆။ ကွန်ခြာခေါတ်ကျမ်း။
၇။ အဋ္ဌခေါတုကိန်း။
၈။ မဟာနာရီခေါတ်ကျမ်း။
၉။ †ဝိနည်းငါးကျမ်း ပါဠိတော်နိသျ။
၁၀။ ရာဇိန္ဒရာဇနာမာဘိဓေယျ ဝိသောဓနီ။
၁၁။ လောကဝိဒူကျမ်း။
၁၂။ ဝီသတိဝဏ္ဏနာ။
၁၃။ ခေါတုဝိတ္တာရကျမ်း။
၁၄။ ဝိနယာလင်္ကာရဋီကာ။
၁၅။ အဘိဓာန်ဋီကာ။
၁၆။ ခေါတုကထာပါဠိတော်နိသျ။
၁၇။ ကထိနဝိနိစ္ဆယကျမ်း။
၁၈။ ယမိုက်အကောက်။
၁၉။ ပဋ္ဌာန်းအကောက်။
၂၀။ မနုသာရရွှေမြင်။

---

* ဝိနည်း ၅-ကျမ်း ပါဠိတော်နိသျကို ပုခန်းမြို့ရွှေဥမင် ဆရာတော် ပြုစုပြီး သည်ကို သိရှိရသဖြင့် တောင်ဖီလာဆရာတော်ကိုယ်တိုင် တောင်ဖီလာ တောင် ပေါ်တွင် ဌာပနာ၍ စေတီတည်ထားလိုက်ကြောင်းနှင့် သိမှတ်ရလေသည်။

သကရာဇ် ၈၄၁-ခုနှစ် ပျံလွန်တော်မူသော ဆီးတောရွှာဇာတိ- ဆီးတော ဆရာတော်မှာ တောင်ဖီလာ ဆရာတော်အလောင်းဟု ဆိုကြသည်။

† သာသနာလင်္ကာရ၌ ၁၀၁၂-ခုနှစ်ဟု ပြသည်။

၂၁။ ရွှေမျဉ်းဓမ္မသတ်။
၂၂။ အမေးတော်ပုံအဖြေ။
၂၃။ ရတုများ။

---

## ၁၄။ ရှင်ကုမာရကဿပ
(၉၄၃–၉၉၈)

ရှင်ကုမာရကဿပမှာ ပျို့ကဗျာစာဆို ရဟန်းတော်တပါးဖြစ်၍ ဟံသာဝတီ ဆင်ဖြူရှင်လက်ထက်တွင်ထင်ရှားလေသည်။

ရှင်ကုမာရကဿပကို သကရာဇ် ၉၄၃-ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၄-ရက် တနင်းလာနေ့တွင် ဟံသာဝတီ မြို့တော်အနီး လှော်ကားရွာကြီးတွင် ဦးကုလား- ဒေါ်မျှင်တို့မှ ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်ကျော်လှ ဖြစ်လေသည်။

ငယ်စဉ်ကမိဘများမှာ ဟံသာဝတီမြို့ မငြိမ်သက်၍ အထက်အညာသို့ ပြောင်းရွှေ့သွားသဖြင့် ခဝါတော်ရွာသို့ ရောက်ရှိကြလေသည်၊ ထိုရွာကျောင်း ဆရာတော်ထံတွင် မောင်ကျော်လှကို ပညာသင်ကြားစေ၍ ၁၀-နှစ်သားရွယ်တွင် သာမဏေဝတ်စေပြီး ၁၇-နှစ်သားအရွယ်တွင် အဝမြို့တိုက်တော် ဆရာတော်ထံသို့ အပ်နှံလေသည်၊ ထိုအခါတွင် ကဗျာလင်္ကာအရေးအသား ထက်မြက်၍ အဝမြို့တော်သို့ ညောင်ရမ်းမင်းတရားက ပင့်ဆောင်လေသည်၊ ထိုနောက် အသက် ၂၀-တွင် ရဟန်းဘောင်သို့တက်ရောက်ရာ ရှင်ကုမာရကဿပဘွဲ့ကိုခံယူပြီး သိမ်ထွက်တွင် ရေးသားပြီး ဓမ္မရသပျို့ကို မင်းတရားကြီးအား ပေးအပ်လေသည်။

ရှင်ကုမာရကဿပသည် သာသနာတော် အကျိုးကို ဆောင်ရွက်တော်မူလျက် ရွှေကြက်ယက်ဘုရားအတွင်း၌ သီတင်းသုံးတော်မူခိုက် ဓမ္မရာသီပျို့ကို ရေးသားလေသည်၊ သကရာဇ် (၉၉၈) ခုနှစ်တွင် ပျံလွန်တော်မူရာ ပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ဓမ္မရာသီပျို့။
၂။ ဓမ္မရသပျို့။

---

## ၁၅။ ရှင်အရိယာလင်္ကာရ (ပလိုင်းဆရာတော်)
(၉၄၇–*)

ပလိုင်းဆရာတော်ဟု ထင်ရှားသော ဒက္ခိဏာဝန် ဆရာတော်ကို ၉၄၇-ခုနှစ်တွင် ဖွားမြင်သည်၊ သာလွန်မင်းတရား၏ ဆရာတော်ဖြစ်သည်၊ စစ်ကိုင်း ကောင်းမှုတော်ဘုရား တောင်မျက်နှာ ဒက္ခိဏာဝန် ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ *အရိယာလင်္ကာရ တံဆိပ်တော်ကိုလည်း ခံယူရသည်။

ဆရာတော်သည် အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိသျကိုစီရင်ခဲ့သည်၊ ထိုနိသျကို-ဒက္ခိဏာဝန် နိသျဟုလည်းခေါ်သည်၊ ဆရာတော် ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ သဒ္ဒါရှစ်စောင်နိသျ။
၂။ အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိသျ။

---

## ၁၆။ ရှင်အဂ္ဂဓမ္မ (နန်းကျောင်းဆရာတော်)
(၉၇၅-ခန့်)

နန်းကျောင်းဆရာတော်ကို အင်းဝပင်းတလဲမင်း လက်ထက် ဝန်ကြီး နေမျိုးနော်ရထာမှ ဖွားမြင်သည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်အဂ္ဂဓမ္မဘွဲ့ကို ခံယူသည်၊ မင်းက ကပ်လှူသော အဂ္ဂဓမ္မာလင်္ကာရ မဟာရာဇဂုရု တံဆိပ်တော်ကိုလည်း ခံယူရသည်၊ ပင်းတလဲမင်းလက်ထက် မြောက်နန်းတော်ဆောင်ကိုဖျက်သိမ်း၍ ကျောင်းဆောက်သဖြင့်

---

ဘိုးတော်ဘုရားလက်ထက်တွင် ခေမာစာရာဘိဝံ့ဇမဟာဓမ္မရာဇဂုရု တံဆိပ်တော်ရ ပလိုင်းဆရာတော်ဟူ၍ ရှိသေးသည်၊ ထိုဆရာတော်သည် ဒုကနိပါတ် အဋ္ဌကထာနိသျကို စီရင်တော်မူသည်။

* သာလွန်မင်းတရားသည် ပလိုင်းဆရာတော်၏ဆရာ (ပြည်ပဋ္ဌင်းကျော်ဟု ထင်ရှားသော တောင်ဖီလာဆရာတော်နှင့် ခေတ်ပြိုင်) အဝပဋ္ဌင်းကျော်အား အရိယာလင်္ကာရတံဆိပ်တော်ကပ်လှူပြီးနောက် ဒက္ခိဏာဝန်ကျောင်းကို တင်လှူမည့်ဆဲဆဲ ဆရာတော် ပျံလွန်တော်မူသဖြင့် ပလိုင်းဆရာတော်အား ရှင်အရိယာလင်္ကာရ ဘွဲ့တံဆိပ်နှင့်တကွ ကျောင်းတော်ကိုပါ တင်လှူသည်ဟု သာသနာလင်္ကာရ စာတမ်းတွင်ဖော်ပြသည်။

မြောက်နန်းကျောင်း ဆရာတော်ဟုတွင်သည်၊ နောင်သော် နန်း
ကျောင်းဆရာတော်ဟု ထင်ရှားသည်။

ဆရာတော်သည် အောက်ပါကျမ်းများကိုပြုစုတော်မူခဲ့သည်။

၁။ ပဋ္ဌာန်း(၂၄-ကျမ်း)ပါဠိတော်နိသျ။
၂။ မာတိကာအကောက်။
၃။ ဓာတုကထာပါဠိတော်နိသျ။
၄။ ယမိုက် (၁၀-ကျမ်း) ပါဠိတော်နိသျ။
၅။ မူလဋီကာဒွါရကထာအဖွင့်နိသျ။
၆။ အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိသျ။
၇။ သဒ္ဒါပြုပ်ကျမ်းရိုးကြီး။
၈။ သဒ္ဒါရှစ်စောင်နိသျ။
၉။ ရာဇဝင်ချုပ်။

---

## ၁၇။ ရှင်စန္ဒမဥ္ဇူသာ
(၁၀၄၉-၁၀၈၅)

ရှင်စန္ဒမဥ္ဇူသာမှာ ကျော်အောင်စံထား ဆရာတော်၏ ဆရာရင်း
ဖြစ်လေသည်၊ ၁၀၄၉-ခုနှစ်တွင် ဖွားမြင်တော်မူ၍ ပုခန်းကြီးမြို့ ပိုက်
သင်ရွာ၌ သီတင်းသုံးတော်မူသည်၊ ငယ်စဉ်က ပုခန်းကြီးမြို့တော် နောင်
သယ်ရွာငယ် နိဗ္ဗာန်ကျောင်းဆရာတော် ဓမ္မနန္ဒာလင်္ကာရထံတွင် စာ
ပေသင်ကြားသည်၊ ဆရာတော်သည် စန္ဒမဥ္ဇူသာလင်္ကာရ တိပိဋကဓရ
မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုခံယူရသည်။

ဆရာတော်သည် ၁၀၈၅-ခုနှစ် သီတင်းကျွတ်လဆန်း ၅-ရက်နေ့
တွင် ပျံလွန်တော်မူသည်။

---

## ၁၈။ ရှင်ဥက္ကံသမာလာ
(၁၀၅၀-ခန့်)

ရှင်ဥက္ကံသမာလာမှာ တနင်္ဂနွေမင်း လက်ထက်တွင် ထင်ရှား
သော ဆရာတော်တပါး ဖြစ်လေသည်။

ဆရာတော်ကို စနေမင်းလက်ထက်ကပင် ရွှေယင်မြှော်ရွာကြီး
တွင် သီတင်းသုံးနေရာ တနင်္ဂနွေမင်း လက်ထက်တွင် တွင်းသင်းမှူး

အမတ် နေမျိုးသီရိဇေယျာနော်ရထာက ပင့်ဆောင်၍အင်းဝသို့ ရောက်ကာ ရွှေကြက်ယက်ကျောင်းတွင် သီတင်းသုံးတော်မူလေသည်၊ ကျမ်းဂန် တတ်မြောက်သော်လည်း ဘုရင်ကစေတီတော်ဝတ်ပြုရန် လှူထားသော ရွာမှဖြစ်သဖြင့် ဘုရင်ကမကိုးကွယ်ဘဲ အမတ်ကြီးအားကိုးကွယ်စေလေသည်၊ ထိုဆရာတော်မှာ အတင်ဂိုဏ်း အရုံဂိုဏ်း ကွဲပြားရာတွင် အရုံဂိုဏ်းဘက်မှလိုက်ပါ ဖြေရှင်းတော်မူလေသည်၊ ထန်းပေါက်ကုန်း အရှင်ဝရဝံသ၏ တပည့်ဖြစ်၏။

ဆရာတော်ပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ ဝဏ္ဏဗောဓနသတ်အင်း နှင့်သတ်ပုံလင်္ကာ။
၂။ တောင်ငူဆိုရတုအဖြေ၊ (စနေမင်းလက်ထက်။)
၃။ မန်ကျည်းကျပ်ရွာစားလျှောက်ထုံး။
၄။ ကဝိကဏ္ဍပါသလင်္ကာ။

[၁၀၇၆-ခုနှစ်တွင် တနင်္ဂနွေမင်း နန်းတက်သောအခါ အဝသို့ပင့်ဆောင်သဖြင့် ၁၀၅၀-ကျော်ခန့်တွင် ဖွားသည်ဟု ခန့်မှန်းရ၏။

မေတ္တာစာများရေးသားတော်မူသော တောပုမြောက်ကျောင်း ရှင်ဥက္ကံသမာလာနှင့် ခွဲခြားမှတ်သားသင့်၏။]

## ၁၉။ ရှင်အရိယာလင်္ကာရ * (မဏိရတနာဆရာတော်)

(၁၀၇၀-ခန့်)

ရှင်အရိယာလင်္ကာရမှာ မာရ် အောင်ရတနာဒါယကာ (စနေမင်း) လက်ထက်တွင် ထင်ရှားသော ကျမ်းပြုဆရာတော်တပါးဖြစ်သည်၊အရုံဂိုဏ်းတကျိပ်နှစ်ပါး အပါအဝင် ရေဲအိုရှင်ကလျာဏဇ၏ တပည့်ဖြစ်၍ အနက်မြန်မာပြန်သန်လှ၍ ကျမ်းဂန်အလွန်တတ်သည်၊ ပုခန်း

* အရိယာလင်္ကာရဘွဲ့ခံ-ဒက္ခိဏာဝန်ဆရာတော်မှာ ၉၄၇-ခုနှစ်ဖွားဖြစ်၍သာလွန်မင်း၏ ဆရာဖြစ်သည်၊ စစ်ကိုင်းကောင်းမှုတော် ဘုရားတောင်မျက်နှာဒက္ခိဏာဝန်ကျောင်း၌သီတင်းသုံးသည်၊ ပလိုင်းဆရာတော်ဟု လည်းတွင်သည်၊ ၎င်းဆရာတော်စီရင်သော အဘိဓမ္မတ္ထသင်္ဂဟ အဋ္ဌကထာနိသျကို-ဒက္ခိဏာဝန်နိသျဟုလည်းခေါ်သည်။ ကစ္စာယနသဘေဒဋီကာဟောင်းကို စီရင်သော အဝမြို့နေရှင်အရိယာ လင်္ကာရဟူ၍ရှိသေး၏၊ မဏိရတနာ ဆရာတော်ပင်လော၊ ပလိုင်းဆရာတော်ရှင်သုဇာတပင်လော မကွဲပြားချေ။

ကြီးမြို့စီရင်စု နေရင်းရွာဇာတိဖြစ်၍-မဏိရတနာ ကျောင်းတိုက်တွင် သီတင်းသုံးတော်မူသည်၊ နေရင်းရွာကို စွဲ၍*နေရင်း ဆရာတော်ဟု ထင်ရှားသည်၊ ဆရာတော်သည် ပုရပိုက်တွင် တဆင့် မတင်ဘဲ-ပေတွင် ကညစ်နှင့်ရေး၍ တိုက်ရိုက်ကျမ်းပြုတော်မူသည်၊ ဆရာတော်ပြုစုတော်မူသော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ သုတ်မဟာဝါပါဠိတော်နိဿယ။
၂။ သုတ်သီလက္ခန်ပါဠိတော်နိဿယ။
၃။ သုတ်ပါထေယျပါဠိတော်နိဿယ။
၄။ သုတ်သီလက္ခန်အဋ္ဌကထာနိဿယ။
၅။ သုတ်မဟာ ဝါအဋ္ဌကထာနိဿယ။
၆။ သုတ်ပါထေယျ အဋ္ဌကထာနိဿယ။
၇။ အဋ္ဌသာလိနီ အဋ္ဌကထာနိဿယ။
၈။ သမ္မောဟဝိနောဒနီ အဋ္ဌကထာနိဿယ။
၉။ ခုဒ္ဒသိက္ခာအဋ္ဌကထာနိဿယ။
၁၀။ မူလသိက္ခာအဋ္ဌကထာနိဿယ။
၁၁။ အဘိဓမ္မတ္ထဝိဘာဝနီ ဋီကာနိဿယ။
၁၂။ သုတ္တနိဒ္ဒေသနိဿယ။
၁၃။ သဒ္ဒသာရတ္ထဇာလိနီစာကိုယ်နိဿယ။
၁၄။ သခေ်ပဝဏ္ဏနာနိဿယ။
၁၅။ ကစ္စာယနဝဏ္ဏနာနိဿယ။
၁၆။ †သင်္ဂဟဓာတု။
၁၇။ ကင်္ခါဝိတရဏီအဋ္ဌကထာ။
၁၈။ ဇိနာလင်္ကာရ စာကိုယ်နိဿယ။
၁၉။ ဇိနာလင်္ကာရဋီကာနိဿယ။

---

* ပိဋကတ်တော်သမိုင်းကျမ်းစဉ် ၄၆၆- ၄၆၇- ၄၆၈-၉၃၅- ၉၃၆- တို့တွင် နေရင်းဆရာတော်ဟုဖော်ပြသည်။

† ဤနေရင်း ဆရာတော်ဖြစ်ဖွယ်မရှိ၊ ပိဋကတ်တော်သမိုင်း၌-ပုခန်းကြီးမြို့ နေရင်းဆရာတော်ဟုသာဖော်ပြသည်။

## ၂၀။ ရှင်ပါသံသ(ကြက်သွန်ခင်းဆရာတော်)

(၁၀၅၅–၁၁၃၇)

ကြက်သွန်ခင်းဆရာတော်ကို ၁၀၅၅-ခုနှစ်တွင် ကြက်သွန်ခင်းရွာ၌ ဖွားမြင်သည်၊ အရွယ်ရောက်၍ ရဟန်းပြုသော် ရှင်ပါသံသဘွဲ့ကိုခံယူသည်၊ ရတနာပူရတတိယမြို့တည် မင်းတရားကြီးကွယ်တော်မူသည်၊ မြို့တော်အနောက်မျက်နှာ ကြက်သွန်ခင်းကျောင်းတိုက်တွင် သီတင်းသုံးတော်မူ၍ ၁၁၃၇-ခုနှစ်တွင် ပျံလွန်တော်မူသည်။ ကျမ်းပြုတော်မူသည်ဟု မထင်ရှားချေ။

---

## ၂၁။ ရှင်မာလာ

(၁၀၅၈–၁၁၃၉)

ရှင်မာလာမှာ အလောင်းမင်းတရားလက်ထက်တွင် ထင်ရှားသော ကျမ်းတတ်ဆရာတော်တပါး ဖြစ်လေသည်။

သကရာဇ် ၁၀၅၈-ခုနှစ်တွင် ရွှေဘိုမြို့နယ် ကန်တော်ရွာ၌ ဦးကင်း- ဒေါ်လုံမတို့မှ ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်မှိုဖြစ်လေသည်။

ငယ်စဉ်ကပင်ဘုန်းကြီး ဦးညိုထံတွင် စာပေသင်ကြားနေခဲ့ပြီးနောက် သာမဏေဘ၀မှ ရဟန်းဘောင်သို့ တက်ရောက်ရာတွင် ရှင်မာလာဟူသော ဘွဲ့ကိုခံယူလေသည်၊ အလောင်းမင်းတရားကြီးနန်းတက်လျှင် ပင့်ဆောင်၍ *မဟာအတုလယသဓမ္မရာဇဂုရု ဘွဲ့တံဆိပ်ကပ်လှူလေသည်၊

---

*၁၀၇၆-ခုနှစ်ဖွား ၁၁၄၆- ခုနှစ်ပျံလွန်တော်မူသော အရှင်ယသဟူ၍ အတုလဆရာတော်တပါး၊ အလောင်းဘုရားလက်ထက်တွင် ထင်ရှားလျက်ရှိပေသေးသည်၊ မဟာအတုလယသသဒ္ဓမ္မရာဇာဘွဲ့ကိုခံယူရိုးမှန်လျှင် ယခုဘွဲ့တော် ရှင်မာလာနှင့်ကွဲလွဲလှသည်၊ ရှင်ယသသာလျှင် ဖြစ်ဖွယ်ရှိပေသည်၊ ရှင်ယသ အတ္ထုပ္ပတ္တိတွင် ထောက်ဆသင့်၏။

မြန်မာစာပေ၌ အတုလဆရာတော်ဟူ၍ အလောင်းဘုရား လက်ထက် ၁၁၁၄–၁၁၂၂-တွင်ပေါ်ပေါက်သော-

ရှင်မာလာ ( မောင်မှို ) (၁၀၅၈– ၁၁၃၉ )

ရှင်ယသ ( ဦးပန်းထွေး ) ၁၀၇၆– ၁၁၄၆ )

ရှင်ဥာဏ (ခင်ကြီးဖျော် ) ( ၁၀၈၆– ၁၁၂၄ )

ဟူသောပုဂ္ဂိုလ်များကိုရောမှားအမည်တပ်လျက်ရှိသည်။

ထိုနောက်ဆင်ဖြူရှင် မင်းတရားလက်ထက်တော်တွင်လည်း ဆက်လက်ကိုးကွယ်ပြန်လေသည်။

ဆရာတော်သည် အလောင်းမင်းတရားလက်ထက်မှဆင်ဖြူရှင်လက်ထက်အထိ အဆုံးအဖြတ်များကိုစုပေါင်း၍ ဖြတ်ထုံးကျမ်းကြီးတစောင်ကိုပြုစုတော်မူခဲ့ရာ "အတုလဖြတ်ထုံး"ဟု တွင်လေသည်။

ထိုကျမ်းကိုဘိုးတော်ဘုရားလက်ထက် ၁၁၆၀-ပြည့်နှစ် ဝါဆိုလပြည့်ကျော် ၄-ရက်နေ့တွင်တကြိမ်၊ ပုဂံမင်းလက်ထက် ၁၂၀၉-ခုနှစ်နတ်တော်လဆန်း ၁၁-ရက်နေ့တွင် တကြိမ် ထပ်မံစီစစ်ရေးကူးခဲ့လေသည်။

ဆရာတော်သည် ၁၁၃၉-ခုနှစ်တွင်ပျံလွန်တော်မူလေသည်။

---

## ၂၂။ ရှင်သာရဒဿီ (ပုဗ္ဗာရုံဆရာတော်)

(၁၀၆၅-*၁၁၂၉)

ပုဗ္ဗာရုံဆရာတော်မှာ ဟံသာဝတီပါမင်းလက်ထက် ထင်ရှားသော ကျမ်းပြုဆရာတော်တပါးဖြစ်လေသည်။

ဆရာတော်ကို သကရာဇ် ၁၀၆၅-ခုနှစ်တွင် ပခန်းကြီးမြို့နယ်တွင် ဖွားမြင်တော်မူလေသည်၊ မြောရှင်ပညာသာရမထေရ်၏တပည့်ဖြစ်လေသည်၊ ကျမ်းဂန်အလွန်တတ်မြောက်၏။

ရဟန်းဘွဲ့တော်မှာ ရှင်သာရဒဿီဖြစ်၍ ရတနာပူရဆင်ဖြူရှင်မင်းတရားကြီး (တနင်္ဂနွေမင်း) ကိုးကွယ်တော်မူသော ဆရာတော်တပါးဖြစ်၍ ပုဗ္ဗာရုံဆရာတော်ဟု ထင်ရှားလေသည်၊ အလောင်းဘုရားပဲခူးသို့မချီတက်မီ ပင့်၍တရားနာဘူး၏၊ ဆရာတော်မှာ တောခိုဆရာတော်ဖြစ်၍ ၁၁၂၉-ခုနှစ်တွင် ပျံလွန်တော်မူရာ ဆရာတော်ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

---

*သာသနဝံသဒီပနီ၌ ၁၀၆၅-ခုနှစ်ဖွား၊ ၁၀၃၅-ခုနှစ်လွန်ဟု ပြသည်၊ စာမှားထင်၏၊ ၁၁၃၅-ဖြစ်ပေမည်၊ ယင်းသို့ဆိုလျှင် ၁၁၂၉- ခုနှစ်နှင့် (၆) နှစ် ကွာခြားနေ၏၊ မင်းလှသီရိသီဟသူ မှတ်တမ်း၌ ၁၁၂၉-ခုနှစ်တွင် ပျံလွန်တော်မူကြောင်းဖော်ပြသည်။

၁။ မဏိဒီပကကျမ်း။
၂။ ဒွါရကထာ ဋီကာ။
၃။ ဂုဠတ္ထဒီပနီ။ (မဏိဒီပကအကြွင်းဒွါရကထာဋီကာအဖွင့်)
၄။ ဝိသုဒ္ဓိမဂ်ဂဏ္ဌိ။
၅။ နေတ္တိပါဠိတော်နိဿျ။
၆။ သုတ္တနိပါတ် ပါဠိတော်နိဿျ။
၇။ သုတ်သီလက္ခန်ဂဏ္ဌိ။
၈။ ဓာတုကထာ မူလဋီကာယောဇနာ။

---

## ၂၃။ ရှင်ဥတ္တမဝရ(ပဋမကျော်အောင်စံထားဆရာတော်)

(၁၀၆၇–၁၁၁၅)

ပဋမကျော် အောင်စံထားဆရာတော်မှာ ဟံသာဝတီပါမင်းလက်ထက် ဆင်တဲယတြာစံနန်းကိုသိမ်း၍ ကျောင်းရံတရာဖြင့် ဆောက်လုပ်လှူဒါန်းအပ်သော ကျော်အောင်စံထားကျောင်း၌ ပဋမ သီတင်းသုံးတော်မူသော ဆရာတော် ဦးဉတ္တမဝရဖြစ်လေသည်၊ ငယ်မည်မှာ မောင်ပန်းခေါ်-မောင်ပန်းအောင်ဖြစ်သည်။

မောင်ပန်းအောင်ကို ပုခန်းမြို့မြောက်လက်ပိုက်သင်ရွာတွင်၁၀၆၇-ခုနှစ်၌ ဦးရွှေအောင်-ဒေါ်ကြိတ်တို့မှ ဖွားမြင်လေသည်။

ဆရာတော်သည် သုဓမ္မာစာပြန်ပွဲ၌ ပဋမကျော် အောင်မြင်တော်မူ၍ တံဆိပ်တော်မှာ ဇိနစက္ကာဘိရာမ မဟာဓမ္မရာဇာဓိပတိဖြစ်လေသည်၊ ဆရာကားရှင်စန္ဒမဥ္ဇူသာတည်း၊ ကျမ်းဂန်စာပေတတ်မြောက်၍ ကျမ်းများစွာပြုခဲ့ပြီးနောက်ညောင်ကန် အနောက်ကျောင်း၌ ၁၁၁၅-ခုနှစ်တွင် ပျံလွန်တော်မူလေသည်။

ဆရာတော်ရေးသားပြုစုခဲ့သော ကျမ်းများတွင်အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ မာဂဓအဘိဓာန်နိဿျ (၁၁၀၈)
၂။ ရာဇာဓိရာဇနာမတ္ထပကာသ နိနိဿျ။
၃။ အဘိဓမ္မာသင်္ဂြိုဟ်ဂဏ္ဌိပဗ္ဗကျမ်းဟောင်း။
၄။ အဋ္ဌသာလိနီဂဏ္ဌိပဗ္ဗကျမ်း။

၅။ သုရာဝိနိစ္ဆယ။
၆။ ပါတိမောက္ခလေခနလက်သန်း အဋ္ဌကထာပါဌ်။
၇။ ရာဇာလက်ာရကျမ်း။
၈။ အဘိဓမ္မတ္ထသင်္ဂဟ အဋ္ဌကထာ။
၉။ အနုသုရာဝိနိစ္ဆယ။
၁၀။ စက္ကင်္ဂကဝိနိစ္ဆယ။
၁၁။ ဝုတ္တောဒယစာကိုယ်နိသျ။
၁၂။ မဟာနမက္ကာရပါဌ်နိသျ။
၁၃။ ကစ္စာယနသာရနိသျသစ်အကျယ်။
၁၄။ ကမ္မဝါစာဂဏ္ဌိ။
၁၅။ ဒုဋ္ဌကက္ခရဂဏ္ဌိ။

---

## ၂၄။ ရှင်နန္ဒမာလာ
(၁၀၆၉–၁၁၄၄)

ရှင်နန္ဒမာလာမှာ ပိဋကတ်ကျမ်းပြုဆရာတော် တပါးဖြစ်၍ ဘိုးတော်ဘုရားလက်ထက်တွင် ထင်ရှားလေသည်။

သကရာဇ်-၁၀၆၉-ခုနှစ်တွင် ဆန်ပချီသွင်းတိုက်နယ် ပေါက်မြင့် ရွာတွင် ဖွားမြင်၍ ငယ်မည်မှာ မောင်စံဘ ဖြစ်လေသည်၊ ငယ်စဉ်က သာမဏေဝတ်ကာ ရှင်နန္ဒဘွဲ့နှင့်စာပေများ ဆက်လက် သင်ကြားလေ သည်၊ထိုနောက် ရဟန်းဘောင်သို့ တက်ရောက်၍ စလင်းမြို့ကျောင်း တွင် စာပေဆက်လက်သင်ကြားပြန်လေသည်။

ထိုအချိန်တွင် သံဃာတော်တို့ အတင်ဂိုဏ်း, အရုံဂိုဏ်း ကွဲပြားရာ မင်းတရားကြီးက ရှင်နန္ဒ၏ဂုဏ်သတင်းကိုကြားသိ၍ ပင့်ဆောင်ကာ သံဃပဋိပက္ခကိုဖြေရှင်းစေသဖြင့် ပြီးပြတ်အောင် ဖြေရှင်း ပေးလေ သည်၊ ထိုနောက်မင်းတရားကြီးက ကိုးကွယ်၍ အဝမြို့တော်အနောက် ဘက် ဝါဆိုကျောင်း၌ သီတင်းသုံးတော်မူရာ ၁၁၄၂-ခုနှစ် နယုန် လဆန်း ၁၅-ရက်နေ့တွင် တိပိဋကာလင်္ကာရ သဒ္ဓမ္မသာမိမဟာဓမ္မ ရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ကပ်လှူခြင်းခံရလေသည်။

ထိုနောက်တွင် မင်းတရားကြီးက ဘုံကျော်ဝေယန် ကျောင်းတော်ကြီးကို လောကသရဖူဘုရားရှေ့တွင် ဆောက်လုပ်တော်မူ၍ လှူဒါန်းမည်ပြုရာတွင် ရေစက်မချရသေးမီပင် နေရင်းဝါဆိုကျောင်း၌ ပျံလွန်တော်မူလေရာ ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ဝိနယဝိနိစ္ဆယနိသျ။
၂။ သုတ္တသင်္ဂဟနိသျ။
၃။ သုတ်မဟာဝါ အဋ္ဌကထာနိသျ။
၄။ သာသနသုဒ္ဓိဒီပက။

---

## ၂၅။ ရှင်ဂုဏာဘိ (မင်းအိုဆရာတော်)
(၁၀၇၀–၁၁၅၃)

မင်းအိုဆရာတော်ကြီးကား ကျမ်းပြုဆရာတော်တပါး မဟုတ်ချေ၊ သို့ရာတွင် ကျမ်းတတ်ဆရာတော်တပါးဖြစ်ရုံသာမက ဗားကရာဆရာတော်အရှင်ဓမ္မာဘိနန္ဒ, မောင်းထောင်ဆရာတော်အရှင်ဉာဏာဘိဝံသ, ကတိုးဆရာတော်အရှင်ဓမ္မဓရ,ညောင်ကန်ဆရာတော်အရှင် သဒ္ဓမ္မရံသီ စသော ဆရာတော်တို့၏ဆရာရင်းဖြစ်တော်မူသည်။

ဆရာတော်ကို ၁၀၇၀-ပြည့်နှစ်တွင် ဖက်တောကျေးကန်ရွာတွင်ဖွားမြင်၍ငယ်မည်မှာဦးအောင်ကျော်ဖြစ်၍ ရဟန်းဘွဲ့မှာရှင်ဂုဏာဘိဖြစ်၏၊ ငယ်စဉ်က ကျော်အောင်စံထားဆရာတော်၏တပည့်* ချောင်းကောက်ဆရာတော်ရှင်သဒ္ဓမ္မနန္ဒီထံတွင် ပညာသင်ကြားခဲ့သည်။

စဉ့်ကူးမင်းလက်ထက် မင်္ဂလာရွှေဘုံကျောင်းတော်ကို အလှူခံရလေသည်၊ ၁၁၄၉-ခုနှစ်တွင် အောင်မြေဘုံကျော်ကျောင်းတော်ကြီးကို ဘိုးတော်ဘုရားက ဆက်လက်လှူဒါန်းပြီး သာသနာပိုင် အပ်လေသည်၊ ဝိနည်းမှိုရ်ဆရာတော်လည်း ဖြစ်သည်။

---

*ချောင်းကောက်ဆရာတော်သည် သီလက္ခန်အဋ္ဌကထာဂဏ္ဌိ, နေတ္တိအဋ္ဌကထာနိသျ၊ ဝါစ္စဝါစကဋီကာ, ကစ္စာယနသာရအကောက်စသော ကျမ်းများကို ပြုစုတော်မူခဲ့သည်။

*ဂုဏာဘိနန္ဒသီရိ သဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တော်နှင့် ဂုဏာဘိနန္ဒဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တော်များကို ဆက်ကပ်လှူဒါန်းခြင်းခံရလေသည်၊ ၁၁၅၃-ခုနှစ်၊ မင်းအိုတိုက် အောင်မြေဘုံကျော်ကျောင်း၌ပင် ပျံလွန်တော်မူသည်။

---

## ၂၆။ ရှင်ဂုဏမုနိန္ဒ (မန်လည်သာသနာပိုင်)

(၁၀၇၆-၁၁၆၇)

မန်လည် သာသနာပိုင်ဟု ထင်ရှားသော ရှင်ဂုဏမုနိန္ဒမှာ ဆေးကျမ်း, ဓါတ်ကျမ်း, ဗေဒင်ကျမ်းများကို သက္ကဋမှ ပါဠိမြန်မာ ပြန်ဆိုတော်မူခဲ့သော ကျမ်းတတ်ပုဂ္ဂိုလ်ကျော်ပင် ဖြစ်လေသည်။

ရှင်ဂုဏမုနိန္ဒကို-သကရာဇ် ၁၀၇၆-ခုနှစ်တွင် သစိုးမန်လည်ရွာ၌ ဖွားမြင်လေသည်၊ ငယ်မည်မှာ ဦးသာကြီးဖြစ်လေသည်၊ သာမဏေဘ၀တွင် ရှင်ဂုဏဟူ၍၎င်း, ရှင်ဇဝနဟူ၍၎င်း, ဘွဲ့တော်ခံလေသည်၊ အသက်တော် ၂၂-နှစ်တွင်မှ ဘိုးတော်မင်းတရား၏ သမီးတော် ကန္တီမြို့စားမင်းသမီးအား ရဟန်းဒါယိကာပြု၍ ရဟန်းဘောင်သို့တက်တော်မူလေသည်၊ လောကီလောကုတ္တရာစာပေနှံ့စပ်တော်မူ၍ ၁၁၅၃-ခုနှစ် နတ်တော်လဆန်း ၁၂-ရက်နေ့တွင် မြို့တော်အရှေ့တောင်ဘက် မိုးထိဘုံသာဝေယံကျောင်းတော်ကြီးကို မင်းတရားကြီးက လှူဒါန်း၍ ဂုဏမုနိန္ဒာဓိပတိပဝရသာမိမဟာရာဇဂုရု ဘွဲ့တံဆိပ်တော်ကို ကပ်လှူလေသည်၊ သာသနာပြုဆရာတော် ၁၂-ပါးတွင် တပါးအပါအဝင်ဖြစ်လေသည်။ ဂုဏမုနိန္ဒာဓိပမိမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုလည်း ရသည်။

သကရာဇ် ၁၁၆၇-ခုနှစ်တွင် ပျံလွန်တော်မူလေသည်၊ ကျမ်းဂန်ပြုစုံတော်မူကြောင်း မတွေ့ရပေ။

---

*သာသနာ လင်္ကာရ၌ဂုဏာဘိလင်္ကာရသဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု-ဟု ပြသည်။

## ၂၇။ * ရှင်ယသ (အတုလဆရာတော်)

(၁၀၇၆-၁၁၄၆)

အတုလဆရာတော်ကား အလောင်းမင်းတရားကြီးလက်ထက်တွင် ထင်ရှားတော်မူသော ဆရာတော်တပါးဖြစ်လေသည်။

**သ**ကရာဇ် ၁၀၇၆-ခုတွင် ဥသျှစ်ကျေးရွာ၌ ဖွားမြင်တော်မူသည်၊ အင်္ဂါသားဖြစ်၍ လူအမည် ဦးပန်းထွေး- ရဟန်းမည် ရှင်ယသဖြစ်လေသည်၊ ၁၁၁၅-ခုနှစ်တွင် အတုလယသ မဟာဓမ္မရာဇာဓိ ရာဇာ ဂုရုတံဆိပ်တော်ကို ခံယူရသည်၊ ဆရာတော်သည် အကျင့် သီလရှိ၍ ကျမ်းဂန်အသင့်အတင့်နှံ့စပ်သည်ဆို၏၊ တပည့်ဝက်လက် ဆရာတော်က မင်းရေးစာကိုစီရင်သည်နှင့် စပ်လျဉ်း၍ အတုလဆရာတော်မှာ သဘောမကျဖြစ်ရာ မင်းတရားကြီးနှင့်သဘောကွဲရ၏၊ သို့ရာတွင် မင်းတရားကြီးအား အမြဲနည်းပေးဆုံးမ၍ တရားစာ၇၂-ပုဒ် ရေးသားပို့လေသည်၊ ဆရာတော်သည် လောကီရေးကိုငဲ့တော်မူ၏၊ ၁၁၄၆- ခုနှစ် သိက္ခာတော်(၅၀)တွင်လူဝတ်လဲရ၏။

ဆရာတော်သည် ရဲတင်းလင်္ကာကိုရေးခဲ့လေသည်၊ အလောင်းမင်းတရားကြီး၏ အမေးတို့ကိုလည်း ဖြေဆိုတော်မူခဲ့၍ ထိုအဖြေများမှာ နန်းစဉ်ပုစ္ဆာအဖြေကျမ်းဟူ၍ထင်ရှားသည်။

---

## ၂၈။ ရှင်ဂုဏာစာရ

## (ဒုတိယကျော်အောင်စံထားဆရာတော်) (၁၀၈၀-၁၁၃*)

ဒုတိယ ကျော်အောင်စံထား ဆရာတော်မှာ ရတနာပုရအင်းဝမြို့ အရှေ့ဘက်၌ ဆင်ဖြူရှင်မင်းတရားကြီး၏ အမှုတော်ထမ်းအရွှတ်ဝန် ဆောက်လုပ်အပ်သော ကြေးနီကျောင်းတွင် သီတင်းသုံးတော်မူသော ဆရာတော် ရှင်ဂုဏာစာရပင်ဖြစ်လေသည်။

---

*အချို့က ဉာဏာဘိဓမ္မာလင်္ကာရ ခင်ကြီးဖျော်(တောင်တွင်းဆရာတော်) အား အတုလဆရာတော်ဟု ထင်မှတ်မှားကြလေသည်၊ ခင်ကြီးဖျော်ကား ၁၀၈၆- ခုနှစ်ဖွား၊ ၁၁၂၄-ခုလွန်ဖြစ်သည်၊ ဘိုးတော်ဘုရား လက်ထက် ၁၁၄၆-ခုနှစ်တွင် အတင်ဂိုဏ်းအရေးနှိမ့်၍ အတုလဆရာတော် လူဝတ်လဲရသည်ကိုထောက်သဖြင့် ဘိုးတော်ဘုရားလက်ထက်အထိ ထင်ရှားသော အတုလဆရာတော်ရှင်ယသသည်သာ အတုလဆရာတော်အမှန်ဖြစ်ပေသည်။

ဆရာတော်မှာ သကရာဇ် ၁၀၇၀-ပြည့်နှစ်ဖွား အင်းဝမြို့တောင်ဘက် စေင်ရိုင်းရွာဇာတိဖြစ်လေသည်၊ ဒုတိယ ကျော်အောင်စံထားဆရာတော်ဟု အမည်တွင်ပုံမှာ ဟံသာဝတီရောက် မင်းတရားဆောက်လုပ်လှူဒါန်းတော်မူခဲ့သော ကျောင်းရံတရာရှိ ကျော်အောင်စံထားအမည်ရှိကျောင်းတော်တွင် မာဂဓအဘိဓာန်ကို ပြန်ဆိုတော်မူသော ပဉ္စမကျောင်းထိုင်ဆရာတော် ရှင်ဉာဏဝရ ပျံလွန်တော်မူပြီးနောက် ဒုတိယအကြိမ် ထိုကျောင်းသို့ ပြောင်းရွှေ့ သီတင်းသုံးနေတော်မူသောကြောင့်ဖြစ်သည်၊ (တတိယ, စတုတ္ထ ကျော်အောင်စံထား ဆရာတော်များလည်းရှိလေသေးသည်။)

ဆရာတော်သည် ကျမ်းဂန်တတ်မြောက်လှသည့်ပြင် ထိုးထွင်းဉာဏ်နက်နဲထက်သန်လှ၍ မြန်မာစာပေတွင် အခြေခံမှိုင်းမတဆူဖြစ်သော ဝေါဟာရတို့၏သဘောအနက်ကို အကျယ်ဖွင့်ပြရာ ဝေါဟာရတ္ထပကာသနီကျမ်းကို ရေးသားစီရင်တော်မူခဲ့သဖြင့် အထူးထင်ရှားလေသည်။

ဆရာတော် ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ မာဂဓအဘိဓာန်ဋီကာနိသျှဟောင်း။(၁၁၄၀)
၂။ ဝုတ္တောဒယဆန်းနိသျှနံ့ကျယ်(၁၁၅၁)
၃။ ဝေါဟာရတ္ထပကာသနီကျမ်း(၁၁၃၁)
၄။ ဝံသဒီပနီ။

---

## ၂၉။ ရှင်နန္ဒာဘိဓဇ (ဆုံထားဆရာတော်)

(၁၀၇၀-၁၁၄၆)

ဆုံထား ဆရာတော်မှာ သာသနာပိုင် ဆရာတော် တပါးဖြစ်၍ ၁၀၇၀-ပြည့်နှစ်တွင် အနောက်တိုက် ပေါက်မြင့်ရွာ၌ ဖွားမြင်တော်မူသည်၊ငယ်မည်မှာဦးစံဘလူးဖြစ်၍ ရဟန်းဘွဲ့တော်မှာ ရှင်နန္ဒမာလာဖြစ်လေသည်၊ ရေမိန်ဆရာတော် အရှင်ကလျာဏဓဇထံတွင် ကျမ်းဂန်သင်ကြားပြီး စလင်းမြို့သို့ကြွတော်မူသည်၊ ဝိနည်းတော်ကျမ်း တစောင်ပြုစုရာ ထန်းတပင်ဆရာတော်က စစ်ဆေးမင်းအား ပြသဖြင့် မင်းကကြည်ညိုသောကြောင့် လေးထပ်ဇေတဝန် ရွှေကျောင်းကို ဘုံကျော်ဝေယန် သမုတ်၍ တင်လှူတော်မူလေသည်။

ဘိုးတော်ဘုရား၏သားတော်များ ကိုးကွယ်တော်မူ၍ အိမ်ရှေ့မင်း မိဖုရားကျောင်းတော်ကို မင်္ဂလာဝေယန်သမုတ်၍လှူတော်မူကာ သာသနာပိုင်အဖြစ်ကို အပ်နှင်းခြင်းခံရသည်၊ ရဟန်းပျို ဘဝကပင် ကျမ်းဂန်အများပြုစုခဲ့လေသည်၊ * နရိန္ဒာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု၊ နရိန္ဒာဘိသီရိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု၊ တိပိဋကာလင်္ကာရ သဒ္ဓမ္မသာမိ မဟာဓမ္မရာဇာဓိ ရာဇဂုရု တံဆိပ်တော်များကပ်လှူခြင်းခံရသည်၊ ဆရာတော်သည် ၁၁၄၆-ခုတွင်ပျံလွန်တော်မူသည်။

ဆရာတော်ပြုစုတော် မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ သုတ္တသင်္ဂဟပါဠိတော်နိဿယသစ်။
၂။ ဒွါဒသနိပါတ်ဇာတ်အဋ္ဌကထာနိဿယ။
၃။ တေရသနိပါတ်ဇာတ်အဋ္ဌကထာနိဿယ။
၄။ သုတ္တသင်္ဂဟအဋ္ဌကထာနိဿယ။
၅။ ဝိသုဒ္ဓိမဂ်အဋ္ဌကထာနိဿယ။
၆။ ဇိနာလင်္ကာရစာကိုယ်နိဿယ။
၇။ အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိဿယ။
၈။ အဖေဂ္ဂုသာရဒီပနီအမေးအဖြေ။
၉။ သုတ်ပါထေယျအဋ္ဌကထာဂဏ္ဌိ။
၁၀။ သုတ်မဟာဝါအဋ္ဌကထာဂဏ္ဌိ။
၁၁။ သာသနသုဒ္ဓိဒီပကကျမ်း။

## ၃၀။ ရှင်ဂုဏာလင်္ကာရ (ပဲခင်းကျော်ဆရာတော်)
(၁၀၈၆-၁၁၃၇)

ပဲခင်းကျော်ဆရာတော်ကို ၁၀၈၅-ခုနှစ်တွင် တောင်သာမြို့စီရင်စု ပဲခင်းကျော်ရွာ၌ဖွားမြင်သည်၊ အလောင်းမင်းတရား၏သားတော် ပဒုံမြို့စားကိုးကွယ်တော်မူ၍ ရွှေဘိုမြို့တွင် ဝေယန်ဘုံကျော် ကျောင်းကို

* မင်းလှသီရိသီဟသူ၏မှတ်တမ်း၌ ရှင်နန္ဒာဘိဇဟုရှိသည်၊ ပိဋကတ်တော်သမိုင်း၌ကား နရိန္ဒာဘိသီရိသဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့ရ မန္တကျီတိုက်စီရင်စု ဆုံထားရွာဇာတိဟု ဖော်ပြသည်၊ ဘွဲ့တော်ကိုလည်း ရှင်နန္ဒမာလာဟုပြသည်။

ဆောက်လုပ်လှူဒါန်းသည်၊ရတနာပုရမြို့သို့ရောက်သောအခါ မဟာမြတ်မုနိစေတီတော်တောင်ဘက်ဝိနည်းဓိုရ်ပဒုံကျောင်းတိုက်တွင် သီတင်းသုံးသည်၊ ၁၁၃၇-ခုနှစ်တွင် ပျံလွန်တော်မူသည်။

ဆရာတော်သည် သဒ္ဒတ္ထဘေဒစိန္တာစာကိုယ်နိဿယကို ရေးသားခဲ့၍ ထိုနိဿယကို ပဲခင်းကျော်နိသျှဟု ခေါ်တွင်ကြသည်။

---

## ၃၁။ ရှင်ဇာဂရ(မင်းရွာသာသနာပိုင်ဆရာတော်)

(၁၀၇၅-၁၁၆၆)

*မင်းရွာသာသနာပိုင်ဆရာတော်ကြီးကို ၁၀၇၅-ခုနှစ်တွင် မတ္တရာမြို့ကျေး ဝါးရင်းတုတ်ရွာတွင် ဖွားမြင်သည်၊ လူမည် ဦးစံသာဖြစ်၍ ရှင်သာမဏေဘွဲ့ ရှင်ဇာဂရဖြစ်သည်၊ ထိုဘွဲ့ဖြင့်ပင် ရဟန်းဘောင်သို့ တက်ရောက်၍ အမရပုရမြို့တည် ဘိုးတော်ဘုရားသားတော် အိမ်ရှေ့မင်းနှင့် အလယ်နန်းမိဖုရားတို့က ဆောက်လုပ်သော ကျောင်းတော်ကို ၁၁၄၉-ခုနှစ်တွင် မင်္ဂလာစံလွှတ်သမိုက်၍ အလှူခံတော်မူသည်၊ ဇမ္ဗုဒီပ အနန္တဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုလည်း ခံယူသည်၊၁၁၆၆-ခုနှစ်တွင် ပျံလွန်တော်မူသည်၊ကျမ်းများပြုစုခဲ့သည်ဟု မထင်ရှားချေ။

---

## ၃၂။ ရှင်ဥာဏ(ခင်ကြီးဖျော်-တောင်တွင်းဆရာတော်)

(၁၀၈၆-၁၁၂၄)

ခင်ကြီးဖျော်မှာ စာပေလောက၌ ထင်ရှားသောပညာရှိစုံရဟန်းတော်တပါး ဖြစ်လေသည်၊ သက္ကရာဇ် †၁၀၈၆-ခု ကဆုန်လပြည့် အင်္ဂါနေ့ နံနက်တွင် တောင်တွင်းကြီးမြို့မြောက်ဖက် ပုတီးကုန်းရွာ ဦးဘိုးပြေ-ဒေါ်ကြာတို့မှ ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်ဖျော်ဖြစ်သည်။

---

* ဘိုးတော်ဘုရားလက်ထက်မှာပင်ပရမသီရိဇမဟာဓမ္မရာဇဂုရုဘွဲ့တံဆိပ်တော်ရမင်းရွာဆရာတော်သည် သင်္ဂြိုဟ်ပါတ်ဇာတ် အဋ္ဌကထာနိဿျ၊ သတ္တနိပါတ်ဇာတ်အဋ္ဌကထာနိဿျများကို စီရင်တော်မူကြောင်းနှင့် ပိဋကတ်တော်သမိုင်းတွင် ဖေါ်ပြသည်။

† မှန်းလှသီရိသီဟသူ၏ မှတ်စုတွင် ၁၀၈၄-ဟုပြသည်။

မောင်ဖျော်သည် ဆယ်နှစ်သားအရွယ်တွင် ရှင်သာမဏေဝတ်ရာ ဘွဲ့မှာရှင်ဉာဏဖြစ်လေသည်၊ ဉာဏ်အလွန်ထက်မြက်၍ စာပေပိဋကတ်များကို လျင်မြန်စွာသင်ကြားဘတ်မြောက်လေသည်၊ အသက်နှစ်ဆယ်အရွယ်တွင် ရဟန်းဘောင်သို့တက်ရောက်ပြီးနောက်ပုဂံပြည်ရွှေကျောင်းဆရာတော်စီထံတွင် ပညာဆက်လက်ဆည်းပူးလေသည်၊ ကျမ်းဂန်တတ်လှသဖြင့် အထူးထင်ရှားလှ၍ မတလုံးကျော် မကာရလောပဆံရာတော်ဟု အများအသိအမှတ်ပြုကြလေသည်။

အလောင်းဘုရား၏သားတော် အိမ်ရှေ့မင်းကပင့်ဆောင်ကိုးကွယ်၍ ဉာဏာဘိဓမ္မာလင်္ကာရ သဒ္ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုကပ်လှူပြီးနောက် ရတနာရွှေဘုံတုလွတ်ကျောင်းကြီးကိုဆောက်လုပ်လှူဒါန်းလျက် သယ်ရာဇာသာသနာပိုင် ဆရာတော်အဖြစ်တင်မြှောက်လေသည်။

ဆရာတော်သည် ခဲရာခဲဆစ်လောကီ,လောကုတ္တရာ ရေးရာများကိုဖြေရှင်းဖွင့်ပြတော်မူလေ့ရှိ၍ သကရာဇ် ၁၁၂၄-ခုနှစ် သက်တော် ၃၈-နှစ်တွင် ပျံလွန်တော်မူလေသည်။

ဆရာတော်ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ ဝိထိလင်္ကာရိုးကျမ်း။
၂။ ဂန္ထိရတ္တဒေသနာအရကောက်ကျမ်း။
၃။ ဒွါဒသရာသီကျမ်း။
၄။ ဒွါဒသစိန္တာနက္ခတ်ကျမ်း။
၅။ အာဒိကပ္ပကျမ်း။
၆။ ကပ္ပါလင်္ကာရကျမ်း။
၇။ ကပ္ပဝဏ္ဏနာကျမ်း။
၈။ လက်ရိုးဗေဒင်ဋီကာကျမ်း။
၉။ အင်္ဂဝိဇ္ဇာကျမ်း ၉-တွဲ။
၁၀။ ဆနဝုတိဆေးကျမ်း။
၁၁။ အသီတိခေတ်ကျမ်း။

၁၂။ ဇမ္ဗူတန်ဆောင်ကျမ်း။
၁၃။ ဇမ္ဗူဦးဆောင်းကျမ်း။
၁၄။ ဇမ္ဗူကွန်ခြာကျမ်း။
၁၅။ အာချုတ်သာမိနိယံကျမ်း။
၁၆။ သမ္ဗန္ဓဆက္ကာဝဏ္ဏနာကျမ်း။
၁၇။ သုတ္တမာလာ,ဝုတ္တိမာလာကျမ်း။
၁၈။ ပုဒ်ဆစ်,သဒ္ဒါဆစ်။
၁၉။ သံဝဏ္ဏနာကျမ်း။
၂၀။ နည်းလေးဆယ်။
၂၁။ သဒ္ဒါငယ်ကစ္စာယနသာရအကောက်။
၂၂။ ဉာသ်ကောက်။
၂၃။ နေတ္တိဟာရအကောက်။
၂၅။ ဇော်ကဝိဇ္ဇာကျမ်း (ဒွါဒရာသီအဖွင့်။)
၂၆။ အင်္ဂဝိဇ္ဇာမဟာဋီကာကျမ်းရင်း။
၂၇။ ဒွါဒသိန်ကျမ်း။
၂၈။ လက်ဝဲနော်ရထာလျှောက်ထုံးအဖြေ။
၂၉။ ကလျာဏီရွှေကျောင်းမော်ကွန်းဂါထာပါဠိနိသျှ။
၃၀။ သဒ္ဒါကြီးဂဏ္ဌိပဒ္ဒ။

---

## ၃၃။ ရှင်နရိန္ဒ(ပိုက်သင်ဆရာတော်)

(၁၀၈၇–၁၁**)

ပိုက်သင်ဆရာတော်ကို ၁၀၈၇-ခုနှစ်တွင် ပုခန်းကြီးမြို့ကျေး ပိုက်သင်ရွာတွင်ဖွားမြင်သည်၊ အမရပုရမြို့တည်မင်းတရားကြီး သားတော် အိမ်ရှေ့မင်းနှင့် အိမ်ရှေ့မိဖုရားတို့က ကိုးကွယ်၍ မြို့တော်အနောက် သရက်တောကျောင်းတိုက်တွင် မင်္ဂလာဝေယန် ကျောင်းတော်ကြီးကို ဆောက်လုပ်လှူဒါန်းသည်၊ နရိန္ဒာဘိသီရိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုလည်းခံယူရသည်၊ ဆရာတော်သည် ကျမ်းပြုစုသည်ဟု မထင်ရှားချေ။

---

## ၃၄။ ရှင်မေဓာဝီ(တောင်လေးလုံးဆရာတော်)

(၁၀၉၀–၁၁၆၈)

*စတုဂီရိတောင်လေးလုံးဆရာတော်ဟုထင်ရှားသောရှင်မေဓာဝီမှာ လောကုတ္တရာကျမ်းများကို မြန်မာစကားပြေသက်သက်ဖြင့် ရေးသား ပြုစုတော်မူခဲ့သော ဆရာတော်ဖြစ်လေသည်။

ရှင်မေဓာဝီကို သကရာဇ် ၁၀၉၀-ပြည့်နှစ်တွင် အထက်အညာ ဉသျှစ်ကျေးရွာ၌ ဖွားမြင်တော်မူလေသည်၊ ငယ်မည်မှာ မောင်ပန်း ဖြစ်လေသည်။

ဘိုးတော်ဘုရား လက်ထက်တွင် ဟသ်ာတမြို့စား မင်းသမီးက ကိုးကွယ်၍ မြို့တော်မြောက်ဖက် မင်းရွာတိုက် အတွင်းဆုံးထပ် ရွှေကျောင်းကြီးတွင် သီတင်းသုံးတော်မူလေသည်၊ ထိုမှတဖန်မန္တလေး တောင်သို့ကြွ၍ တောရပ်မှီလေသည်၊ ထိုဒေသကိုအစွဲပြု၍ တောင် လေးလုံးဆရာတော်ဟု တွင်လေသည်၊ ဘိုးတော်ဘုရားက မုနိန္ဒာဘိ- လင်္ကာရသဒ္ဓမ္မသာမိ မဟာရာဇဂုရု တံဆိပ်တော်နှင့် ဘွဲ့ထူးကို ကပ်လှူခြင်းခံရလေသည်။

ဆရာတော်သည် ၁၁၆၈-ခုနှစ်တွင် ပျံလွန်တော်မူရာ ပြုစုတော် မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ နမောတဿဂဏ္ဌိရှုဖွယ်။(၁၁၆၃)

၂။ အနုတ္တရရှုဖွယ်။

၃။ ဓမ္မပိယရှုဖွယ်။

---

## ၃၅။ ရှင်ပုညသေန္ဒ(ပဉ္စမညောင်ကန်ဆရာတော်)

(၁၀၉၂–၁၁၇၂)

ညောင်ကန်ဆရာတော် ရှင်ပုညသေန္ဒကို သကရာဇ် ၁၀၉၂-ခုနှစ် တွင် ပုခန်းကြီးမြို့နယ် ခပိုရွာ၌ဖွားမြင်သည်၊မိဖအမည်ကို မသိရှိရပေ၊

---

*ပိဋကတ်တော်သမိုင်းတွင် ဘိုးတော်ဘုရားလက်ထက်၌ပင် ဆက္ကနိပါတ်, သတ္တနိပါတ် ဇာတ်အင်္ဂကထာနိသျှများကို ပြုစုတော်မူသော ရှင်အာဒိစ္စဝံသာ ဘိဓဇမဟာဓမ္မရာဇဂုရုဘွဲ့ခံ တောင်လေးလုံးဆရာတော်တပါး ရှိသေးကြောင်း ဖေါ်ပြထားလေသည်။

ငယ်မည်မှာ မောင်ပျော်ဖြစ်၍ ရဟန်းပြုသော် ရှင်ပုညသေဋ္ဌဟုခံသည်၊ ဘိုးတော်ဘုရားလက်ထက်တွင် အမရပူရမြို့တော် အနောက်မျက်နှာ သရက်တောမင်္ဂလာ ဝေယန်ကျောင်းတိုက်၌ စာပေပို့ချသီတင်းသုံး တော်မူသည်၊ ရတနာပူရတတိယမြို့တည် မင်းတရားကြီး လက်ထက်တွင် ရာဇနာမတ္တ ပကာသနီကျမ်းကို ရေးသားသည်၊ ဘိုးတော်ဘုရား၏ *ဗုဒ္ဓရက္ခိတမဟာဓမ္မရာဇဂုရု တံဆိပ်တော်ကိုခံယူရသည်။

ဆရာတော်သည် ၁၁၇၂-ခုနှစ်တွင် ပျံလွန်တော်မူရာ ပြုစုတော်မူသောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ ရာဇနာမတ္တပကာသနီ။

၂။ အဘိဓမ္မာသင်္ဂြိုဟ်ဝိဘာဝနီဋီကာ။

---

## ၁၆။ ရှင်ဂုဏာစာရ (ပဌမရွှေတောင်ဆရာတော်)
## (၁၀၉၂–၁၁၇၂)

ရွှေတောင်ဆရာတော်ကို သက္ကရာဇ် ၁၀၉၂-ခုနှစ်တွင် ရွှေတောင်မြို့ကျေး ရွှေနတ်တောင် မင်းရွာ၌ဖွားမြင်သည်၊ ငယ်မည်မှာ ဦးနွဲ့ဖြစ်သည်၊ အသက် ၁၃-နှစ်ရွယ်မှစ၍ သာမဏေပြုသည် အရွယ်ရောက်သော် ရဟန်းဘောင်သို့ဝင်ရောက်၍ ရှင်ဂုဏာစာရဟုခံသည်၊အမရပူရမြို့တည် မင်းတရားကြီး၏သားတော် ပြည်မြို့စားကကိုးကွယ်၍ မြို့တော်အရှေ့ တောင်ယွန်းရွှေတောင်တိုက်တွင် ကျောင်းဆောက်၍ တလွတ်ဘုံစံသမိုက်ကာလှူဒါန်းသည်၊ †ဂုဏမုနိန္ဒာလင်္ကာရ သဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုရသည်၊ ၁၁၇၂-ခုနှစ်တွင် ပျံလွန်တော်မူသည်။

---

* မင်းလှသီရိသီဟသူမှတ်တမ်းတွင် ဗုဒ္ဓရက္ခိတမဟာသာမိဟုဆိုသည်။

† ပိဋကတ်သမိုင်းတွင် ဂုဏာဘိဝံသ မဟာဓမ္မရာဇာဓိရာဇဂုရုဟူ၍ ပြသည်၊ သာသနာလင်္ကာရ ၁၉၇-တွင် ကဝိန္ဒာဘိ သဒ္ဓမ္မပဝရမဟာဓမ္မရာဇဂုရု ဟူ၍ ပြသည်၊ ပြည်ဆရာတော်ဟုလည်းထင်ရှားသည်။

ဆရာတော်ပြုစုသော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ စတုက္ကနိပါတ်ဇာတ်အဋ္ဌကထာနိဿျ။
၂။ ပဉ္စကနိပါတ်ဇာတ်အဋ္ဌကထာနိဿျ။
၃။ ဝိထိလက်ရိုး။
၄။ သမ္မောဟဝိနောဒနီအဋ္ဌကထာဂဏ္ဌိ။
၅။ သုဗောဓာလင်္ကာရနိဿျ။

## ၃၇။ ရှင်ဂုဏာသီရိ (ဗန့်ပိုးဆရာတော်)

(၁၀၉၃-၁၁၆၈)

ဗန့်ပိုးဆရာတော်ကို ၁၀၉၃-ခုနှစ်တွင် ဗန့်ပိုးရွာ၌ဖွားမြင်သည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်ဂုဏာသီရိဘွဲ့ ခံယူသည်၊ မြို့တော်မြောက်မျက်နှာ မင်းရွာတိုက်တွင် သီတင်းသုံးတော်မူရာ မင်းရွာဆရာတော်ကြီး ပျံလွန်တော်မူသော် သာသနာပိုင် မောင်းထောင်ဆရာတော်ကြီးက မင်းရွာတိုက်အုပ် နိဿျည်းဆရာတော် ခန့်အပ်သည်၊ဂုဏာသီရိ-ဝံသဓဇမဟာဓမ္မရာဇဂုရုတံဆိပ်တော်ကိုခံယူရသည်၊ ဆရာတော်သည် ၁၁၆၈-ခုနှစ်တွင် ပျံလွန်တော်မူသည်။

## ၃၈။ ရှင်သဒ္ဓမ္မနန္ဒီ (ချောင်းကောက်ဆရာတော်)

(၁၀၉၈-၁၁၅၅)

ချောင်းကောက် ဆရာတော်ကို ပုခန်းကြီးစီရင်စု ချောင်းကောက် သပြေငါးရွာတွင် ၁၀၉၈-ခုနှစ်တွင်ဖွားမြင်သည်၊ယိမည်မှာဦးထွားဖြူဖြစ်သည်၊ရဟန်းဘွဲ့မှာရှင်သဒ္ဓမ္မနန္ဒီဖြစ်၍ ၁၁၃၇-ခုနှစ်တွင် ရဟန်းဘာဝမှလူထွက်၍ ဘိုးတော်မင်းတရားထံခစားရာ ဗလရာဇာဘွဲ့နှင့် လေးဆယ်တော် သွေးသောက်ကြီးခန့်လေသည်၊ ထိုနောက် သက်ပန်းရွာကိုစားရ၍ အတွင်းဝန်အရာရသည်၊ ၁၁၅၅-ခုနှစ်တွင် အနိစ္စရောက်သည်။

ချောင်းကောက် ဆရာတော် ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ သီလက္ခန်အဋ္ဌကထာဂဏ္ဌိ။
၂။ နေတ္တိအဋ္ဌကထာနိဿျ။
၃။ ဝါစ္စဝါစကဋီကာ။
၄။ ကစ္စာယနသာရအကောက်။
၅။ ကင်္ခါဝိတရဏီအဋ္ဌကထာဂဏ္ဌိ။

## ၃၉။ ရှင် + + (ခိုနန်းဆရာတော်)

(၁၀၉၉–၁၁၇၆)

ခိုနန်းဆရာတော်ကို ၁၀၉၉-ခုနှစ်တွင်ဟလင်းမြို့၌ ဖွားမြင်တော်မူသည်၊ ဗေဒင်တတ်မြောက်တော်မူသည်၊ အမရပူရမြို့တော် အနောက်မျက်နှာ တရုပ်တန်းရပ် ခိုနန်းကျောင်းတိုက်တွင် သီတင်းသုံးတော်မူသည်။

ဆရာတော်သည် ၁၁၇၆-ခုနှစ်တွင်ပျံလွန်တော်မူသည်။

## ၄၀။ ရှင်ဓမ္မာဘိနန္ဒ (ပဌမဗားကရာဆရာတော်)

(၁၁၀၀–၁၁၆၂)

ဗားကရာဆရာတော်မှာ အဘိဓမ္မာကျမ်းများ ပြုစုရာတွင် ထင်ရှားသော ဆရာတော်တပါးဖြစ်လေသည်၊ မင်းအိုဆရာတော်၏ တပည့်ဖြစ်လေသည်။

သကရာဇ် ၁၁၀၀-ပြည့်နှစ်တွင် ပခန်းကြီးမြို့နယ် မြင်ရွာတွင် ဖွားမြင်၍ ငယ်မည်မှာမောင်ကျော်ထွေးဖြစ်လေသည်၊အသက် ၂၀-အရွယ်တွင်ရဟန်းပြု၍ ရှင်ဓမ္မာဘိနန္ဒဘွဲ့ခံလေသည်၊ ရှင်မည်မှာ ရှင်နန္ဒမာလာဖြစ်ရာ ရဟန်းဒါယကာမှာ မကွေးမြို့စားအတွင်းဝန်ဖြစ်လေသည်၊ ရဟန်းဒါယကာကပင်အဝမြို့တော် အနောက်ဘက်တွင် ဗားကရာကျောင်းတိုက်ကို ဆောက်လုပ်၍ လှူဒါန်းလေသည်။

ဆရာတော်သည် ဉာဏ်ရောစိတ်ပါထက်မြက်လှ၍ မာန်မာနကြီးလေသည်၊ ထိုနောက်တွင် အမရပူရမြို့တော်သို့ ပြောင်းရွှေ့၍ တိပိဋကာလင်္ကာရသီရိဓဇမဟာဓမ္မရာဇဂုရုဘွဲ့ကိုခံယူကာ မြို့တော်အနောက်ပြင် ဗားကရာတိုက်မှာပင် သီတင်းသုံးလေသည်၊သဲအင်းသာသနာပိုင်ဆရာတော်ကြီး၏ဆရာဖြစ်လေသည်။

ထိုနောက်တွင် ဘုရင်နှင့်မသင့်မတင့်သဖြင့် ဆရာတော်သည် စိတ်ထင်ရာပြုတော်မူသောကြောင့် အဝတ်ဖြူလဲ၍ နေရင်းဌာနသို့ပို့ရန် အမိန့်တော်ချမှတ်သဖြင့် မဟာဒါန်ဝန်တို့ကပုခန်း မြို့ရွာသို့ပို့ရလေသည်။

*ဝတ်ဖြူဘဝနှင့်ပင်၁၁၆၂-ခုနှစ်တွင်အနိစ္စရောက်လေရာပြုစုတော်မူခဲ့သောကျမ်းများအနက် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ ဝါစကောပဒေသစာကိုယ်နိသျ။
၂။ အဘိဓမ္မတ္ထသင်္ဂြိုဟ်အကောက်နှင့်အနက်။
၃။ ကစ္စာယနသာရစာကိုယ်နိသျ။
၄။ သဒ္ဒဗိန္ဒုစာကိုယ်နိသျ။
၅။ ဒသနိပါတ်ဇာတ်အဋ္ဌကထာနိသျ။
၆။ ဝါစ္စဝါစကစာကိုယ်နိသျ။
၇။ ဝါစ္စဝါစကဒီပနီနိသျ။
၈။ သဒ္ဒဝုတ္တိစာကိုယ်နိသျ။
၉။ ကောဒသနိပါတ်ဇာတ်အဋ္ဌကထာနိသျ။
၁၀။ သမ္ဗန္ဓစိန္တာစာကိုယ်နိသျ။
၁၁။ ခုဒ္ဒသိက္ခာနိသျ။
၁၂။ ဂန္ထာဘရဏစာကိုယ်နိသျ။
၁၃။ သဒ္ဒတ္ထဘေဒစိန္တာနိသျ။
၁၄။ ဝိဘတျတ္ထနိသျ။
၁၅။ မူလဋီကာဒွါရကထာအဖွင့်နိသျ။
၁၆။ သဒ္ဒါကြီး ၈-စောင်သုတ်နက်။
၁၇။ သရာပကတိဗျဉ္ဇနေသုတ်အဖွင့်ချာသနိသျ။

[ပုဂံမင်းလက်ထက် ပညာဇောတာဘိဝံသ သီရိပဝရလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ အင်္ဂုတ္တရနိကာယ် ၁၁-ကျမ်းနိသျသစ်ပြန်ဆိုတော်မူသောဆရာတော်မှာ ဒုတိယမားကရာဆရာတော်ဖြစ်လေသည်။]

* သီလဝိသောဓနီကျမ်း၌ မင်းကြေရာဇ်ရာဇဝင်တော်သိမ်းလျှင် သိက္ခာသစ်ပြန်၍ ယူရသည်ဟုဆို၏၊ မင်းလှသီရိသီဟသူ၏ မှတ်တမ်း၌ကား အဝတ်ဖြူနှင့် အနိစ္စရောက်သည်ဟုသာဆိုသည်၊ မားကရာဆရာတော်၏ တပည့်ကား သဲအင်းသာသနာပိုင်ဆရာတော် ရှင်သူရိယာဘိဝံသဖြစ်၏။

၁၈။ ဓမ္မနီတိနိသျ။ (၁၁၄၅)
၁၉။ ပရမတ္ထဗိန္ဒုစာကိုယ်နိသျ (ရှင်မုနိန္ဒသာရ လိုက်၍ရေးသည်။)
၂၀။ အဘိဓမ္မတ္ထသင်္ဂဟနိသျ (ရှင်ပုညသေဋ္ဌလိုက်၍ရေးသည်။)
၂၁။ မာတိကာအရကောက် (အရှင်ဝရတေဇောရေးမှတ်သည်။)
၂၂။ ဝုတ္တောဒယဆန်းနိသျ(ရှင်မုနိန္ဒသာရလိုက်၍ရေးသည်။)
၂၃။ ဓာတုကထာမူလဋီကာနိသျ(ရှင်မုနိန္ဒသာရလိုက်ရေးသည်။)
၂၄။ ရှုံသင့်,တင်သင့်အဆိုစာတမ်း။ (၁၁၄၁)
၂၅။ ဘိုးတော်မင်းတရားအမေးတော်ပုံအဖြေ။
၂၆။ ဟံသာဝတီပါမင်းရတုအဖြေ။ (၁၁၂၇)
၂၇။ ဘိက္ခုနီပါတိမောက်နိသျ(ရှင်မုနိန္ဒသာရရေးမှတ်သည်။)
၂၈။ သဂြိုဟ်ပဏ္ဏာမဒီပနီ(ဂုကြီးဆရာတော်ရေးမှတ်သည်။)
၂၉။ သုဗောဓါလင်္ကာရနိသျ။
၃၀။ ပရမတ္ထဗိန္ဒုဋီကာနိသျ။ (၁၁၄၈)
၃၁။ သဒ္ဒမေဒဒီပနီ။ (၁၁၃၅)

## ၄၁။ ရှင်×× (စဉ့်ပါဆရာတော်)

(၁၁၀၁–*)

စဉ့်ပါဆရာတော်ကို ၁၁၀၁-ခုနှစ်တွင်ဖွားမြင်လေသည်၊ မဏိပူရပြည်သားဖြစ်လေသည်၊ ဆင်ဖြူရှင်မင်းတရားလက်ထက် စစ်ကိုင်းမြို့ စဉ့်ပါတိုက်တွင် သီတင်းသုံးလေသည်၊ ဆရာတော်၏ တပည့် ၁၁၀၂-ခုနှစ်ဖွား ခင်ကြီးသာသည်လည်း ဆရာတော်နှင့် တလတည်းအတွင်း ပျံလွန်တော်မူ၍ နှစ်ပါး လောင်တိုက်ယှဉ်ကာ သဂြိုဟ်ရသည်။

ဆရာတော်သည် †ဓမ္မနီတိချိုးကို ရေးသားတော်မူခဲ့လေသည်။

---

* သက္ကရာဇ် ၁၁၀၆-ခုနှစ်ဖွား စဉ့်ပါရွာဇာတိ လူမည်ဦးချောပုံ ရတနာပုရစတုတ္ထမြို့တည် မင်းတရားလက်ထက် ဗန်းမော်ဝန်ဟောင်း မောင်ရှိန်းဆောက်လုပ်သော ငွေစင်ချောင်းထိပ်လေးထပ်ကျောင်းကို အလှူခံသည့် ဆရာတော်သည်လည်း စဉ့်ပါဆရာတော်ဟု တွင်သည်။

† ဓမ္မနီတိချိုးကို-စစ်ကိုင်းမြို့ မန်ကျည်းစင်ရွာဇာတိ စဉ့်ပါတောရနေရဟန်းတော် ဦးရွှင်ရေးသည်ဟုလည်း မှတ်သားကြသည်၊ ထိုစဉ့်ပါဆရာတော်သည်ရတု, မေတ္တာစာများနှင့် သာမုဒြိကပျို့တို့ကိုလည်း ရေးသားခဲ့သည်။

## ၄၂။ ရှင်ဝရ (မုံတောဆရာတော်)
### (၁၁၀၂–၁၁၈၄)

မုံတောဆရာတော်ကို ၁၁၀၂-ခုနှစ်တွင်-အင်းရင်း မုံတောရွာ၌ ဖွားမြင်တော်မူသည်၊ ငယ်မည်မှာ ဦးပျော်ဖြစ်သည်၊ အသက် ၁၃-နှစ်အရွယ်တွင် သာမဏေဝတ်၍ ၈-ဝါအရ အသက် ၂၁-နှစ်တွင် ရဟန်းပြုလေသည်၊ ဘွဲ့တော်မှာ *ရှင်ဝရဖြစ်၍ အမရပုရမြို့တည် မင်းတရားကြီးသားတော် အိမ်ရှေ့မင်းက ကိုးကွယ်ကာ အင်းဝမြို့အရှေ့တောင်ထောင့် မိုးထိတိုက် မဟာမင်္ဂလာရွှေဘုံကျောင်းတော်ကို အလှူခံယူတော်မူသည်၊ သက်တော် ၈၂-ဝါတော် ၆၂-၁၁၈၄-ခုနှစ်တွင် ပျံလွန်တော်မူလေသည်၊ ဆရာတော်သည် အတိတ်သုံးဘဝကို ပြန်ပြောင်းပြောပြနိုင်သည်ဟု ဆိုလေသည်၊ မုံတောဆရာတော်သည် မိုးထိဆရာတော် ပဋ္ဌင်းတက်ရောက်သောအခါ ၁၁၄၅-ခုနှစ်တွင် ကမ္မဝါဆရာတော်အဖြစ် ချီးမြှောက်တော်မူသည်၊ မုံတောဆရာတော်သည် ဘိုးတော်မင်းတရားလက်ထက်တွင် ပုံတော်ပြက္ခဒိန်နှင့် မူလပြက္ခဒိန်-လက်ခံရေးကိစ္စ၌ သုဓမ္မာသဘင်၌ မင်းတရားကြီးအမိန့်ဖြင့် လက်ဝဲသံဗိုလ် မေးသည်တွင်မူလပြက္ခဒိန်ကို ကြိုက်သည်ဟု မင်းမျက်နှာကို မငဲ့ဘဲ မိန့်တော်မူကြောင်းဖြင့် အစဉ်မှတ်သားထားလေသည်၊ ဆရာတော်သည် သာသနာပြုဆရာတော်တကျိပ်နှစ်ပါးတွင် ပါဝင်တော်မူသည်။

---

*မင်းလှသီဟသူ၏ မှတ်စုတွင် ဝံသာဘိသီရိသဒ္ဓမ္မာလင်္ကာရဓဇမဟာ ဓမ္မရာဇာဓိရာဇဂုရုဘွဲ့ကိုရရှိသည်ဟုဆိုသော်လည်း ထိုဘွဲ့မှာ မုံတောဆရာတော်၏ ဘွဲ့မဟုတ်ဘဲ မုန့်တိုင်ပင်ဆရာတော်၏ ဘွဲ့သာဖြစ်နေလေသည်၊ မုံတောဆရာတော်သည် ၁၁၈၃-ခုနှစ်တွင် မင်းတရားကြီး အတွင်းဝန် မေးလျှောက်ရာ၌ သက်တော် ၈၀-ဝါတော် ၆၀-ရှိကြောင်း မိန့်တော်မူသည်၊အသက် ၂၀-၌ ရဟန်းပြုကြောင်း ထင်ရှားသည်၊ မုံတိုင်ပင်ဆရာတော်ကား ကိုယ်တိုင်ရေး သုံးပုံ့တံချူကျမ်းတွင် အသက် ၂၄-နှစ်ရှိမှ ရဟန်းအဖြစ်ရောက်သည်ဟု ဖေါ်ပြထားသဖြင့်အတ္ထုပ္ပတ္တိချင်းကွဲလွဲပေသည်၊ပိဋကတ်တော်သမိုင်းတွင် ဝံသာလင်္ကာရသီရိဓဇမဟာရာဇဂုရုဟုဖေါ်ပြသည်၊သီလဝိသောဓနီ၌ ဝဇီရာလင်္ကာရ သဒ္ဓမ္မဓဇမဟာဓမ္မရာဇဂုရုဟုရှိသည်၊သာသနာဝံသဒီပနီ၌ ဇနိန္ဒာဘိ ပဝရမဟာရာဇဂုရုဟုရှိသည်၊ ဘိုးတော်ဘုရားလက်ထက် မုံတောဆရာတော် ရှင်ဝိရိယာရမ္ဘဟုမျှ ရှိသေးသည်၊ ဝံသာဘိသီရိသဒ္ဓမ္မာလင်္ကာရဓဇမဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်ပင် ရသည်။

ဆရာတော်ပြုစုခဲ့သော ကျမ်းများတွင် အောက်ပါ ကျမ်းများပါဝင်လေသည်။

၁။ ဝိသတိနိပါတ် ဇာတ်အဋ္ဌကထာနိသျ။

၂။ တိံသနိပါတ် ဇာတ်အဋ္ဌကထာနိသျ။

## ၄၃။ ရှင်ပရမ (ပဌမမဲထီးဆရာတော်)

(၁၁၀၄-၁၁၅၉)

မဲထီးဆရာတော်ကို ၁၁၀၄-ခုနှစ်တွင် တောင်ငူမြို့ မဲထီးရွာတွင် ဖွားမြင်သည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်ပရမဘွဲ့ကိုခံယူသည်၊ အမရပုရမြို့တည် မင်းတရားကြီးသားတော် တောင်ငူမင်းက ကိုးကွယ်တော်မူသည်၊ အမရပုရမြို့ အရှေ့တောင်ထောင့်မဲထီးတိုက်တွင် သီတင်းသုံးတော်မူသည်၊ ပရမသိရိဝံသဓဇ မဟာဓမ္မရာဇဂုရု တံဆိပ်တော်ကို ခံယူရသည်၊ ၁၁၅၉-ခုနှစ်တွင် တောင်ငူမြို့၌ ပျံလွန်တော်မူသည်၊ ဝံသဒီပနီကိုရေးသည်။

[မဲထီး ဆရာတော်မှာ-ရှင်ကဝိ (၁၁၀၉-၁၁၉၆)နှင့် ရှင်ဉာဏသိရိဓဇ (၁၁၅၀-၁၂၀+)ဟူ၍ရှိသေးသည်၊ ဘိုးတော်ဘုရားလက်ထက် ရှင်မုနိန္ဒသည်လည်းမဲထီးဆရာတော်အဖြစ်ထင်ရှားခဲ့သည်၊ ထိုဆရာတော်သည် မုနိန္ဒာဘိဓဇ မဟာဓမ္မရာဇဂုရုတံဆိပ်တော်ရ၍ တိကနိပါတ်အဋ္ဌကထာနိသျကိုစီရင်ခဲ့သည်။]

## ၄၄။ ရှင်ဉာဏ* (ပဌမဆင်တဲဆရာတော်)

(၁၁၀၆-၁၁၇၀)

ဆင်တဲဆရာတော်ကို သကရာဇ် ၁၁၀၆-ခုနှစ် နယုန်လတွင် ပုခန်းကြီးမြို့ကျေး မိုးထူးဆင်တဲရွာ၌ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ရွဲ

*ပုဂံမင်းလက်ထက်တွင်ထင်ရှားသော ရှင်ဉာဏာလင်္ကာရ(၁၁၆၂-၁၂၁၀+) (ဉာဏာလင်္ကာရသိရိပဝရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု) တံဆိပ်တော်ရ ဆင်တဲဆရာတော်ကလေးအပြင် မင်းတုန်းမင်းလက်ထက်တွင် ထင်ရှားသော ကန်နီမြို့ကျေး တွင်းငယ်ရွာ ဇာတိ ဝိနည်းမဟာဝါပါဠိတော်နိသျနှင့် ပုဂ္ဂလပညတ်ပါဠိတော်နိသျသစ်ကျမ်းပြု ရှင်သာဂရ(သာဂရာဘိဝံသ သိရိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု) တံဆိပ်တော်ရ ဆင်တဲဆရာတော်ဟူ၍ ရှိသေးသည်၊ ဆင်တဲဆရာတော်အတ္ထုပ္ပတ္တိများတွင်ရှု။

ဖြစ်သည်၊ အရွယ်ရောက်သော် ရှင်ဉာဏလင်္ကာရဘွဲ့ဖြင့် ရဟန်းပြုတော်မူသည်၊ အမရပူရမြို့တည် ဘိုးတော်ဘုရားလက်ထက် မြောက်ဖက်တိုက်ဝန် အတွင်းဝန်မင်းကြီး မဟာသက်တော်ရှည် ကိုးကွယ်တော်မူသည်၊ မြို့တော်မြောက်ဖက် ဆင်တဲတိုက်တွင် သီတင်းသုံးတော်မူသည်၊ ထိုနောက်မြို့တော် အရှေ့တောင်ယွန်း ရွှေတောင်ကျောင်းတိုက်အတွင်း သုံးထပ်ရွှေကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ဉာဏလင်္ကာရာဘိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇဂုရု တံဆိပ်တော်ကိုခံယူရသည်၊ မန်လည်ဆရာတော်၏ တပည့်ဖြစ်သည်၊ ဆရာတော်သည် ၁၁၇၈-ခုနှစ်တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ * ပရမတ္ထဝိနိစ္ဆယ အဋ္ဌကထာနိသျ။

၂။ * နာမရူပပရိစ္ဆေဒ အဋ္ဌကထာနိသျ။

၃။ ဝစီရ ဗုဒ္ဓိဋီကာနိသျ။(၁၁၆၆)။

၄။ မုခမတ္တဒီပနီနိသျသစ်။

၅။ စန္ဒသူရိယ ဂတိ ဒီပနီနိသျ။

၆။ ဝိနည်းငါးကျမ်း အဋ္ဌကထာဂဏ္ဌိ။

၇။ အသီတိနိပါတ် ဇာတ်အဋ္ဌကထာနိသျ။

---

*ဤကျမ်းများကို အမရပူရ ဒုတိယမြို့တည် မင်းလက်ထက် ဆင်တဲရွှာဇာတိ ပဌမဆင်တဲဆရာတော် ဉာဏာလင်္ကာရာဘိသဒ္ဓမ္မ မဟာဓမ္မရာဇဂုရု စီရင်သည်ဟု ပိဋကတ်တော်သမိုင်းတွင်ဖေါ်ပြသည်၊ အမရပူရဒုတိယမြို့တည် သာယာဝတီမင်းသည် ၁၁၉၉-ခုနှစ်တွင်မှ နန်းတက်သဖြင့် ဤပဌမ ဆင်တဲဆရာတော်မဖြစ်သင့်ပေ၊ ပုဂံမင်းလက်ထက်ဘွဲ့-ရှင်ဉာဏလင်္ကာ တံဆိပ်တော် ထပ်တူဖြစ်သော ကျည်းကန်ရွာဇာတိ ဒုတိယဆင်တဲ ဆရာတော်သာ ဖြစ်ဖွယ်ရှိသည်၊ သို့တည်းမဟုတ်၊ အမရပူရပဌမမြို့တည် ဘိုးတော်ဘုရားလက်ထက်ဟု ရှိသင့်သည်၊ ပိဋကတ်တော်သမိုင်းတွင် ကျမ်းစဉ်၆၃၀-၇၂၉-၈၉၇-တို့ကို၊ အမရပူရပဌမမြို့တည်မင်းလက်ထက်ဟုဖေါ်ပြ၍ ကျမ်းစဉ်၈၀၆-၈၀၇-တို့ကို အမရပူရဒုတိယမြို့တည်မင်းလက်ထက်ဟုဖေါ်ပြသည်၊ သို့ရာတွင်ဖေါ်ပြချက်နှစ်ရပ်လုံးဆင်တဲရွာဇာတိ ဉာဏလင်္ကာ ဘိသဒ္ဓမ္မမဟာဓမ္မရာဇဂုရု ပဌမဆင်တဲဆရာတော်ဟူ၍သာ ရှိသည်၊ ထို့ကြောင့် အမရပူရဒုတိယမြို့တည် ဟူသော စကားသည် မှားဖွယ်ရှိသည်၊ အမရပူရပဌမမြို့တည်ဟုသာရှိသင့်သည်။

## ၄၅။ ရှင်ကေတု (ဟန်လင်းဆရာတော်)

(၁၁၀၇-၁၁၇၇)

ဟန်လင်းဆရာတော်ကို သကရာဇ် ၁၁၀၇-ခုနှစ်တွင် ထန်းတပင်မြို့ကျေး၊ စည်ပုတ္တရာ ကြည်ရွာကုန်းရွာ၌-ဦးအောင်ကုလား-ဒေါ်ငြိမ်းမြတ်တို့မှ ဖွားမြင်သည်၊ အရွယ်ရောက်၍ ရဟန်းပြုသော် ရှင်ကေတုဘွဲ့ခံသည်၊ ဝိနည်းဓိုရ်ဆရာတော်အဖြစ် တင်မြှောက်ခြင်းခံရ၍ တရားစစ်ဝန်ထောက်ကြီးကကိုးကွယ်သည်၊အသက် ၇၀-အရွယ်တွင် လူဝတ်လဲ၍ အမရပုရမြို့တည် မင်းတရား၏သားတော်ပြည်မင်းထံတွင် ခစားထမ်းရွက်၍ ၁၁၇၇-ခုနှစ်တွင် ဆင်ဖြူကျွန်းအရပ်၌ လူဝတ်နှင့်အနိစ္စရောက်လေသည်။

ပြုစုခဲ့သောကျမ်းကား မထင်ရှားချေ။

---

## ၄၆။ ရှင်ကဝိ (ဒုတိယမဲထီးဆရာတော်)

(၁၁၀၉-၁၁၉၆)

*မဲထီးဆရာတော်ကို သကရာဇ် ၁၁၀၉-ခု တပေါင်းလပြည့်ကျော် ၅-ရက်နေ့တွင် ပုဂံမြို့ ကျေးပုပ္ပါးမြို့ တောင်လယ်ယာရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာ ဦးတုတ်ခဲဖြစ်၍ ရဟန်းပြုသော် ရှင်ကဝိဘွဲ့ကို ခံယူသည်၊ မန်လည် သာသနာပိုင် ဆရာတော်၏ တပည့်ရင်းဖြစ်လေသည်။

---

*မဲထီးဆရာတော်ဟူ၍ မဲထီးဘုန်းတော်ကြီး-၁၀၀၄-၁၁၆၀-ပဌမ မဲထီးဆရာတော် ရှင်ပရမ (ပရမသိရီဝံသဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု) -၁၁၀၄-၁၁၅၉-နှင့် ဤဒုတိယမဲထီးဆရာတော် ရှင်ကဝိ(ကဝိန္ဒာဘိသိရီသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု) -၁၁၀၉-၁၁၉၆- ရှင်ဉာဏသိရီဓဇ -၁၁၅၀-၁၂၁+ အပြင် တတိယမဲထီးဆရာတော် (၁၁၁၉)ဟူ၍ တွေ့ရှိရသော်လည်း တတိယမဲထီးဆရာတော်၏ အတ္ထုပ္ပတ္တိမှာ မပြည့်စုံဘဲ ပုဂံကျေးလယ်ယာရွာ ၁၁၁၉-ခုနှစ်ဖွားဟူ၍ ခေါင်းစဉ်သာဖေါ်ပြထားသဖြင့်၁၁၀၉-ခုနှစ်ဖွားဒုတိယမဲထီးဆရာတော် ကိုပင် ဖွားသကရာဇ်မှားယွင်း၍ နှစ်ပါးအဖြစ်ခွဲခြားမှတ်မှားခြင်း ဖြစ်တန်ရာသည်၊ ရှင်ဉာဏသိရီဓဇကိုသာ တတိယမဲထီး ဆရာတော်ဟု မှတ်ယူသင့်ပေသည်။ ထိုမှတပါး- တိကနိပါတ်ဇာတ်အဋ္ဌကထာနိသျကို စီရင်သော ဘိုးတော်ဘုရားလက်ထက် (မုနိန္ဒာဘိဓဇမဟာဓမ္မရာဇဂုရု)ဘွဲ့တံဆိပ်တော်ရ မဲထီးဆရာတော် ဟူ၍လည်း ရှိသေးသည်။

ရွှေပြည်ဝန် လက်ဝဲဝင်းမှူး မောင်တောကကိုးကွယ်၍ မြို့တော် အရှေ့တောင်ယွန်း မဲထီးတိုက်တွင် သီတင်း သုံးတော်မူသည်၊ ရတနာပုရစတုတ္ထမြို့တည် မင်းတရား လက်ထက် မြဝတီဝန်ကြီးဦးစ ကိုးကွယ်၍ မြို့တော်အရှေ့တောင်ထောင့် တောင်ပလူကုန်းတွင် လေးထပ်ကျောင်းတော်ကို ဆောက်လုပ်လှူဒါန်းသည်၊ ဆရာတော်သည် *ကဝိန္ဒာဘိသီရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကို ခံယူရရှိသည်။

ဆရာတော်သည် ၁၁၉၆-ခုနှစ်တွင် ပျံလွန်တော်မူရာ- မာလကာရဝတ္ထုတော်ကြီးကို ၁၁၆၀-ပြည့်နှစ်တွင် ရေးသားတော်မူခဲ့လေသည်။

---

## ၄၇။ ရှင်ဇနိန္ဒာဘိ (ရေစကြိုဆရာတော်)
(၁၁၁၀–၁၁၈၄)

†ရေစကြိုဆရာတော်ကို ၁၁၁၀-ပြည့်နှစ်တွင် ပုခန်းကြီးမြို့ကျေး ရေစကြို ရွာတွင် ဖွားမြင်သည်၊ အရွယ်ရောက်သော် ရဟန်းပြု၍‡ရှင်ဇနိန္ဒာဘိဘွဲ့ကိုခံယူသည်၊ အမရပုရ ပဌမမြို့တည် မင်းတရားကြီး သမီးတော်အကြီး ကနီမြို့စားအိမ်ရှေ့မိဖုရားကြီးက ကိုးကွယ်၍ အမရပုရမြို့အရှေ့တောင်ယွန်း မိုးထိတိုက်ဘုံသာဝေယန်ကျောင်းတော်တွင် သီတင်းသုံးသည်၊ဇနိန္ဒာဘိသီရိပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုခံယူရသည်၊ဆရာတော်သည် ၁၁၈၄-ခုနှစ်တွင် ပျံလွန်တော်မူသည်။

---

* အဘိဓမ္မတ္ထသင်္ဂဟ အဋ္ဌကထာနိသျှကို စီရင်သော မဲထီး ဆရာတော်၏ တံဆိပ်တော်ကို (ကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု)ဟူ၍ ပိဋကတ်တော်သမိုင်းကျမ်းစဉ် ၇၉၁-၌ပြသည်၊ဤဒုတိယမဲထီးဆရာတော် ရှင်ကဝိ၏ဘွဲ့တံဆိပ်နှင့် ကွဲလွဲသော်လည်း ဤဆရာတော်ကိုပင် ရည်ညွှန်းဟန်ရှိသည်၊ အတ္ထုပ္ပတ္တိ အကျယ်ပြမထားချေ၊ မြန်မာအဘိဓာန်ကျမ်း၊ညွှန်း၌- မာလာလင်္ကာရဝတ္ထုကျမ်းပြုဆရာတော်ကို (ကဝိဝံသာဘိဓဇ)ဆရာတော်ဟု ပြသည်။

†ရေစကြိုတရားစာကိုရေးသားသောဆရာတော်မှာကား မင်းတုန်းမင်းတရားလက်ထက် ရှင်ဝရသမ္ဘောဓိဖြစ်သည်၊ ရှင်ဝရသမ္ဘောဓိမှာ ရေစကြိုရွာဇာတိပင်ဖြစ်၍ ဓမ္မပဒဋီကာသစ်ကိုလည်းပြုစုသည်။

‡ ရှင်ဇောတယန္တဟူ၍ သာသနာဝံသဒီပနီ၌ပြသည်။

## ၄၇။ ရှင်သဒ္ဓမ္မရံသီ (ဒုတိယ ညောင်ကန်ဆရာတော်)

(၁၁၁၀-၁၁၉၄)

ညောင်ကန် ဆရာတော် ရှင်သဒ္ဓမ္မရံသီကို ၁၁၁၀- ပြည့်နှစ်တွင် မင်းအိုရွာ၌ ဖွားမြင်လေသည်၊ ငယ်မည်မှာ ဦးညွန့် ဖြစ်လေသည်၊ မင်းအိုဆရာတော်၏ တပည့်ဖြစ်၍ ဘိုးတော်မင်းတရား လက်ထက် ဥဘတောဝိဘင်းပြန်ဆိုနိုင်၍ အလုံအထက်တိုက်,အောက်တိုက် သံဃာစုတွင် နိသျည်း ဆရာတော်အဖြစ် မောင်းထောင် သာသနာပိုင် ဆရာတော်က စာချွန်ပေးအပ်သည်။

ဘိုးတော်ဘုရားနှလက်ထက် မြို့တော်အရှေ့မြောက်ယွန်းအောင်မြေဘုံ ကျော်ကျောင်းတော်ကို တင်လှူသည်၊ သီရိသဒ္ဓမ္မာဘိပရမဓဇမဟာဓမ္မ ရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုခံယူသည်၊ရတနာပုရစတုတ္ထမြို့တည်မင်း တရားကြီးလက်ထက် ဆရာဝန်ကြီးမင်း ကိုးကွယ်ရသည်၊အဝမြို့တော်သို့ ရောက်သောအခါ မဟာအောင်မြေဘုံစံ အုတ်ကျောင်း၌ သီတင်း သုံးသည်၊ ၁၁၉၄-ခု နှစ်တွင် ပျံလွန်တော် မူလေသည်၊ ပြုစုသော ကျမ်းတို့ကိုကား ထင်ရှားမတွေ့ရချေ။

---

## ၄၉။ ရှင်ကဝိန္ဒ (တတိယ ညောင်ကန်ဆရာတော်)

(၁၁၁၅-၁၁၇၃)

တတိယ ညောင်ကန်ဆရာတော်မှာ ဦးကဝိန္ဒဖြစ်၍ တံဆိပ်တော်မှာ ကဝိန္ဒာဘိဝံသ သီရိသဒ္ဓမ္မဓဇမဟာဓမ္မရာဇဂုရု ဖြစ်လေသည်၊ ငယ်မည် မှာ ဦးရောင်ဖြစ်လေသည်။

ဘိုးတော်ဘုရား၏ မြောက်နန်းမိဖုရား (အိမ်ရှေ့ဥပရာ မယ်တော်) လှူဒါန်းသော မင်္ဂလာဘုံကျော်ကျောင်းတွင် သီတင်းသုံးတော် မူလေ သည်၊ ဇာတိမှာ ဗဒုံမြို့နယ် ညောင်ကန်ရွာ ဖြစ်သဖြင့် ညောင်ကန် ဆရာတော်ဟု မည်တွင်လေသည်၊ မင်းအိုဆရာတော်၏တပည့်ဖြစ်သည်။

ဆရာတော်မှာ ၁၁၁၅-ခုနှစ်တွင် ဖွားမြင်တော်မူ၍ ၁၁၇၃-ခုနှစ် တွင် ပျံလွန်တော်မူလေသည်၊ ကျမ်းဂန်တတ်သဖြင့် ထင်ရှားလေသည်။

ညောင်ကန်ဆရာတော် ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါ ကျမ်းများ ပါဝင်လေသည်။

၁။ ပဏ္ဏာသနိပါတ်ဇာတ်အဋ္ဌကထာ။
၂။ စတ္တာလီသနိပါတ်ဇာတ်အဋ္ဌကထာနိဿျ။
၃။ မင်္ဂလတ္ထဒီပနီစကားပြေ။
၄။ ဝိသမာလာကျမ်း။
၅။ *သင်္ချာပကာသက-စာကိုယ်နိဿျ။
၆။ မြို့ဟာဇ်ကျမ်းရင်းကြီးပါဠိနိဿျ ၇-တွဲ။
၇။ မဟာဝင်အဋ္ဌကထာနိဿျ။
၈။ ငါးရာ့ငါးဆယ်နိပါတ်ဝတ္ထု စကားပြေကျမ်း။
၉။ သတိပဋ္ဌာန်နိဿျ။
၁၀။ ရာဇမတ္တဏ်နိဿျ။

## ၅၀။ ရှင်ခေမာစာရ (မြောက်မြို့ဆရာတော်)

(၁၁၁၆– ၁၁၉၆)

မြောက်မြို့ဆရာတော်ကို သကရာဇ် ၁၁၁၆-ခုနှစ်တွင် ရွှေဘိုမြို့ကျေးရွာ:တောရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာ ဦးဘောဂဖြစ်၍ ရဟန်းဘွဲ့တော်မှာ ရှင်ခေမာစာရဖြစ်သည်၊ ရတနာပုရ စတုတ္ထမြို့တည် မင်းတရားကြီးလက်ထက် ဟံသာဝတီမြို့ဝန် ဝန်ကြီးမောင်ခိုင် ကိုးကွယ်သည်၊ ဝန်ကြီးနှင့်အတူ ရန်ကုန်သို့ကြွရောက်သီတင်းသုံးတော်မူသည်၊ ၁၁၉၆-ခုနှစ်တွင် ပျံလွန်တော်မူသည်၊ ကျမ်းပြုကြောင်းမထင်ရှားချေ။

## ၅၁။ ရှင်ဂုဏ (ပုဂံနတ်ထောင့်ဆရာတော်)

(၁၁၁၆–၁၁၉၇)

ပုဂံနတ်ထောင့်ဆရာတော်ကို သကရာဇ် ၁၁၁၆-ခု ပြာသိုလဆန်း ၁-ရက်နေ့တွင် ပုဂံမြို့စီရင်စု မြစ်မြောက်ဖက် ကျွန်ရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာဦးညိမ်ဖြစ်၍ ငယ်စဉ်က သာမဏေပြုသည်၊ အရွယ်ရောက်လျှင် ရှင်ဂုဏဘွဲ့ဖြင့် ရဟန်းဘောင်သို့တက်ရောက်၍ ရတနာပုရ စတုတ္ထမြို့တည် မင်းတရားကြီးညီတော်စီ မြင်စိုင်းမင်းနှမတော် ရွှေတောင်

* သင်္ချာပကာသက နိဿျကို ပဋ္ဌမညောင်ကန် ဆရာတော် ရှင်မုနိန္ဒသာရ စီရင်သည်ဟုလည်း မှတ်သားကြသည်။

မင်းသမီးတို့ ကိုးကွယ်၍ မြို့တော်မြောက်မျက်နှာ ဗားကရာကျောင်းကြီးတွင် ဘုံလေးဆင့်ကျောင်း ဆောက်လုပ်လှူဒါန်းသည်၊ ရတနာပုရမြို့သို့ရောက်လျှင် ဘုံကျောင်းတိုက်၏ အရှေ့တောင်ယွန်းတွင် ကျောင်းဆောက်လုပ်၍ လှူဒါန်းပြန်သည်၊ ဆရာတော်သည် ဂုဏာဘိပရမဓဇမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုခံယူရလေသည်၊ ဆရာတော်သည် ၁၁၉၇-ခုနှစ် တန်ခူးလတွင် ပျံလွန်တော်မူလေသည်။

---

## ၅၂။ ရှင်ဉာဏ (ပဋ္ဌမမောင်းထောင်ဆရာတော်)

(၁၁၁၇–၁၁၉၄)

ပဋ္ဌမ မောင်းထောင်ဆရာတော်ဟု ထင်ရှားသောဆရာတော်မှာ ဘိုးတော်ဘုရားလက်ထက် သာသနာပိုင် ဖြစ်တော်မူသော ဆရာတော် ဦးဉာဏပင်ဖြစ်လေသည်။

ဆရာတော်ကို၁၁၁၇(၁၁၁၅-ခုနှစ်ဟုမှတ်ကွဲရှိသည်)နှစ်တွင် အလုံမြို့ အထက်မောင်းထောင်ရွာ၌ အဖမောင်စံအူ-အမိ ဒေါ်ခွေးက ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်မြတ်နေဖြစ်လေသည်၊အရွယ်ရောက်လျှင် ရဟန်းဘောင်ဝင်ရာ သကရာဇ် ၁၁၄၄-ခုနှစ် ဘိုးတော်ဘုရားနန်းတက်သော် ၇-ဝါရပြီဖြစ်သဖြင့် အမရပုရမြို့ ဆင်ကြိုးရွှေဂူသုဓမ္မာဇရပ်အနီး၌ ကိုးကွယ်ကာ ပိဋကတ်တော်ရွှေရေး, မင်ရေး,ကညစ်ရေး တို့ကို တည်းဖြတ်တော်မူစေလေသည်။

ထိုနောက် ဉာဏာဘိသာသနဓဇမဟာဓမ္မရာဇဂုရု တံဆိပ်တော်ကို ကပ်လှူတော်မူလေသည်၊၁၁၅၀-ပြည့်နှစ်တွင် သာသနာပိုင်ဆရာတော်တင်မြှောက်၍ မဟာမြတ်မုနိဘုရား တောင်ဖက် အသောကာရာမခေါ် ရတနာဘုံကျော်ကျောင်းတော်ကို ဆောက်လုပ် လှူဒါန်းတော်မူလေသည်၊ မင်းမိဖုရားတို့လှူသော ကျောင်းများလှ၍ စံကျောင်းတော်, အောင်မြေဘုံကျော် ကျောင်းတော်, မင်္ဂလာဝေဇယန် ကျောင်းတော်, အောင်ပင်လယ်တောရကျောင်းတော်တို့၌ အလဲအလှယ် သတင်းသုံးတော်မူရသည်၊ ဆရာတော်သည် သက္ကတဘာသာကိုလည်း ကျွမ်းကျင်တော်မူသည်။

ထိုနောက် ဉာဏာဘိဝံသ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုပင် ၂-ကြိမ်တိုင်ဆက်ကပ်လှူဒါန်းတော်မူခြင်းခံရပြန်သဖြင့် တံဆိပ်တော် ၃-ထပ်ရလေသည်။

ဆရာတော်သည် ၁၁၇၄-ခုနှစ်တွင် လူဝတ်လဲ၍ မဟာဓမ္မသင်္ကြန်ဘွဲ့ဖြင့် မင်းတိုင်ပင်အမတ်ကြီးအဖြစ် ဆောင်ရွက်လေသည်၊ ချည်ပါရွာကိုလည်း စားရလေသည်၊ သကရာဇ် ၁၁၉၄-ခုနှစ်တွင် အနိစ္စရောက်လေသည်။

ဆရာတော် ပြုစုတော်မူသော ကျမ်းနှင့် နိဿျပြန်ဆိုတော်မူသောကျမ်းများမှာ များလှ၍ အောက်ပါကျမ်းများပါဝင်လေသည်။

၁။ နေတ္တိဋီကာပါဠ်။
၂။ သုတ်သီလက္ခန်ဋီကာသစ်ပါဠ်။
၃။ အရိယဝံသာလင်္ကာရကျမ်း။
၄။ ဇာတ်အဋ္ဌကနိဿျ။
၅။ စတုသာမဏေရဝတ္ထု။
၆။ ရာဇောဝါဒဝတ္ထု။
၇။ တိဂုမ္ဘထောမနာ။
၈။ ဆဒ္ဒန္တနာဂရာဇုပ္ပတ္တိကထာ။
၉။ ရာဇာဓိရာဇဝိလာသိနီ။
၁၀။ အမေးတော်အဖြေကျမ်း။
၁၁။ မဟာသကျသီဟသမိုင်းပါဠ်,အနက်။
၁၂။ သရသ္သတိဗျာကရုဏ်းနိဿျ။
၁၃။ အဘိဓာန်နိဿျ။
၁၄။ ကေကွရကောသနိဿျ။
၁၅။ ဗာလပ္ပဗောဓနနိဿျ။
၁၆။ နာနာတ္ထမဉ္စူနိဿျ။
၁၇။ ရာဇမတ္တဏ်နိဿျ၊
၁၈။ မြို့ဟင်္ဇနိဿျ။
၁၉။ သရဒ္ဒေနိဿျ။
၂၀။ ဇောတိသုဇာတကနိဿျ။
၂၁။ လဃုသံဂြဟနိဿျ။

၂၂။ သုပိနာချာယနိသျှ။
၂၃။ လက္ခဏာကျမ်း။
၂၄။ သူရိယသိဒ္ဓန္တနိသျှ။
၂၅။ ဘာသုတိနိသျှ။
၂၆။ ဘာသုတိစကားပြေ။
၂၇။ ဘာသုတိကိန်းစံ။
၂၈။ ရာဇာဘိသေကကျမ်း။
၂၉။ ဒြဗျဂုဏ်နိသျှ။
၃၀။ သာရကောမုဒီ
၃၁။ ဩသဓရတနာကရ။
၃၂။ သရရတုကထန။
၃၃။ ဓာတုပြသံသနိသျှ။
၃၄။ ကာမရတနနိသျှ။
၃၅။ နေမိတ္တကပိဋ္ဌာ။
၃၆။ ပရမတ္ထရတနာဝလိ။
၃၇။ သာသနာလင်္ကာရ။
၃၈။ ပိဋကတ်သမိုင်း။
၃၉။ သုဓမ္မာစာရဒီပနီ။
၄၀။ ရာဇောဝါဒဝဏ္ဏနာ။
၄၁။ ပါရာဇိကကဏ်ဂဏ္ဌိ။
၄၂။ မောင်းထောင်နိယံ။
၄၃။ သာသနသောဘိဏီသိမ်ကျောက်စာ။

**ဘင်္ဂါလီနှင့်ဂရိဘာသာမှ မာဂဓဘာသာပြန်ကျမ်းများ**

ကလာပ်သန္ဓိမူလ, ကလာပ်နာမ်မူလ, ကလာပ်ကာရကမူလ, ကလာပ်သမာသ်မူလ, ကလာပ်တဒ္ဓိမူလ, ကလာပ်အာချာတ်မူလ, ကလာပ်ကိတ်မူလ, ကလာပ်ဥဏာဒ်မူလ, ကလာပ်အာချာတ်မူလ-မူကွဲ,ကလာပ်ကိတ်မူလ-မူကွဲ,ကလာပ်သန္ဓိပဉ္စိကာ,ကလာပ်ကိတ်ပဉ္စိကာ,ကလာပ်ဂေါ်ပိနာတ်သန္ဓိ,ကလာပ်ဂေါ်ပိနာတ်နာမ်,ကလာပ်ဂေါ်ပိနာတ်ကာရက,ကလပ်ဂေါ်ပိနာတ်ကာရကမူကွဲ,ကလာပ်ဂေါ်ပိနာတ်သမာသ်မူကွဲ,ကလာပ် ပရေကောင်္ဂနာမ်, (၂၀)က လာပ်ပရေကောင်္ဂ

သမာသ်, ကလာပ်ပရေကော်ရှင့်သန္ဓိမူကွဲ, ကလာပ်ပရေကော်ရှင့်နာမ်မူကွဲ, ကလာပ်ပရေကော်ရှင့်ကာရကမူကွဲ,ကလာပ်ပရေကော်ရှင့်ကာရက,ကလာပ်ပရေကော်ရှင့်သမာသ်မူကွဲ, ကလာပ်ဒီပနီသန္ဓိ, ကလာပ်ဒီပနီနာမ်, ကလာပ်ဒီပနီကာရက, ကလာပ်ဒီပနီသမာသ်,ကလာပ်ဒီပနီတဒ္ဓိတ်,သွရသတိဗျာကရိုဏ်းသန္ဓိ,သွရသတိဗျာကရိုဏ်းနာမ်,သွရသတိဗျာကရိုဏ်းကာရက,သွရသတိဗျာကရိုဏ်းသမာသ်,သွရသတိကဗျာရိုဏ်းတဒ္ဓိတ်; သွရသတိဗျာကရိုဏ်းအာချာတ်, သွရသတိဗျာကရိုဏ်းကိတ်, သွရသတိ ဗျာကဂိုဏ်းဥဏာဒ်, သွရသတိ ဒီပနီသမာသ်,(၄၀)စန်းသန္ဓိ, စန်းနာမ်,စန်းကာရက, စန်းသမာသ်, မုဒ္ဓဗောဓမူလ,မုဒ္ဓဗောဓမူလမူကွဲ,မုဒ္ဓဗောဓဒီပနီ, ဓာတုမာလာ, ဓာတုမာလာတမူ, သုတ္တမာလာ, ဗာလဗုဒ္ဓိ, အက္ခရဗေဒ, ဓာတုလက္ခဏာ, နညသမာသ်, ပါဏိနိဗျာကရုဏ်းအချာတ်,ဒသဓါတု, မုဒ္ဓါဓိကာရ,ပေါဒါန္တပရိဘာသာ,ဒဗျာဘာသာ, ဂုဏာသိရောမဏိ, (၆၀)ဂရုဟတ္တ,ရူဥ္စာမဏိ,သက်ရမိဿ, သူရိယသိဒ္ဓန္တငယ်, သူရိယသိဒ္ဓန္တငယ်မူကွဲ, တိထိသရူပ, တိတိတတ္တ, သင်္ကေတကောမုဒိ, အာယုဒါယ, အာယုဗေဒ, သရဒ္ဓေမူလ,သရဒ္ဓေဋ္ဌ, သရဒ္ဓေဋီကာ, ဒိဗျရူဋ္ဌမဏိ, ဒိဗျတတ္တ, မလမာသတတ္တ, သမိတိတတ္တ,မလိမ္လုစုတတ္တ, သုပိနာဈာယ,ဇောတိတတ္တ, ဇောတိတတ္တမူကွဲ, ဇောတိဒီပိကာ, ဇောတိသာရသံဂြိုဟ,ဇောတိနိဏ္ဏယ,ဇောတိရတနာ, ဇောတကစန္ဒြိမာ, ဇာတကစန္ဒြိကာ, ဇာတကဏ္ဏဝ, ဇာတကယမတိ, ဒိနသံဂြိုဟ, (၈၀)ပြတျန္တရဒသပုံ, အန္တရဒသာဖလ, အန္တရယောဂ, သူရိယသိဒ္ဓန္တကြီး, ခဒျပုဇာ, ဆဋ္ဌပဥ္စာသိက, ဘာသုတိ, ဗြိဿိနိရူပ, ဒီပကခြော်, သမယပြဒီပ,သိပါဋူ,ဂြုဟ်သန္ဓိ,တန္တရသာရ,တန္တရသာရပုံ, ကေသယသင်္ဂ, ဘာပြကရဏ,ပဉ္စပက္ခိ, တက္ကိကသိရောမဏိ, တတ္တစိန္တာမဏိ, ဇာကဒိသီရိတတ္တစိန္တာမဏိ,(၁၀၀)ဇာဂဒိသိဒီပနီ, ဝါဒတဒီပနီ, တိထိဒီပနီ, ဗျာတိရေကဒီပနီ, ကေဝလဇဒီပနီ, ပရာမာဒိဒီပနီ, ပက္ခဇာတိဒီပနီ,ဥပါဒိဝါဒဒီပနီ, သာပဒျာဒီပနီ, ဗျုတ္တိဂြဟောပါယဒီပနီ, ဗျုတ္တိဒီပနီ, သိဒ္ဓန္တရဿ, ဇာဒိသဒီပနီ,ကပုရမဥ္ဇရီ, အနုမတိ, လိလာဝတီ, ဒဗျောပါယ, ဗျ-ဟရတတ္တ, ဂြဒတတ္တ, ကေက္ခရကောသ,(၁၂၀)ရတနကောသ,နာနတ္ထမုနိမဥ္ဇရီ, သိဝပုရာဏ်,ရာဇသံသင်္ဂ, ဗြိသံသင်္ဂ,ဗြဟ္မဝေဝတ္တ, ပဉ္စကသတောတ္တရ, ကုလဏ္ဏဝ, ဝါဒ

စန္ဒြိကာ, ကာလီဒါသမဟာကာဗျမူလ, ကာလီဒါသမဟာကာဗျာဋီကာ,အမရဂုယှမူလ,အမရဂုယှဋီကာ, ကာဗျစန္ဒြိကာ,ကာဗျပြဿဂြိကာ, ကာဗျာလင်္ကာရ, ကာဗျာလင်္ကာရမူကွဲ, ဆန္ဒမဉ္စရီ, အဘိဓာန်မူလ, အဘိဓာန်မူလတမူ, အဘိဓာန်ဋီကာ,(၁၄၀)ရာဇနီတိ, ဒါယဘာဂလင်္ကာယ,ဥဒဗာဟတတ္တမူလ,ဥဒဗာဟတ,ဒါယတတ္တ,ဒါယတတ္တဋီကာ, ဒါယဘာဂတတ္တ, ဒါယမိကာရ, ဒါယဘာဂသိဒ္ဓန္တ, ဒြဗျဂုဏ်မူလ, ဒြဗျဂုဏ်ဒီပနီ, နာဂစုပရိစ္ဆေဒ, သရရိတုကထန, မဓုကောသ, အတိသာရ, အလင်္ကာဒီပနီ, ဆန္ဒာလင်္ကာရ, နာဍိပမိုချာ, ကုက္ကုစိန္တာမဏိ, မဓုကောရှမူလ, (၁၆၀)မဓုကောရှဒီပနီ, ပဉ္စတတ္တဒီပနီ, ဩသဓရတနာကရမူလ, သာရကောမုဒီမူလအကျဉ်း,သာရကောမုဒီမူလအကျယ်,သာရကောမုဒီဒီပနီအကျဉ်း, ဖြို့ဟဇ်မူလ, ရာဇမတ္တဏ်မူလ, ပဉ္စတတ္တဒီပနီ, အဘိဓာန်ဒီပနီ, အဘိဓာန်ဒီပနီမူကွဲ, အလင်္ကာဒီပနီ, အလင်္ကာဒီပနီမူကွဲ, ဘာသွတိမူလ, ဘာသွတိဒီပနီ, ဇောတိဒီပနီ,ကလာပ်သန္ဓိပြဒီပ,(၁၇၇)။

မောင်းထောင် ဆရာတော်သည် လူဝတ်လဲပြီးနောက် မဟာဓမ္မသင်္ကြန်ဘွဲ့ဖြင့် ရေးသားပြုစုသော စာပေများလည်းရှိရာ ၎င်းတို့တွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ရတုများ,
၂။ မှန်နန်းရာဇဝင်,
၃။ ဓမ္မောပဒေသဝတ္ထု,
၄။ ပရမတ္ထရတနာဝဋ္ဋိ,
၅။ ပုဗ္ဗာဝိသဇ္ဇနာကျမ်း။

---

## ၅၃။ ရှင်နန္ဒမေဓ (ကျည်းကန်ရှင်ကြီး)

(၁၁၁၉-ခန့်)

ကျည်းကန်ရှင်ကြီးကား ကုန်းဘောင်ခေတ်တွင် ထင်ရှားသော သာမဏေစာဆိုတော်ကြီးဖြစ်လေသည်၊ ဘွဲ့မှာရှင်နန္ဒမေဓဖြစ်လေသည်။

သကရာဇ် ၁၁၁၉-ခုနှစ်တွင် ပခုက္ကူခရိုင် မြိုင်မြို့နယ် လက်ာတော ဆယ်ရွာအပါဝင်(ကြည့်ကန်)ကျည်းကန်ရွာတွင်ဖွားမြင်သဖြင့်

ဇာတ်ကိုစွဲ၍ ကျည်းကန်ရှင်ကြီးတွင်လေသည်၊ ငယ်မည်မှာ မောင်နု ဖြစ်လေသည်။

ငယ်စဉ်က လွှတ်တော်ရုံးတော်များတွင် ဗဟုသုတဆည်းပူးခဲ့ဘူး လေသည်၊ သာမဏေဝတ်ပြီးသော် စာပေပို့ချနေရာ ဘိုးတော်ဘုရားပင့် ခေါ်သောကြောင့် အသက် ၃၀-ကျော်အရွယ်တွင် အမရပူရမြို့သို့ ရောက်၍ မောင်းထောင်ဆရာတော်ထံတွင်ပညာဆည်းပူးပြန်လေသည်။

ကျည်းကန်ရှင်ကြီး ပြုစုခဲ့သောစာပေများတွင်အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ဗွယ်စုံကျော်ထင်သတ်ပုံပုဏ္ဏာကျမ်း။
၂။ ဆယ်လွှန်းတင်ဂါထာ။(၁၁၆၆)
၃။ မေတ္တာစာများ။
၄။ ကျည်းကန်လက်ရိုးဗေဒင်။
၅။ စကားပုံများ။

---

## ၅၄။ ရှင်ဩဘာသ (မင်းပူးလေသာဆရာတော်)

(၁၁၂၀-ခန့်)

ရှင်ဩဘာသသည် ကုန်းဘောင်ခေတ်တွင် ထင်ရှားသော ဆရာ တော်တပါးဖြစ်လေသည်၊ ငယ်ရွယ်စဉ်ခြောက်နှစ်သားအရွယ်က စာပေ သင်ကြား၍ ၁၅-နှစ်အရွယ်တွင် ပို့ကဗျာစာပေ ကျွမ်းကျင်ခဲ့သည်၊ ၁၅-နှစ်အရွယ်၌ ရှင်သာမဏေပြုရာ ဘွဲ့မှာရှင်အရိယဝံသဖြစ်သည်၊ ရဟန်းအဖြစ်သို့ ရောက်တော်မူသောအခါ ပျို့လင်္ကာများကို ရှောင်၍ လောကုတ္တရာစာပေကိုသာပြုစုခဲ့သည်၊ ဇာတ်တော်များကို ရေးသားရာ ထင်ရှားလာ၍ မင်းပူးဆရာတော်ဟု တွင်လေသည်၊ မင်းပူးရွာ အနောက်ဖက်ရှိ လေသာကျောင်းတွင် သီတင်းသုံးတော်မူခဲ့လေသည်။

ရှင်ဩဘာသပြုစုတော်မူခဲ့သော စာပေများတွင် အောက်ပါအနက် ဖွင့်စာပေများပါဝင်လေသည်။

၁။ စန္ဒကုမာရဇာတ်တော်(၁၁၄၄)။
၂။ နာရဒဇာတ်တော်(၁၁၄၄)။
၃။ ဝိဓုရဇာတ်တော်(၁၁၄၅)။

၄။ ဝေဿန္တရာဇာတ်တော်(၁၁၄၅)။
၅။ မဟောသဓဇာတ်တော် ၂-တွဲ(၁၁၄၆)
၆။ မဟာဇနကဇာတ်တော်(၁၁၄၇)
၇။ နေမိဇာတ်တော်(၁၁၄၈)
၈။ တေမိယဇာတ်တော်(၁၁၄၈)
၉။ နိဂုံးရတုများ။
၁၀။ ရတနာသုံးပါးဂုဏ်တော်ဖွင့်။

---

## ၅၅။ ရှင်ပညာသီဟ (ပဌမဂူကြီးဆရာတော်)
(၁၁၂၁-၁၁၇၆)

*ဂူကြီးဆရာတော်ကို ယိုးဒယားပြည်ဒွါရာဝတီမြို့၌ ၁၁၂၁ခု-နှစ်တွင် ဖွားမြင်တော်မူလေသည်၊ ဆင်ဖြူရှင်လက်ထက် ၁၁၂၉-ခုနှစ်တွင် ယိုးဒယားကိုချီတက်ရာမှ သုံ့ပန်းအဖြစ် မိဘဆွေမျိုးများနှင့်အတူ ရတနာပုရအင်းဝမြို့သို့ ရောက်ရှိလာလေသည်၊ ငယ်မည်မှာ မောင်ယာဖြစ်၏၊ ဗားကရာဆရာတော်ထံတွင် စာပေသင်ကြား၍ သာမဏေပြုရာ ရှင်ပညာဘွဲ့ကိုခံယူလေသည်၊ သာမဏေဝတ်နှင့် ပဌမကျော်အောင်သည်၊ ရဟန်းပြုရာရှင်ပညာသီဟဘွဲ့ခံတော်မူသည်၊ ပညာသီဟမဟာဓမ္မရာဇဂုရုတံဆိပ်၊ပညာသီဟာဘိ သီရိသဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်များဆက်ကပ်ခြင်းခံရသည်။

၁၁၆၃-ခုနှစ်တွင်လူထွက်၍ ဘိုးတော်မင်းတရားကြီးက သီရိနန္ဒသကြီဘွဲ့ဖြင့် မဟာဒါန်ဝန်ခန့်တော်မူသည်၊ ၁၁၇၆-ခုနှစ်၌ မုတ္တမမြို့ရှုံးထက်တွင် ယိုးဒယားမွန်တို့သတ်၍ အနိစ္စရောက်လေသည်။

ပြုစုခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။
၁။ ဓာတုကထာအဋ္ဌကထာနိဿျ။
၂။ ပုဂ္ဂလပညတ်အဋ္ဌကထာနိဿျ။

---

* ဂူကြီးဆရာတော်မှာ ရှင်ပညာသီဟ (၁၁၂၁-၁၁၇၆) အပြင်ရှင်စန္ဒ (၁၁၂၇-၁၁၆၄)နှင့်ရှင်ဝိစိတ္တာလင်္ကာရ၊ ရှင်ဝရာလင်္ကာရ (၁၁၄၁-၁၂၁+) ဟူ၍ ပေါင်းသုံးပါးရှိလေသည်။
၎င်းဂူကြီးဆရာတော်ကိုစတုဗ္ဗဳလကနဲဆရာတော်ဟုလည်းမှတ်ယူကြသည်။

၃။ ကထာဝတ္ထုအဋ္ဌကထာနိသျ။
၄။ ယမိုက်အဋ္ဌကထာနိသျ။
၅။ ပဋ္ဌာန်းအဋ္ဌကထာနိသျ
၆။ သုတ်သီလက္ခန်ဋီကာဟောင်းနိသျ။
၇။ ဇိနာလင်္ကာရဋီကာနိသျ။
၈။ မူလဋီကာနိသျ။
၉။ အနုဋီကာနိသျ။
၁၀။ လောကီပဏ္ဏာသဇာတ်နိသျ။
၁၁။ နာဋိကဝိနိစ္ဆယ။
၁၂။ ပဥ္စပကြိုဏ်အဋ္ဌကထာနိသျ-ပ။

## ၅၆။ ရှင်ပညာ (ဒုတိယ ကတိုးဆရာတော်)
(၁၁၂၂ ၁၁၉၇)

ကတိုးဆရာတော်ကို ၁၁၂၂-ခုနှစ်တွင် အလုံမြို့ကျေး ကတိုးကျေးရွာ၌ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ရွှေကြာဖြစ်၍အရွယ်ရောက်သော် ရဟန်းပြုသည်၊ ဘွဲ့တော် ရှင်ပညာဖြစ်သည်၊ ဘိုးတော်ဘုရားလက်ထက် သာသနဝံသသီရိဇေမဟာဓမ္မရာဇဂုရုတံဆိပ်တော်ကို ရရှိသည်။

ဘိုးတော်ဘုရားလက်ထက် ၁၁၉၇-ခုနှစ်တွင် အင်းဝမြို့ အရှေ့မြောက်ထောင့် ကတိုးတိုက်အုတ်ကျောင်း၌ ပျံလွန်တော်မူသည်၊ သာသနာပြုဆရာတော် တကျိပ်နှစ်ပါးတွင် အပါအဝင်ဖြစ်သည်။

ဆရာတော်ပြုစုသောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ အဋ္ဌနိပါတ်ဇာတ်အဋ္ဌကထာနိသျ။
၂။ နဝနိပါတ်ဇာတ်အဋ္ဌကထာနိသျ။
၃။ ပါဠိဇာတ်ပါဠိတော်နိသျဟောင်း။

*၁၁၀၇-ခုနှစ်ဖွား ကတိုးကျောင်းရွာဇာတိ ကတိုးဆရာတော်မှာပဌမ ကတိုးဆရာတော်ဖြစ်သည်၊ ထေရုပ္ပတ္တိအပြည့်အစုံမတွေ့ရချေ၊ ဒုတိယ ကတိုးဆရာတော်ကိုပိဋကတ်တော်သမိုင်းတွင် ကြီးခင်းဆရာတော်ဟုလည်းပြသည်။

## ၅၇။ ရှင်ဇာနဗုဒ္ဓ (ပဌမမိုးထိဆရာတော်)
(၁၁၂၃-၁၂၀၅)

မိုးထိ ဆရာတော် ရှင်ဇာနဗုဒ္ဓကို ၁၁၂၃-ခုနှစ် ပြာသိုလပြည့်ကျော် ၁၅-ရက်နေ့တွင်ပင်းတလဲမြို့စီရင်စု ခွေးမြောင်ရွာတိုက်ဝင် လှည်းကူး မခြောက်ရွာဦးဘင်- ရှင်ကြီးတို့မှဖွားမြင်သည်၊ ငယ်မည်မှာ ဦးကွယ် ဖြစ်သည်၊ ငယ်စဉ်ကမန်လည်ရွာတွင် ဦးရိုးရဟန်း ရှင်အာစရထံတွင် ပညာသင်ကြားသည်၊ အသက်၁၅-နှစ်အရွယ်တွင်သာမဏေဝတ်သည်၊ စဉ့်ကူးမင်းလက်ထက်တွင် ဂုဏမုနိန္ဒာဘိသီရိသဒ္ဓမ္မဇမဟာဓမ္မရာဇာ ဓိရာဇဂုရုတံဆိပ်တော်ရ မန်လည်သာသနာပိုင်ဆရာတော်ထံတွင် စာ ပေသင်ကြား၍ အသက်၂၂-နှစ်တွင် မန်လည်ဆရာတော်ကို ဥပဇ္ဈာယ် ပြု၍ ရဟန်းဘောင်သို့တက်ရောက်သည်၊ ထိုအခါမဲထီးဆရာတော်, မုံ တောဆရာတော်, တောင်ငူဆရာတော်တို့က ကမ္မဝါစာဖတ်တော်မူသည်၊ အမရပူရမြို့အရှေ့တောင်ယွန်း မိုးထိကျောင်း တောင်ဖက်ကျောင်း တွင် သီတင်းသုံးတော်မူသည်၊ ဘကြီးတော်ဘုရားလက်ထက် ပြည်ကြီး ဝန် မောင်စံပျော်ကိုးကွယ်သည်၊ သာယာဝတီမင်းလက်ထက် လက်ျာ ဝင်းမှူး စစ်တောင်းမြို့စားမင်းကြီး ကိုးကွယ်သည်၊ ဇာနဗုဒ္ဓသာရသဒ္ဓမ္မဇ မဟာဓမ္မရာဇဂုရုတံဆိပ်တော်ကိုခံယူရသည်၊ဆရာတော်သည် ၁၂၀၅- ခုသီတင်းကျွတ်လပြည့်ကျော် ၁၁-ရက်နေ့တွင် ပျံလွန်တော်မူသည်။

---

## ၅၈။ ရှင်မုနိန္ဒ (*မင်းကွန်းဆရာတော်)
(၁၁၂၃-၁၂၁+)

မင်းကွန်းဆရာတော်ကို ၁၁၂၃-ခုနှစ် တပို့တွဲလဆန်း ၄-ရက်နေ့ တွင်ရတနာပူရအဝမြို့တော်ဈေးငယ်ပိုးတန်းရပ်၌ ဦးထွေး-ရှင်မှန်ညိုတို့ မှ ဖွားမြင်သည်၊ အင်းဝပျက်ပြီးနောက် နန်းတော်ရှေ့ရပ်တွင် ပြောင်း ရွှေ့နေထိုင်လေသည်၊ ဆင်ဖြူရှင်မင်းတရား လက်ထက်တွင် မြို့အရှေ့ ညောင်စဉ်တန်းရပ်သို့ပြောင်းရွှေ့နေထိုင်သည်၊ ငယ်စဉ်ကဗဒုံကျောင်း တိုက်အတွင်း ပဲခင်းကျော်ဆရာတော်ထံတွင် ပညာသင်ကြားသည်၊

*မင်းကွန်းဆရာတော်၏ဘွဲ့မှာ စလင်းသာသနာပိုင် ဆရာတော်၏ဘွဲ့နှင့် တူပေသည်၊သို့ရာတွင်တံဆိပ်တော်ကားကွဲလွဲသည်ကိုသတိပြုသင့်သည်။

ငယ်မည်မှာ ဦးခွေးဖြူဖြစ်၍ ရှင်မည်ရှင်မုနိန္ဒဟုခံယူသည်၊ အသက် ၂၀-နှစ်တွင် ရှင်မုနိန္ဒဘွဲ့နှင့်ပင် ရဟန်းဘောင်သို့ တက်ရောက်သည်၊ ဆရာတော်သည် မင်းကွန်းအနောက်ဘက် ရွှေမြင်တင်တောင်ခါးပန်း ရွှေမြင်တင်ဘုရားရှင်အနီးတွင် တိုက်တာတည်၍ သီတင်းသုံးသည်၊ အင်းဝမြို့သဌေးတန်းရပ် မဟာဇောတိကသဌေး ကျောင်းဆောက်လုပ်လှူဒါန်းသည်၊ စလင်းသာသနာပိုင် ဆရာတော်ဘုရားကြီး လက်ထက်တွင် မုနိန္ဒာဘိဃောသမဟာဓမ္မရာဇဂုရု တံဆိပ်တော်ကို ခံယူရသည်၊ အမရပုရဒုတိယနန်းတည်မင်းလက်ထက်တွင် မုနိန္ဒာဘိဃောသ သီရိသဒ္ဓမ္မဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူရသည်၊ ဆရာတော်သည် သက်တော် ၉၀-ကျော်မှပျံလွန်တော်မူသည်။

ဆရာတော်သည် ဓာတုဝိဘာဂဒီပနီကို စီရင်တော်မူခဲ့သည်။

---

## ၅၉။ ရှင်သူရိယဝံသ (သဲအင်းဆရာတော်)

## (၁၁၂၅-၁၂၀၁)

သဲအင်းဆရာတော်မှာ ကုန်းဘောင်လက်ထက်တွင် ထင်ရှားသော သာသနာပိုင်ဆရာတော်တပါးဖြစ်လေသည်၊ ၁၁၂၅-ခု နတ်တော်လဆန်း ၇-ရက်နေ့တွင် ပုခန်းမြို့ကျေး သဲအင်းရွာ ဦးအောင်စံ- ရှင်ပုံတို့မှ ဖွားမြင်လေသည်၊ ငယ်မည်မှာ ဦးကြောင်ဖြစ်သည်။

ငယ်စဉ်က အစ်ကိုရင်း ရှင်စန္ဒထေရ်နှင့်အတူ အဝရွှေမြို့တော် ဘုံကျော်တိုက် စရစ်ဆရာတော်၊ မိုးထိတိုက် ထန်းတပင်ဆရာတော်တို့ထံတွင် စာပေသင်ကြား၍ သာမဏေပြုရာ ဘွဲ့မည် ရှင်သူရိယဖြစ်လေသည်၊ ထို့နောက် ဗားကရာဆရာတော်ကြီးထံဆည်းကပ်၍ ၂၅-နှစ်အရွယ်တွင် ရှင်သူရိယဝံသဘွဲ့ဖြင့် ရဟန်းပြုသည်၊ ၁၁၆၀-ခုနှစ်မှစ၍ သဲအင်းရွာ၌ ကျောင်းတိုက်တည်၍ စာပေပို့ချလေသည်၊ ၁၁၇၁-ခုနှစ်တွင် ဘကြီးတော်လက်ထက် ရွှေမြို့တော်သို့ရောက်၍အိမ်ရှေ့မင်း(သာယာဝတီမင်း)က ကိုးကွယ်တော်မူလေသည်၊ ၁၁၇၂-ခုနှစ်တွင် သဒ္ဓမ္မဝံသာဘိ သီရိဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူကာ အဝမြို့အနောက်၊ သဲအင်းကျောင်းတိုက်ကို အလှူခံယူ၍ သီတင်းသုံးတော် မူရလေသည်၊ ၁၁၉၉-ခုနှစ်တွင် သာသနာပိုင်အပ်ခြင်းခံရလေသည်၊ သူရိယဝံသာဘိ

သီရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇ ဂုရုတံဆိပ်တော်ကိုလည်း ခံယူရသည်။

ဆရာတော်ကြီးသည် ၁၂၀၁ မု-နှစ် သီတင်းကျွတ်လဆုတ် ၁၃–ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ ဝိဓိလက်ရိုးကျမ်း။
၂။ ပဋ္ဌာန်းသုံးချက်စု၊ ပစ္စည်းပြိုင်ရာသီစုကျမ်း။
၃။ ယမိုက်ဆယ်ကျမ်းအရကောက်။

[ဗားကရာ သာသနာပိုင်ဆရာတော်ရှင်ပညာဇောတ၊ပဌမစံကျောင်း ဆရာတော်ရှင်စန္ဒိမာ၊ ခင်မကန်ဆရာတော် ရှင်မဏိဇောတ၊ ဒုတိယ မောင်းထောင်သာသနာပိုင် ဆရာတော် ရှင်ဥဇ္ဇယျဓမ္မ၊ ပြည်ဆရာတော်ရှင်မေဓာ၊ ဝေယန်စံလွှတ်ဆရာတော်ရှင်ပရမ တို့မှာ သဲအင်းဆရာတော်၏ တပည့်များဖြစ်လေသည်၊ ယမိုက် ၁၀-ကျမ်း ပါဠိတော်နိဿျပြု ရှင်ဇမ္ဗုဒီပဓဇ(ဇမ္ဗုဒီပဓဇမဟာဓမ္မရာဇာဓိရာဇဂုရု) ဆရာတော်သည်လည်း သဲအင်းဆရာတော်၏ တပည့်ပင်ဖြစ်သည်။]

---

## ၆၀။ ရှင်မုနိန္ဒ (စလင်းသာသနာပိုင်ဆရာတော်)
## (၁၁၂၅–၁၂၀၂)

စလင်းဆရာတော်ကို စကုမြို့အဝင် ကန္နကလာရွာတွင် အသည်ကြီးမောင်ညိုသီလ-ရှင်မိတို့မှ ၁၁၂၅-ခုနှစ် တော်သလင်းလဆန်း ၈-ရက်ကြာသပတေးနေ့တွင် ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ချစ်လောက်ဖြစ်၏၊(အချို့က ဖွားစဉ်ကချက်တွင် လောက်ကောင်ငယ်များပါ၍ မောင်ချက်လောက်ဟု မှည့်ခေါ်သည်ဟု ဆိုကြ၏၊) မောင်ချစ်လောက်သည် ခုနစ်နှစ်အရွယ်ရောက်မှ စကားစတင်ပြောဆိုသည် ဆို၏၊ဉာဏ်ပညာ အလွန်ထက်မြက်၏၊ ငယ်စဉ်က ကြက်သွန်ခင်းဆရာတော်၏ တပည့်ရှင်မေဒိယထံတွင် ပညာသင်ကြား၍ သာမဏေပြုရာ ဘွဲ့တော်မှာ ရှင်ပညာသီဟဖြစ်သည်၊ ၁၁၄၆-ခုနှစ်တွင်ရဟန်းပြု၍ ပန်းလွှား ဆရာတော်ရှင်ဂုဏဝန္တထံတွင် စာပေသင်ကြားသည်၊ ဆရာတော်၏ ချီးမွမ်းမြှောက်စားခြင်းခံရ၍ ၁၁၅၅-ခုနှစ်တွင် ဥဘတောဝိဘင်းကို သုဓမ္မာသဘင်တွင်

ပြန်ဆိုနိုင်သည်၊ *၁၁၇၀-ခုနှစ်တွင် ဘိုးတော်ဘုရားက နေပြည်တော်သို့ပင့်ဆောင်၍ ရဟန်းသိက္ခာထပ်ပေးတော်မူသည်။ ၁၁၇၁-ခုနှစ်၌ ဘကြီးတော်မင်းက အမရပုရမြို့အာသောကာရာမတိုက်ရတနာဘုံကျော်ကျောင်းကိုတင်လှူတော်မူသည်၊ ၁၁၇၂-ခုနှစ် တန်ခူးလဆန်း ၁-ရက်နေ့တွင် သာသနာပိုင်ဆရာတော်အဖြစ် တင်မြှောက်၍† မုနိန္ဒာဘိ သီရိသဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော် ကပ်လှူပူဇော်ခြင်းခံရသည်၊ ထိုနောက်အင်းဝမြို့တော်တွင် မဟာအောင်မြေ ဘုံသာကျောင်းတော် ကိုလည်း အလှူခံတော်မူရ၍ မုနိန္ဒာဘိဝံသ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော်ကိုလည်း ထပ်မံရရှိသည်၊ ထိုနောက် မဟာဘုံကျော် ကျောင်းတိုက်နှင့် မုနိန္ဒာဘိဝံသဓမ္မသေနာပတိသီရိသဒ္ဓမ္မပါလမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်များကိုလည်း ထပ်မံခံယူရပြန်သည်၊သာယာဝတီမင်းလက်ထက်တွင် မုနိန္ဒာဘိဝံသဓမ္မသေနာပတိသီရိသဒ္ဓမ္မပါလ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်နှင့် တကွရတနာဘုံကျော်ကျောင်းတော်ကြီးကို မွမ်းမံလှူဒါန်းပြန်လေသည်။

---

* သာသနာလင်္ကာရ ၁၉၉- အရ ၁၁၄၀-ခုနှစ်တွင် သာသနာပြု ဆရာတော် တကျိပ်နှစ်ပါးခန့်အပ်ရာ၌စလင်းဆရာတော်ပါဝင်သဖြင့် ထိုစဉ်ကပင် နေပြည်တော်သို့ရောက်အံ့သို့ရှိသည်၊ သို့ရာတွင် သာသနာလင်္ကာရ ၂၁၂-၌ပင် စလင်းမြို့ဇာတိ ရှင်ပညာသီဟကိုကျမ်းဝန်တတ်လှ၍ဘကြီးတော်နန်းတက်သော ၁၁၇၁-ခုနှစ် စလင်းမြို့မှ အမရပုရနေပြည်တော်သို့ ပင့်ဆောင်၍ ကျောင်းတင်လှူဒါန်းကြောင်း၊ တံဆိပ်တော်ဆက်ကပ်ကြောင်းများကိုဖေါ်ပြထားသည်၊ ထို့ကြောင့် သာသနာပြု စလင်းဆရာတော်မှာ တပါးဖြစ်ဖွယ်ရှိသည်။

† ပိဋကတ်တော်သမိုင်း၌ မုနိန္ဒာဘိဝံသ သီရိပဝရာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့ရသည်ဟုဆိုသည်။

မင်းတုန်းမင်းလက်ထက် အရှေ့ပြင် မဟာဝိဇိတာရာမတိုက် စလင်းဆရာတော် ရှင်ကေတုမာလာ (ကေတုမာလာဘိဓဇအတုလာဓိပတိသီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု)ဆရာတော်ဟူ၍လည်းရှိသေးသည်၊ထိုဆရာတော်မှာ သုဓမ္မာဆရာတော်ရှစ်ပါးအပါအဝင်ဖြစ်သည်။

ဆရာတော်ကြီးသည် ၁၂၀၂-ခုတော်သလင်းလပြည့်ကျော် ၈-ရက်နေ့တွင် ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါရှိလေသည်။

၁။ အဘိဓမ္မာဝတာရအဋ္ဌကထာနိဿယသစ်။
၂။ ရာဇိန္ဒရာဇပုညဒီပနီ။
၃။ အဘိဓမ္မတ္ထသင်္ဂဟဒီပနီ။
၄။ ပရိတ်ကြီး။

---

## ၆၁။ ရှင်ဝရ (တတိယကျော်အောင်စံထားဆရာတော်)
## (၁၁၂၅–၁၁၈၀)

တတိယကျော် အောင်စံထားဆရာတော်ကို ၁၁၂၅-ခုနှစ်တွင်အင်းဝမြို့အနောက်တောင်ယွန်းစေင်ရိုင်းရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ပေါ်ဖြစ်၍ ရှင်သာမဏေပြုသော် ရှင်ဝရဘွဲ့ခံယူသည်၊ ထိုနောက်လူဝတ်လဲ၍တရားမွေဟောပြောကာ အမယ်နီနှင့် အိမ်ထောင်ပြုသည်၊ ထိုနောက်လူဘောင်ကိုစွန့်ခွါ၍ မြို့တော်အနောက် ဂူကြီးဘုရားစောင်းတန်းတောင်ဖက်တွင် မြေတိုင်းအတွင်းဝန်မင်း ကုသိုလ်တော်ဘုရားကြီးရေစက်ချပွဲ၌ မြေတိုင်းဝန်ကိုဒါယကာပြု၍ ရဟန်းဝတ်သည်၊ထိုနောက်ရတနာပုရစတုတ္ထမြို့တည် မင်းတရားကြီးလက်ထက် တောင်ပလူကုန်းမဲထီးကျောင်းတိုက်တွင် သီတင်းသုံးသည်၊ ရွာပုကြီးမင်းသမီးကလည်းဆက်လက်ကိုးကွယ်သည်၊ ဝရသမ္ဘောဓိသီရိသဒ္ဓမ္မရာဇဂုရုတံဆိပ်ကိုရရှိသည်၊ဆရာတော်သည် ၁၂၀၈ ခုနှစ်တွင်ပျံလွန်တော်မူသည်။

---

## ၆၂။ ရှင်ပညာ (မြင်းဝန်မင်းကြီး၊ ဆရာတော်)
## (၁၁၂၅–၁၂၁၂)

မြင်းဝန်မင်းကြီးဆရာတော်ကို ၁၁၂၅-ခုနှစ်တွင် အလုံမြို့ကျေးမောင်းထောင်ရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာ ဦးမြတ်ညိုဖြစ်သည်၊ ဆွေမျိုးတော်သခင်မ ရှင်ရွှေက ကောက်ယူ မွေးစားသဖြင့် မြောက်မြို့မုဆိုးဖိုသားဟုတွင်သည်၊အရွယ်ရောက်သော်ရဟန်းပြု၍ ရှင်ပညာဘွဲ့ကိုခံယူသည်၊ အမရပုရမြို့တော် မြောက်မျက်နှာ မဟာမုနိဘုရားမြောက်

ဖက် မြင်းစုကြီးဝန် မဟာမင်းခေါင် ဆောက်လုပ်သော ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ပညာဘိဓဇမဟာဓမ္မရာဇဂုရု တံဆိပ်တော်ကို လည်း ခံယူရသည်၊ ၁၂၁၂-ခု နတ်တော်လပြည့်ကျော် ၂-ရက်နေ့တွင် ပျံလွန်တော်မူသည်။

---

## ၆၃။ ရှင်ကဝိန္ဒာဘိ (မဟာဗောဓိဆရာတော်)

(၁၁၂၆-၁၁၉၂)

မဟာဗောဓိဆရာတော်ကို သကရာဇ် ၁၁၂၆-ခု ဝါဆိုလဆန်း ၁၂-ရက်နေ့တွင် အဝမြို့တော်အနောက်တော်ယွန်း တောင်ပြုန်းရွာ၌ မောင်မွေးစံ-ရှင်ဝတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ပိုဖြစ်သည်၊ ငယ်စဉ်ကသာမဏေပြု၍ ရှင်ကဝိန္ဒာဘွဲ့ခံသည်၊ အင်းဝမြို့တော်အရှေ့တောင်ထောင့် ဝမ်းပဲအင်း တောင်ဖက် မဟာဗောဓိ ဘုရားအနီး ကျောက်တိုက်ရွာကျောင်းတွင် သီတင်းသုံးတော်မူသည်၊ဘိုးတော်ဘုရား လက်ထက် အသက် ၂၃-နှစ်အရွယ်တွင် မြို့တော်အရှေ့ တောင်ဖက် ခံတောသိမ်တွင် မဟာဗောဓိဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင်သို့ တက်ရောက်ကာ ဆရာတော်ထံ၌ စာပေသင်ကြားသည်၊ အမရပုရမြို့တည် မင်းကြီးသားတော် တောင်ငူမင်းနှင့် သမီးတော် ကသာမြို့စားမင်းသမီးတို့က ကိုးကွယ်၍ မြို့အရှေ့ဖက် စောင်းကလော ကန်တွင်း ကျောင်းတိုက်တွင် ကျောင်းဆောက်လုပ် လှူဒါန်းသည်၊ ထိုနောက် ဟံသာဝတီမြို့ဝန် မောင်အုပ်က တောင်ပြင် အရပ်တွင် ကျောင်းဆောက်လုပ်လှူဒါန်းသည်၊ ကဝိန္ဒာဘိသိရိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ရရှိသည်၊ဆရာတော်သည် ၁၁၉၂-ခုနှစ်တွင် ပျံလွန်တော်မူသည်။

ဆရာတော်ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းလည်း ပါဝင်လေသည်။

၁။ အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိသျ။

---

## ၆၄။ ရှင်စန္ဒ (ဒုတိယ ဂူကြီးဆရာတော်)
(၁၁၂၇-၁၁၉၄)

ဂူကြီးဆရာတော်ကို ၁၁၂၇-ခုနှစ်တွင် ရွာသစ်ကြီးရွာ၌ ဖွားမြင်တော်မူသည်၊ ရတနာပုရ စတုတ္ထမြို့တည် မင်းတရားကြီး လက်ထက် ပုဏ္ဏားသဒ္ဒေးက မြို့ကြီးတောင်မျက်နှာ ကင်ပွန်းချုံအရပ်တွင် ကျောင်းဆောက်လုပ် လှူဒါန်းလေသည်၊ ဉာဏာဘိပရမဝံသမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူရသည်၊ ၁၁၉၄-ခုနှစ်တွင် အင်းဝမြို့တော်၌ပင် ပျံလွန်တော်မူသည်။

---

## ၆၅။ ရှင်ပရမသီရိ (ပဌမမြသိန်းတန်ဆရာတော်)
(၁၁၃၇-၁၂၀၁)

မြသိန်းတန်ဆရာတော်ကို ၁၁၂၇-ခုနှစ်တွင် အလုံမြို့ကျေး ကင်းစမ်းရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ဟန်ဖြစ်သည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်ပရမသီရိဘွဲ့တော်ကို ခံယူသည်၊ ရတနာပုရ စတုတ္ထမြို့တည် မင်းတရားကြီးလက်ထက် မြတောင်မြို့စားမင်းသမီးက ကိုးကွယ်သည်၊ ပရမဝံသာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုခံယူတော်မူရသည်၊ ဆရာတော်သည် ၁၂၀၁-ခုနှစ်တွင် ပျံလွန်တော်မူသည်။

---

## ၆၆။ ရှင်ဂုဏမုနိန္ဒ (ဘုတ်ကန်ဆရာတော်)
(၁၁၂၀-၁၂၁၂)

ဘုတ်ကန်ဆရာတော်ကို ၁၁၂၀-ခုနှစ် တပို့တွဲလဆန်း ၁၀-ရက်နေ့တွင် ကောလင်းမြို့၌ ဦးတော-ရှင်ထွေးတို့မှ ဖွားမြင်သည်၊အရွယ်ရောက်သော် သာမဏေပြု၍ ရှင်ကဝိဘွဲ့ခံသည်၊ ရဟန်းပြုသော် *ရှင်ဂုဏမုနိန္ဒဘွဲ့ခံယူသည်၊ ဘိုးတော်ဘုရားလက်ထက် မောင်းထောင်ဆရာတော်ထံတွင် စာပေ သင်ကြားသည်၊ မြို့တော် အရှေ့မြောက် ဘုတ်ကန်ကြီးရွာတွင် သီတင်းသုံးဘူးသောကြောင့် ဘုတ်ကန်ကြီးဆရာတော်ဟု ခေါ်တွင်သည်၊ ဘကြီးတော်မင်းလက်ထက် အင်းဝမြို့တော် ခါးပန်းနီကျောင်းတိုက်တွင် ကျောက်ဆောက်မြို့စားဝန်ကြီး မင်းကြီး

---

* မင်းလှသီရိသီဟသူ၏ မှတ်တမ်းတွင် ဘွဲ့တော်ရှင်ကဝိဟုပြသည်။

မဟာသီဟသူကပြင်ဆင် ဆောက်လုပ်လှူဒါန်းသော အုတ်ကျောင်းတွင် သီတင်းသုံးသည်၊ သာယာဝတီမင်း လက်ထက်တွင် မြို့တော်အရှေ့တောင်ထောင့် ကျောက်မြောင်းတိုက်၌ အသည်ဝန်ထောက်မင်းကြီး မဟာစည်သူက ဆောက်လုပ်လှူဒါန်းသော လေးထပ်ကျောင်းတွင် သီတင်းသုံးသည်၊ ဂုဏမုနိန္ဒာဘိသဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူရသည်၊၁၁၂၂-ခုနှစ် ပဌမဝါဆိုလပြည့်ကျော် ၁၃-ရက်နေ့တွင် ပျံလွန်တော်မူသည်။

## ၆၇။ ရှင်ဂုဏာဘိ (တောင်ပေါ်ဆရာတော်)
## ( ၁၁၂၈–၁၂၁၄ )

တောင်ပေါ်ဆရာတော်ကို ၁၁၂၈-ခုနှစ်နယုန်လဆန်း ၅-ရက်နေ့တွင် ပင်းတလဲမြို့စီရင်စု အုတ်ဖိုကန်ရွာ၌မောင်ခဲ - ရှင်လှထွန်းတို့မှဖွားမြင်သည်၊ ငယ်မည်မှာ မောင်ကျော်လှဖြစ်သည်၊ သာမဏေပြုသော် ရှင်ဂုဏာဘွဲ့ခံ၍ အရွယ်ရောက်လျှင် ရဟန်းပြုသော် ရှင်ဂုဏာဘိဘွဲ့ခံယူသည်၊ ဘိုးတော်ဘုရားလက်ထက် အမရပုရမြို့တော်ကြီးတွင် မင်းရွာဆရာတော်ထံ၌ ပညာသင်ကြား၍ မင်းရွာတိုက်အရှေ့မုခ်အဝင်မြောက်ဖက်ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ရတနာပုရစတုတ္ထမြို့တည်မင်းတရားကြီးလက်ထက် မြို့တော်အရှေ့မြောက်ထောင့် မဟာအောင်မြေဘုံစံအုတ်ကျောင်းတွင်သီတင်းသုံးသည်၊ ထိုနောက်ကျီဝန် မောင်ပါရောက်က မုံရွာကျောင်းတိုက်အတွင်း အုတ်ကျောင်းဆောက်လုပ်တင်လှူသည်၊ ဂမ္ဘီရဓဇမဟာဓမ္မရာဇဂုရု တံဆိပ်တော်ကို ခံယူရသည်၊ ဆရာတော်သည် ၁၂၁၄-ခုတွင်ပျံလွန်တော်မူသည်။

## ၆၈။ ရှင်အာဒိစ္စရံသီ (ဒုတိယမုံရွေးဆရာတော်)
## ( ၁၁၂၈–၁၁၉၆ )

မုံရွေးဆရာတော်မှာ ဘိုးတော်ဘုရားလက်ထက်တွင် ထင်ရှားသော ဆရာတော်တပါးဖြစ်လေသည်၊

သကရာဇ် ၁၁၂၈-ခုနှစ် နယုန်လဆန်း ၄-ရက်တနင်္ဂနွေနေ့တွင် ကြေးမုံရွာသူကြီး* ဦးဇေယျ-ဒေါ်မင်းလှတို့မှ ဖွားမြင်လေသည်၊

* ဦးကြာဖြူ-ဒေါ်ငြိမ်းမြ ငယ်မည်မောင်တိုးဟု အမှတ်အသားရှိသည်မှန်ချေ။

ငယ်မည်မှာ မောင်အောင်မြဖြစ်လေသည်၊ အသက် ၆- နှစ်ရွယ်တွင် မုံရွေးရွာအရှေ့ကျောင်း၌ ပညာသင်ကြား၍၁၆-နှစ်အရွယ်တွင် မုံရွေး ဇေတဝန်ကျောင်း မဟာဝိစိတ္တာရာမ ဆရာတော်ကြီးထံတွင် ပညာသင် ကြားလျက် သာမဏေပြုရာ ရှင်အာဒိစ္စ ဟူသော ဘွဲ့ကိုခံယူလေသည်။

အသက် ၁၂-နှစ်အရွယ်ကပင် မဟာသီလဝ,အာဒါသမုခ စသော ပျို့များကိုရေးနိုင်လေသည်၊ထိုနောက်ရဟန်းဘောင်သို့ဝင်၍ ဆားတုံး ဆရာတော်,သက်ငယ်ကျောင်းဆရာတော်များထံတွင် ဆက်လက်ပညာ သင်ကြားလေသည်၊သင်္ကြိုက်, ဗင်္ဂလီ, နာဂရီ ဘာသာများလည်း တတ်မြောက်တော်မူလေသည်။

ဘိုးတော်ဘုရားလက်ထက် အရိယာဝံသအာဒိစ္စရံသီဘွဲ့တံဆိပ် တော်ကိုကပ်လှူခြင်းခံရ၍ ၁၁၆၄-ခုနှစ်၌ ဆရာရင်းမုံရွေးဆရာတော် ဦးဝိစိတ္တာရာမ ပျံလွန်တော်မူသော်မုံရွေးဇေတဝန်ကျောင်းတိုက်ကိုဆက် ခံတော်မူရသဖြင့် *မုံရွေးဆရာတော်ဟု ထင်ရှားလေသည်၊ ထိုနောက် ဘကြီးတော်မင်းလက်ထက်တွင် နေပြည်တော်သို့ ပင့်ဆောင်ကိုးကွယ် ကာ ငါးထပ်ကျောင်း (ပြာသာဒ်ကျောင်း )ဆောက်လုပ်လှူဒါန်း၍ ဇ္ဈာဝဇိရာ လင်္ကာရသီရိမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုကပ် လှူလေသည်။

သကရာဇ်၁၁၇၇-ခုနှစ်အင်္ဂလိပ်မြန်မာစစ်ဖြစ်ရာ၌ပါဝင်စကားပြော ဆိုသဖြင့် ငြိမ်းပြေလေသည်၊မှန်နန်းရာဇဝင်တော်ကြီးကို ရေးသားရာ၌ လည်း ပါဝင်ဆောင်ရွက်တော်မူလေသည်၊ ထိုနောက်တွင် ဇ္ဈာဝဇိရာ ဘိလင်္ကာရသီရိဇေမဟာရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုကပ်လှူခံတော် မူရပြန်လေသည်။

ဆရာတော်သည် ၁၁၉၆-ခုနှစ်တွင် အင်းဝနေပြည်တော် ပြာသာဒ် ကျောင်း၌ပျံလွန်တော်မူလေသည်၊ ဆရာတော်ပြုစုခဲ့သောကျမ်းများ တွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ မဟာရာဇဝင်တော်ကြီး။ ၂။ မဟာရာဇဝင်သံခိပ်။

---

* ပဌမ မုံရွေးဆရာတော်ကား- ရှင်အာဒိစ္စ၏ဆရာရင်း မဟာဝိစိတ္တာရာမ ဆရာတော်ပင်ဖြစ်၍ ဆရာတော်သည် ကျမ်းများပြုစုခဲ့ပေသေးသည်၊ ဝိစိတ္တာ လင်္ကာရသာသန ဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုလည်း ရရှိသည်။

၃။ သမန္တစက္ခုဒီပနီ။
၄။ သာသနဝံသဒီပနီ။
၅။ ရွှေလင်းတပျို့။
၆။ ဝစနာလင်္ကာရကျမ်း။
၇။ ဟိတလက္ခဏာကျမ်း။
၈။ လက္ခဏာရာမရာဇဝင်။
၉။ မဟာသမုဒ္ဒဂ္ဂိရဒီပနီ။
၁၀။ အဃလက္ခဏာကျမ်း။
၁၁။ ဝစနမာလာကျမ်း။
၁၂။ သီဟဠဝတ္ထု။
၁၃။ ပေါရာဏကထာကျမ်း။
၁၄။ ဥတေနပျို့(ဥတိန္န)။
၁၅။ ကုသပျို့။
၁၆။ ကုသပျို့ဖတ်စာ။
၁၇။ နာနာဆန္ဒပျို့။
၁၈။ ဝါဆိုစဉ်ပျို့။
၁၉။ မဟာနာရဒပျို့။
၂၀။ ပဋ္ဌာဝုဓပျို့။
၂၁။ ပဋ္ဌာဝုဓပျို့ဖတ်စာ။
၂၂။ ဟာသဇဝနိယဉာဏမဥ္ဇရီ။
၂၃။ ရာဇောဝါဒ စာကိုယ်နှင့် အဖြေ။
၂၄။ ကဝိမဏ္ဍာနိသတ်ပုံ။
၂၅။ ရွှေလင်္ကာ။
၂၆။ သတ်ပုံလင်္ကာ။
၂၇။ သတ်ညွှန်းနှင့်သတ်ထူး။
၂၈။ မင်းအဆုံးအဖြတ်။
၂၉။ ကေသဓာတုဝင်နိသျ။
၃၀။ အာကာသသျှတ္တရပျို့။
၃၁။ အာကာသစာရီပျို့။
၃၂။ အာဒါသမုခပျို့။
၃၃။ မဏိသျှတ္တရပျို့။
၃၄။ ပြာသာဒ်ကျောင်းဘွဲ့။
၃၅။ ဩဝါဒဝိနိစ္ဆယကျမ်း။
၃၆။ မဟာသီလဝပျို့။
၃၇။ မင်္ဂလသုတ်ပျို့။
၃၈။ ပါရမီတော်ခန်းအဖြေ။
၃၉။ အမွေခွဲပုံဓမ္မသတ်။
၄၀။ စွယ်စုံကျော်ထင်အဖြေ။
၄၁။ မေတ္တာစာများ။
၄၂။ ကေဝိုဒ်ရတုများ။
၄၃။ သင်္ဂါယနာတင်လူးတား။
၄၄။ ပုစ္ဆာလင်္ကာ။

## ၆၉။ ရှင်ကဝိ (လောကမှန်ကင်းဆရာတော်)
(၁၁၂၉-၁၂၁+)

လောကမှန်ကင်းဆရာတော်ကို ၁၁၂၉-ခုနှစ် ပြာသိုလပြည့်ကျော် ၁-ရက်နေ့တွင် အလုံမြို့၌ဖွားမြင်သည်၊ ငယ်မည်မှာမောင်ကံရဖြစ်သည်၊ အရွယ်ရောက်သော်ရဟန်းပြု၍ ရှင်ကဝိဘွဲ့ခံယူသည်၊ ရဟန်း ၁၆-ဝါ ရလျှင် လူထွက်၍ ရန်ကုန်မြို့တွင်တရားဟောပြောနေသည်၊ ရတနာပုရ

စတုတ္ထမြို့တည် မင်းတရားကြီးလက်ထက် ရဟန်းပြုပြန်၍ ပရိယတ္တိ ဆည်းပူးပြန်သည်၊ အင်းဝမြို့တော် ဝက်လက်ကျောင်း တိုက်တွင် ပေါင်းတည်မြို့စား အရီးတော်ရှင်ပုက ဆောက်လုပ် လှူဒါန်းသည့် လေးထပ်ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ဒုတိယအမရပူရ မြို့နန်းတည် မင်းလက်ထက် မြို့တော်မြောက်မျက်နှာ လောကမှန်ကင်း ကျောင်းတိုက်တွင် ဇရွှံမြို့စားအတွင်းဝန် မင်းကြီးမဟာသက်တော်ရှည် မောင်ဘိုဆောက်လုပ်သည့်ကျောင်းတွင် သီတင်းသုံးသည်၊*ကဝိန္ဒသာ ရဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုရရှိသည်၊ဆရာတော်သည် ၁၂၁၃-ခုနှစ်နောက်ပိုင်းတွင်မှ ပျံလွန်တော်မူသည်။

---

## ၇၀။ ရှင်မုနိန္ဒသာရ (ပဌမစညောင်ကန်ဆရာတော်) (၁၁၃၁- + )

ညောင်ကန်ဆရာတော်ရှင် မုနိန္ဒသာရကို ၁၁၃၁-ခုနှစ်တွင် ဗဒုံမြို့ ကျေး မုံရွာခရိုင်-ဘုတလင်မြို့နယ် ညောင်ကန်ရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာ မောင်သာပုံဖြစ်လေသည်၊ ရှင်သာမဏေ ပြုသောအခါ ရှင်မုနိန္ဒဘွဲ့ခံယူ၍ ရဟန်းဘောင်သို့တက်ရောက်သောအခါ ရှင်မုနိန္ဒ သာရဘွဲ့ကိုခံယူသည်၊ရှင်မုနိန္ဒသည် ညောင်ကန်ဆရာတော် ဦးဗုဓ်၏ ဒုတိယဆရာ ဖြစ်လေသည်၊ အမရပူရမြို့သို့ ရောက်သောအခါ

---

* မင်းလှသီရိသိဟသူ၏ မှတ်တမ်း၌ ကလျာဏဝံသမဟာဓမ္မရာဇာဓိရာဇဂုရု ဟုရှိသည် မသင့်၊ သာသနာလင်္ကာရ ၁၉၀-ရှု။

သကရာဇ် ၁၀၉၉-ခုနှစ်ဖွား ငယ်မည်မောင်ထွေး၊ အမရပူရမြို့တော် မြောက်မျက်နှာလောကမှန်ကင်းကျောင်းတိုက် အတွင်းဝန်ထောက် စန္ဒဝေသော် ဆောက်လုပ်သော သုံးထပ်ကျောင်းတွင် သီတင်းသုံးသည့် လောကမှန်ကင်း ဆရာတော်ဟူ၍ ရှိခဲ့ဘူးသေးသည်။

၁၁၆၀-ခုနှစ်တွင် နိဒါနဝဂ္ဂသံယုတ်ပါဠိတော်နိသျှဟောင်း,ခန္ဓဝဂ္ဂသံယုတ် ပါဠိတော်နိသျှဟောင်း, သဂါထာဝဂ္ဂသံယုတ်ပါဠိတော်နိသျှဟောင်း, မဟာ ဝဂ္ဂသံယုတ် ပါဠိတော်နိသျှဟောင်း, သဠာယတနဝဂ္ဂသံယုတ် ပါဠိတော် နိသျှဟောင်းတို့ကိုစီရင်သော လောကမှန်ကင်းဆရာတော်၏ဘွဲ့တံဆိပ်တော် ကိုကား ဝရသဒ္ဓမ္မဓဇမဟာဓမ္မရာဇဂုရုဟူ၍ ပိဋကတ်တော်သမိုင်းတွင်ပြသည်။

မင်္ဂလာဘုံကျော် ကျောင်းတိုက်တွင် သီတင်းသုံးတော်မူသည်။ ဆရာတော်သည် မုနိန္ဒဝရပရမဓဇမဟာဓမ္မရာဇဂုရု တံဆိပ်တော်ကို ခံယူရသည်။

ဆရာတော်သည် အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ ကစ္စာယနဘေဒနိသျ။

၂။ သချာပကာသကနိသျ။

၃။ *ဝိနယသာရဂဏ္ဌိ။

---

## ၇၁။ ရှင်သီရိမာလာ (ဒုတိယမင်းရွာဆရာတော်)

(ခ၁၃၁-၁၁၉၄)

မင်းရွာဆရာတော်ကို ၁၁၃၁-ခုနှစ်တွင် မတ္တရာမြို့၌ ဖွားမြင်သည်၊ ငယ်စဉ်က ရှင်သာမဏေပြုသော် ရှင်သီရိဘွဲ့ခံယူ၍ အရွယ်ရောက်လျှင် ရဟန်းပြုသော် ရှင်သီရိမာလာဘွဲ့ခံယူသည်၊ ကျွန်းဂန်လွန်စွာတတ်သည်၊ မင်းရွာဆရာတော်ကြီး၏တပည့်ရင်းဖြစ်သည်၊ မင်းရွာကျောင်းတိုက် အရှေ့တောင်ထောင့် သုံးထပ်ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ မြို့တော်ကြီးတွင် မီးသင့်လောင်ပြီးနောက် ဒါယကာတို့က ကျောင်းဆောက်လိုကြသော်လည်း တောသို့ကြွ၍ တောရဆောက်တည်တော်မူသည်၊ တပည့်တို့က ပင့်ဆောင်၍ စဉ့်ကူးမြို့ဝကြီးအရပ်တွင် တိုက်တာတည်၍ ကျောင်းဆောက်လှူဒါန်းသည်၊ ရတနာပုရစတုတ္ထမြို့တည် မင်းတရားကြီးလက်ထက် နေပြည်တော်သို့ ပင့်ဆောင်တော်မူသော်လည်း မေတ္တာရပ်ခံ၍ နေရင်းကျောင်းတွင်သာ သီတင်းသုံးတော်မူသည်၊ ဆရာတော်သည် ၁၁၉၄-ခုနှစ်တွင် ပျံလွန်တော်မူသည်။

---

* ဝိနယသာရဂဏ္ဌိကို ၁၁၄၆-ခု တော်သလင်းလဆန်း ၅-ရက်နေ့တွင် ပြီးစီးရာ ဆရာတော်၏ဖွားသက္ကရာဇ်အရ အသက် ၁၅-နှစ်တွင် ရေးသားဘိသကဲ့သို့ ဖြစ်နေပေသည်၊ စင်စစ်သော် ထိုကျမ်းကိုမုနိန္ဒဝရပရမဓဇ မဟာဓမ္မရာဇဂုရု တံဆိပ်တော်ရရှိပြီးမှ ပြုစုခြင်းဖြစ်သဖြင့် ဖွားသက္ကရာဇ်ကို စဉ်းစားဖွယ်ရှိပေသည်။

## ၇၂။ ရှင်သီလာစာရ (သက်ငယ်ကျင်းဆရာတော်)

(၁၁၃၁-၁၂၀၀)

သက်ငယ်ကျင်းဆရာတော်ကို သကရာဇ် ၁၁၃၁-ခုနှစ်တွင် *ဇရစ်ရွာ၌ ဖွားမြင်သည်၊ ခမည်းတော်မှာ မောင်ရွှေလုံးဖြစ်၍ မယ်တော်မှာ ရှင်လှတုတ်ဖြစ်သည်၊ ငယ်မည်မောင်ရွှေပုဖြစ်သည်၊ သာမဏေပြုသောအခါ ရှင်သီလဘွဲ့ခံယူသည်၊ ရဟန်းပြုသော် ရှင်သီလာစာရဘွဲ့ ခံယူသည်၊ ရတနာပုရစတုတ္ထမြို့တည်မင်းတရားကြီးလက်ထက် သမီးတော်စစ်ကိုင်းမြို့စားက ကိုးကွယ်တော်မူ၍ မြို့တော်အရှေ့တောင်ထောင့် တာဝတိံသာကျောင်းတိုက်တွင် လည်ပေါ်ကျောင်း ဆောက်လုပ် တင်လှူသည်၊ အမရပုရမြို့သို့ရောက်သောအခါ မြို့တော်မြောက်မျက်နှာ ကတိုးတိုက်တွင် သီတင်းသုံးတော်မူသည်၊ သီရိပရမဝံသာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူရသည်၊ ဆရာတော်သည် ၁၂၀၀-ပြည့်နှစ်တွင် ပျံလွန်တော်မူသည်။

ဆရာတော်သည် အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့သည်။

၁။ အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိဿယ။

၂။ သဒ္ဒါ ဂ-စောင်နိဿယ။

---

## ၇၃။ ရှင်သီလာစာရ (လက်ဝဲဆရာတော်)

(၁၁၃၁-၁၁၉၅)

**လက်ဝဲ** ဆရာတော်ကို ၁၁၃၁-ခုနှစ်တွင် †သဗိုးလက်ဝဲရွာတွင် ဖွားမြင်သည်၊သာမဏေပြုသော်ရှင်သီလဘွဲ့ကိုခံယူသည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်သီလစာရဘွဲ့ခံယူသည်၊ လက်ဝဲဆရာတော်သည်

---

* ပိဋကတ်တော်သမိုင်းကျမ်းစဉ် ၇၉၀-၈၂၂-တို့၌ အလုံစီရင်စုသက်ငယ်ကျင်းရွာဇာတိဟု ဖော်ပြသည်။

† မင်းလှသီရိသီဟသူရ မှတ်တမ်းတွင် ဇာတိပုဂံလယ်ယာရွာဟု ရှိသည်၊ သာသနာ်လင်္ကာရနှင့်မညီလေ၊ ထိုမှတ်တမ်း၌ တံဆိပ်တော်ကို သီလာစာရ (သီရိ)သဒ္ဓမ္မာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုဟူ၍ပြသည်၊ သီရိတည်လုံးပိုလေသည်။

ဘိုးတော်ဘုရား လက်ထက် ၁၁၆၄-ခုနှစ်တွင် မင်းကွန်းစန္ဒာမုနိ တန်ဆောင်း၌ ဥဘတောဝိဘင်းကို အာဂုံပြန်ဆိုတော်မူလေရာ မင်းတရားကြီးနှစ်သက်တော်မူ၍ မြေးတော်အိမ်ရှေ့မင်းကို ကိုးကွယ်ရန် အပ်တော်မူသည်၊ ဆရာတော်သည် မန်လည်သာသနာပြုဆရာတော်၏ တပည့်ဖြစ်၍ ကျမ်းဂန်ကျနလေသည်၊ တောရဆောက်တည်သည်သာ များ၍မင်းကွန်းရှေ့မြင်တင်တောင်ခါးပန်းတွင်ပြာသာဒ်ဥမင်နှင့်တောရ ကျောင်းဆောက်လုပ်၍ တင်လှူသည်၊ သီလာစာရသဒ္ဓမ္မာဘိဓဇမဟာ ဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုလည်း ခံယူရ၍ တောနေသံဃာ တော်တို့၏ အဓိပတိသာသနာပြုသာသနာပိုင်အဖြစ်လည်း ခန့်အပ်ခြင်း ခံရလေသည်၊ ဆရာတော်သည် ၁၁၉၅-ခုနှစ်တွင် ပျံလွန်တော် မူလေသည်။

---

## ၇၄။ ရှင်ကလျာဏဝံသ
## (ပဌမကျောင်းတော်ကြီးဆရာတော်)
## (၁၁၃၁-၁၂၀၂)

ကျောင်းတော်ကြီးဆရာတော်ကို ၁၁၃၁-ခုနှစ်တွင် ပင်းမြို့ကျေး မဲထီးရွာ၌ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ဝက်ဖြစ်သည်၊ရှင်ပြုသော် ရှင်ကလျာဏဘွဲ့ခံယူ၍ အရွယ်ရောက်လျှင် ရဟန်းပြုရာ ရှင်ကလျာဏ ဝံသဘွဲ့ခံယူသည်၊ ရတနာပုရအင်းဝမြို့တော် အနောက်တောင်ထောင့် မဟာအောင်မြေဘုံစံကျောင်းတိုက်တွင် စလင်းသာသနာပိုင်ဆရာတော် ထံ၌ ပညာသင်ကြားသည်၊ ထိုနောက် သူကြွယ်မောင်ရှန်းဆောက်သည့် ကျောင်းတွင် သီတင်းသုံးသည်၊ ထိုနောက် ကောင်ဟန်ဝန်မောင်ဖါ ဆောက်လုပ်လှူဒါန်းသည့်ကျောင်းတွင် သီတင်းသုံး၍ အမရပုရမြို့တော် သို့ရောက်သော် အာသောကာရာမတိုက် ရတနာဘုံကျော်ကျောင်းတွင် စလင်းသာသနာပိုင်ဆရာတော်ကြီးထံ၌ပင် ပညာဆက်လက်သင်ကြား၍ မဟာရံတံတိုင်းအတွင်း အနောက်တောင်ထောင့် သုံးထပ်ကျောင်း တွင် သီတင်းသုံးတော်မူသည်၊ ကလျာဏဝံသာဘိဓဇမဟာဓမ္မရာဇဂုရု တံဆိပ်တော်ကို ခံယူတော်မူရသည်၊ ဆရာတော်သည် ၁၂၀၂-ခုနှစ် နတ်တော်လတွင် ပျံလွန်တော်မူလေသည်။

---

## ၇၅။ ရှင်ဓမ္မဒီပ (ဒုတိယ မိုးထိဆရာတော်)
(၁၀၃၃-၁၂၀၉)

မိုးထိဆရာတော်ကို သကရာဇ်၁၁၃၃-ခု တပေါင်းလဆန်း ၆-ရက်နေ့တွင် စလင်းမြို့၌ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ပေါ်အီဖြစ်သည်၊ ရှင်မည်ရှင်ဓမ္မဖြစ်၍ ရဟန်းပြုသော် ရှင်ဓမ္မဒီပဘွဲ့ကိုခံယူသည်၊ ဘကြီးတော်မင်းတရားလက်ထက်နှစ်မတော်အကြီးပုသိမ်၃၂မြို့,တောင်တွင်းကြီးမြို့, ကန္နီမြို့, ဟသ်ာတမြို့စား ကိုးကွယ်တော်မူသည်၊ အင်းဝမြို့တော်တွင် မဟာမုနိဘုရား တောင် ဗဒ္ဒိကျောင်းတိုက်တွင် မင်းသမီးလှူဒါန်းသည့် ဘုံလေးဆင့်ရှိ ကျောင်းတော်တွင် သီတင်းသုံးသည်၊ အမရပုရမြို့သို့ ရောက်သည့်အခါ မြို့တော်အရှေ့တောင်ထောင့် မိုးထိတိုက်တွင်း ဘုံသာဝေယန်ကျောင်း၌ သီတင်းသုံးသည်၊ ဓမ္မာဘိဓဇမဟာဓမ္မရာဇဂုရုတံဆိပ်တော်ကိုခံယူရသည်။

ဆရာတော်သည် ၁၂၀၉-ခု ပြာသိုလဆန်း ၉-ရက်နေ့ မိုးထိကျောင်းတွင်ပင် ပျံလွန်တော်မူသည်။

---

## ၇၆။ ရှင်နရိန္ဒ (ဆဋ္ဌမညောင်ကန်ဆရာတော်)
(၁၁၃၅-+)

ဆဋ္ဌမညောင်ကန်ဆရာတော်ကို ၁၁၃၅- ခုနှစ်တွင် ဗဒ္ဒိမြို့ကျေးညောင်ကန်ရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာ မောင်မှတ်ကြီးဖြစ်သည်၊ သာမဏေပြုသော် ရှင်နရိန္ဒဘွဲ့ကိုခံယူသည်၊ ရဟန်းပြုသော် ရှင်နရိန္ဒာဘိဘွဲ့ကိုခံယူသည်၊ ထိုနောက်ရှင်သဒ္ဓမ္မရံသီ (ဒုတိယညောင်ကန်ဆရာတော်)ထံတွင် စာပေသင်ကြားသည်၊ ဆရာတော်သည်နောင်တော်ကြီးမင်းလက်ထက်တွင် မေတ္တာစာရေးသား ဆက်သွင်းတော်မူသည်၊ ဘိုးတော်ဘုရားလက်ထက်တွင် နေပြည်တော်သို့ ပင့်ဆောင်သော်လည်း ဂိုဏ်းအုပ်ဆရာတော်ဦးပိုး (သတ္တမညောင်ကန် ဆရာတော်)ကိုသာ ထည့်လွှတ်တော်မူလေသည်၊ ဆရာတော်သည်* နရိန္ဒာဘိတိသာသနဓဇမဟာဓမ္မရာဇဂုရုတံဆိပ်တော်ကိုခံယူရသည်။

---

* ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီးစာမျက်နှာ၁၀၂၄-တွင်ညောင်ကန်ဆရာတော်ရှင်နန္ဒိယကိုတိသာသနဓဇမဟာဓမ္မရာဇဂုရုတံဆိပ်တော်ကပ်လှူသည်-ဟုပါရှိသည်၊ ရှင်နန္ဒိယနှင့် ရှင်နရိန္ဒဘွဲ့ချင်းကွဲလွဲသည်။

ဆရာတော်သည် ကုလားတက်မေတ္တာစာနှင့် ပဌမ တရားစာတို့ကို ပြုစုတော်မူခဲ့သည်။

---

## ၇၇။ ရှင်တေဇောယန္တ* (နေရင်းဆရာတော်)

(၁၁၃၆-၁၂၀၉)

နေရင်းဆရာတော်ကို ပုခန်းကြီးမြို့ကျေး အရှေ့လက် နေရင်းရွာ၌ ၁၁၃၆-ခုနှစ်တွင် မောင်ရင်မောင်- ရှင်ဝင်းသာတို့မှ ဘွားမြင်သည်၊ ငယ်မည်မှာ မောင်ကွမ်ဖြစ်သည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်တေဇောယန္တဘွဲ့ခံယူသည်၊ ရတနာပုရစတုတ္ထမြို့တည် မင်းတရားလက်ထက် အင်းဝမြို့တောင်ဘက်တွင် စလင်းမင်းသားက အုတ်ကျောင်း ဆောက်လုပ်ကိုးကွယ်သည်၊ အမရပုရမြို့သို့ရောက်သောအခါ မြို့တော် မြောက်မျက်နှာ ဆင်တဲကျောင်းတိုက်၌ အတွင်းဝန် ပေါက်မြိုင်မြို့စား မောင်မှုံကကျောင်းကြီးဆောက်လုပ်ဆဲတွင် ဝါဆိုကျောင်း၌သီတင်းသုံး တော်မူသည်၊ ဇနိန္ဒာဘိသီရိပရမဓဇမဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ် တော်ကိုခံယူရသည်။

ဆရာတော်သည် ၁၂၀၉-ခုနှစ် နယုန်လပြည့်ကျော် ၁၀-ရက်နေ့၌ ပျံလွန်တော်မူသည်။

---

## ၇၈။ ရှင်သာသနဓဇာတ† (မန်ကျည်းတောဆရာတော်)

(၁၁၃၇-၁၂၀၉)

မန်ကျည်းတောဆရာတော်ကို ၁၁၃၇-ခုနှစ်တွင် အလုံမြို့ကျေး ကင်းစမ်းရွာ၌ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ဝန်းဖြစ်သည်၊ အရွယ်

---

* တနင်္ဂနွေမင်းလက်ထက် မဏိရတနာဆရာတော် ရှင်အရိယာလင်္ကာရ သည်လည်း နေရင်းရွာဇာတိဖြစ်၍နေရင်းဆရာတော်ဟုပင် မှတ်သားကြ သေးသည်။

† ရတုများဖွဲ့ဆိုသော မန်ကျည်းတောဆရာတော်ဘွဲ့ကို ရှင်သာသနဓဇ-ဟု ပိဋကတ်တော်သမိုင်းတွင်ပြသည်။

ရောက်၍ရဟန်းပြုသော် ရှင်သာသနဓဇာတဲ့ဘွဲ့ကို ခံယူသည်၊ ရတနာပုရ စတုတ္ထမြို့တည်မင်းကြီးလက်ထက်-မြောက်နန်းတော် မိတ္တိလာမိဖုရား ကကိုးကွယ်ခြင်းခံရသည်၊အင်းဝမြို့တော် အနောက်တောင်ထောင့်တွင် မိဖုရားက ဆောက်လုပ်လှူဒါန်းသော သုံးထပ်ကျောင်းကြီးတွင်သီတင်း သုံးတော်မူသည်၊ညီတော်မင်းတရားလက်ထက်တွင် စစ်ကိုင်းမြို့ကျောက် အိုးချောင်တောရကျောင်းတွင် တောရဆောက်တည်တော်မူသည်၊သီရိ ဂုဏာဘိလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုခံယူရသည်၊ ဆရာတော်သည် ၁၂၀၉-ခုနှစ်တွင် ပျံလွန်တော်မူသည်။

---

## ၇၉။ ရှင် × × + (ပုသိမ်ဆရာတော်)

(၁၁၃၈–+)

ပုသိမ်ဆရာတော်ကို၁၁၃၈-ခုနှစ်တွင်ဖွားမြင်သည်၊ အလုံမြို့ကျေး ကင်းစမ်းရွာဇာတိဖြစ်၍ငယ်မည်မှာမောင်လှေးဖြစ်သည်၊အင်းဝမြို့တော် တွင် မဟာမြတ်မုနိဘုရားရှင် အရှေ့ စမ္ပါယ်နဂိုရ်မင်းသမီးဆောက်လုပ် သော လေးထပ်ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ အမရပုရမြို့သို့ ရောက်သော် မြို့တော်မြောက်ဖက် ရွှေရေးဆောင်မိဖုရားကျောင်းတိုက် တွင် သီတင်းသုံးတော်မူသည်။

---

## ၈၀။ ရှင်ပုညရံသီ* (သတ္တမ ညောင်ကန်ဆရာတော်)

(၁၁၄၀-၁၁၉၁)

သတ္တမညောင်ကန်ဆရာတော်ကို၁၁၄၀-ပြည့်နှစ်တွင်အလုံမြို့ကျေး ညောင်ကန်ရွာမောင်ဖြူ-ရှင်ညက်တို့မှဖွားမြင်သည်၊ ငယ်မည်မှာမောင် ပိုးဖြစ်သည်၊ငယ်စဉ်ကသာမဏေပြု၍အရွယ်ရောက်သော်ရဟန်းဘောင် သို့တက်ရောက်သည်၊ ရှင်ပုညရံသီဘွဲ့တော်ခံယူသည်၊ ရတနာပုရနန်း တည်မင်းတရားကြီး၏ မိဖုရားကိုးကွယ်တော်မူသည်၊အမရပုရမြို့တော် တွင် အရှေ့မြောက်ထောင့် မင်းအိုတိုက်တွင် သီတင်းသုံးတော်မူ၍ အင်းဝမြို့သို့ရောက်သော် မြို့အရှေ့မြောက်ထောင့်ထီးလှိုင်ရှင်ဘုရား၊ရွှေ

---

* သတ္တမညောင်ကန်ဆရာတော် ရှင်ပုညရံသီကို ပဌမအုတ်ကျောင်းဆရာ တော်ဟူ၍လည်း မှတ်သားကြသည်။

စေတီဘုရားအနီးကျောင်းတိုက်တွင်အုတ်ကျောင်းဆောက်လုပ် လှူဒါန်း တော်မူသည်၊ကျောင်းတော်ကြီးကို မဟာအောင်မြေဘုံစံဟုကမ္ပည်းတင် တော်မူသည်၊ဆရာတော်သည်အုတ်ကျောင်းဆရာတော်အဖြစ်ဖြင့်လည်း ထင်ရှားသည်၊ပုညာဘိသီရိသဒ္ဓမ္မဇောတိကမဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ် တော်ကိုခံယူရသည်၊ ဆရာတော်သည် စတုတ္ထညောင်ကန်ဆရာတော် (ဦးဗုဓ်)ရှင်စက္ကိန္ဒ၏ နောင်တော်ဝမ်းကွဲဖြစ်သည်။

ဆရာတော်သည် ၁၁၉၁-ခုနှစ် နယုန်းတန်ခူးလပြည့်နေ့တွင်ပျံလွန် တော်မူလေသည်၊ ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်း များကိုတွေ့ရှိရပေသည်။

၁။ အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိသျ။

၂။ သုဗောဓာလင်္ကာရနိသျ။

၃။ ဗုဒ္ဓပူဇာဏ်သတ္တာဝုကျမ်းနိသျ။

---

## ၈၁။ ရှင်ဝံသ* (မုံတိုင်ပင်ဆရာတော်)

(၁၁၄၀-၁၁၉+)

မုံတိုင်ပင်ဆရာတော်မှာ ဝိနည်းကျွမ်းကျင် ထင်ရှားတော်မူသော ကျမ်းပြုဆရာတော်တပါးဖြစ်လေသည်။

ဆရာတော်ကို ၁၁၄၀-ပြည့်နှစ်တွင် တပယင်းမြောက် ကျေးလက် မုံတိုင်ပင်ရွာတွင် ဖွားမြင်လေသည်၊ ငယ်စဉ်က သာမဏေဝတ်၍ အသက်၂၄-နှစ်တွင် ရဟန်းပြုလေသည်၊ ဝိနည်း ဒေသနာတော်ကို

* သုံးပုံတံချူကျမ်းတည်းပြတ်သူအမှာဉ္စကား-၁၁၀၂ခုနှစ်ဖွားအမရပုရမြို့ တည်မင်းတရားကြီးလက်ထက်အိမ်ရှေ့မင်းကကိုးကွယ်ကြောင်း၊၁၁၈၆- ခုနှစ် မုံတိုင်ပင်ရွာသို့ပြန်ကြွကြောင်းများကို ဖေါ်ပြသည်၊ မုံတောဆရာ တော်နှင့်တပါးတည်းဖြစ်မည်ဟု ယူဆကြောင်းဖေါ်ပြသည်၊ သို့ရာတွင် မင်းလှသီရိသီဟသူ၏မှတ်စုအရ ဘွဲ့အမည်တူရုံမျှအပ မုံတောဆရာတော် မှတပါး ပုဂ္ဂိုလ်ဖြစ်ကြောင်း ထင်ရှားဖေါ်ပြထားသည်၊ မုံတောဆရာ တော်နှင့်မုံတိုင်ပင်ဆရာတော်ကို ပိဋကတ်တော်သမိုင်းတွင်ခွဲခြား၍ ပြဆို ထား၏၊ (မုံတောဆရာတော်အတ္ထုပ္ပတ္တိတွင်ရှုပါ၊)ဘွဲ့အမည်မှာ မုံတိုင်ပင် ဆရာတော်၏ဘွဲ့ကို မှားယွင်းထည့်မိဟန်တူပေသည်။

ကောင်းစွာကျွမ်းကျင်၍ မုံရွေးဆရာတော်, မောင်းထောင်ဆရာတော်တို့ကပင် ချီးကျူးခြင်းခံရလေသည်၊ တပယင်းမြောက်ဖက် ဂိုဏ်းအုပ်ဆရာတော်လည်းဖြစ်၍ ဘုရင်၏ဝံသာဘိလင်္ကာရမဟာဓမ္မရာဇဂုရု ဘွဲ့တံဆိပ်, ဝံသာဘိလင်္ကာရဓဇမဟာဓမ္မရာဇဂုရုဘွဲ့တံဆိပ် ၂-ထပ်ရရှိတော်မူသည်။

၁၁၉၁-ခုနှစ်တွင် သုံးပုံတံချူကျမ်း, ၁၁၉၃-ခုနှစ်တွင် သုံးပုံအိပ်ထောင့်ကျမ်းစသည်တို့ကို ပြုစုတော်မူလေသည်။

ဆရာတော်ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ သုံးပုံတံချူကျမ်းလင်္ကာ။ (၁၁၉၁)
၂။ သုံးပုံအိတ်ထောင့်ကျမ်းသံပေါက်။ (၁၁၉၃)
၃။ စကားပြေကျမ်း။
၄။ သဒ္ဒါအတက်။
၅။ ငါးရာ့ငါးဆယ်စကားပြေဝတ္ထု။
၆။ သဒ္ဒါကြီးနိသျ။
၇။ ဝိနည်းအဆုံးအဖြတ်စာစောင်များ။
၈။ အဘိဓမ္မမေဒ ဒီပနီ။
၉။ ပဏ္ဏာသနိပါတ်-ဇာတ်ဝတ္ထု။

---

## ၈၂။ ရှင်ပရမ (ဝေယန်သာလွှတ်ဆရာတော်)
(၁၁၄၀-၁၂၀၅)

ဝေယန်သာလွှတ် ဆရာတော်ကို ၁၁၄၀-ပြည့်နှစ်တွင် ပုခန်းကြီးမြို့ကျေးမြေခဲတောင်ရွာ၌ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ကြိုဖြစ်သည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်ပရမဘွဲ့ကိုခံယူသည်၊ ရေစကြိုဆရာတော်ထံတွင် ပညာသင်ကြား၍ ရတနာပုရစတုတ္ထမြို့တည် မင်းတရားကြီးလက်ထက် ကိုးကွယ်ခြင်းခံရသည်၊ အတွင်းဝန်မောင်သာ, သဒွေးမောင်ရွှေတောင်တို့ ကိုးကွယ်ခြင်းခံရသည်၊ မဟာမြတ်မုနိ ဘုရားအရှေ့ဝေယန်သာလွှတ်ကျောင်းတိုက်တွင် သီတင်းသုံးတော်မူသည်၊ အမရပုရမြို့သို့ရောက်သော် ညီတော်မင်းတရား သာပုခန်းမင်း ကိုးကွယ်၍

မြို့တော်အရှေ့မြောက်ယွန်းတွင် တိုက်သစ်တည်၍ ဝါခိုကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ၁၂၀၅-ခုနှစ်တွင် ပျံလွန်တော်မူသည်။

## ၆၃။ ရှင်ဝိစိတ္တာလင်္ကာရ(ဒုတိယဂူကြီးဆရာတော်)

(၁၁၄၁-၁၂၁၀+)

ဂူကြီးဆရာတော်ကို ၁၁၄၁-ခုနှစ်တွင်အလုံမြို့စီရင်စုသာစည်ရွာတွင် မောင်မြတ်သာဦး-ရှင်ပြေတို့မှာ ဖွားမြင်သည်၊ ရဟန်းဘွဲ့မှ ရှင်ဝိစိတ္တာလင်္ကာရ (ရှင်ဝရာလင်္ကာရဟုလည်းဖော်ပြသည်၊)ဖြစ်၍ ဂူကြီးဆရာတော်ဦးရွှေမင်း-ဟုတွင်သည်၊ဘကြီးတော်မင်းလက်ထက်တွင် အတွင်းဝန်ဆောမြို့စား မင်းကြီးသီရိမဟာနန္ဒသင်္ကြံ ဦးရစ်ဆောက်လုပ်လှူဒါန်းသောအုတ်ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ပုဂံမင်းလက်ထက်တွင်ဝိစိတ္တာလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုရရှိသည်။

ဆရာတော်ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ကင်္ခါဝိတရဏီဋီကာသစ်နိသျ။
၂။ သာရတ္ထဒီပနီ ဋီကာနိသျ။
၃။ တေရသကဏ် ဋီကာနိသျ။

## ၆၄။ ရှင်ဇိနေ (စပါးတောဆရာတော်)

(၁၁၄၁-၁၂၁*)

စပါးတောဆရာတော်ကို ၁၁၄၁-ခုနှစ် နတ်တော်လပြည့်ကျော် ၈-ရက်နေ့တွင် တပယင်းမြို့ကျေးတောင်လက် မြရိပ်ရွာ၌ တည်တော ဗိုလ်နေမျိုးသီဟသင်္ခယာဘွဲ့ရ မောင်ဖြူနှင့် ရှင်ရေးတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်လေးဖြစ်သည်၊ အရွယ်ရောက်၍ ရဟန်းပြုသော် ရှင်ဇိနဘွဲ့ကိုခံယူသည်၊ အမရပူရမြို့ အနောက်မျက်နှာ ဂူကြီးဘုရား မြောက်မြသိန်းတန်ကျောင်းတိုက်တွင်သီတင်းသုံးတော်မူရသဖြင့် ဒုတိယမြသိန်းတန် ဆရာတော်ဟူ၍လည်း ထင်ရှားသည်၊ ဇိနာဘိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူတော်မူရသည်၊ဆရာတော်သည် ၁၂၁၃-ခုနှစ်နောက်တွင်မှ ပျံလွန်တော်မူသည်။

## ၈၅။ ရှင်နန္ဒမာလာ (တံတိုင်းရှည်ဆရာတော်)

(၁၁၄၂–၁၂၁၀+)

တံတိုင်းရှည်ဆရာတော်ကို ၁၁၄၂-ခုနှစ် နတ်တော်လပြည့်ကျော် ၅-ရက်နေ့တွင် ဗန်းမော်ကိုက် မြို့ကြီးနယ်ရွာထောင်ရွာ၌ မောင်ခလှ-ရှင်ငြိမ်းအေးတို့မှ ဖွားမြင်သည်၊ငယ်မည်မှာ မောင်ပိုးဖြစ်၍ သာမဏေပြုသော် ရှင်နန္ဒိယဘွဲ့ခံယူသည်၊ အရွယ်ရောက်၍ ရဟန်းပြုသော် ရှင်နန္ဒမာလာဘွဲ့ခံယူသည်၊ ဗန်းမော်မြို့ဝန်ဟောင်း မောင်ရွှန်း ကိုးကွယ်တော်မူသည်၊ အမရပုရမြို့တော် အရှေ့တောင်ယွန်း ကျီဝန်မောင်အို၏ ကောင်းမှုဖြစ်သော ရွှေဘုတ်ရှောင်ဘုရားအနီး ဗန်းမော်ဝန် ဆောက်လုပ်သည့်လေးထပ်ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ နန္ဒာဘိဓဇ မဟာဓမ္မရာဇဂုရုတံဆိပ်တော်ကိုခံယူရသည်၊ဆရာတော်သည် ၁၂၁၃-ခုနှစ် နောက်တွင်မှ ပျံလွန်တော်မူသည်။

---

## ၈၆။ ရှင်အရိန္ဒမ* (ဒုတိယ မြောက်မြို့ဆရာတော်)

(၁၁၄၂-၁၂၁၀+)

မြောက်မြို့ဆရာတော်ကို သကရာဇ် ၁၁၄၂-ခုနှစ်တွင် ပဋ္ဌာလ ၅-မြို့ အဝင်အပါ ရွာသာမြို့၌ မောင်မြတ်-ရှင်ညိုတို့မှ ဖွားမြင်သည်၊ ငယ်မည်မောင်ရွှေမင်းဖြစ်၍ ရဟန်းပြုသော် ရှင်အရိန္ဒမ ဘွဲ့ခံသည်၊ အမရပုရမြို့တော် အရှေ့မြောက်ထောင့် အောင်မြေဘုံကျော်ကျောင်းတိုက်အရှေ့ သာယာဝတီမင်းလက်ထက် ရွှေတိုက်ဝန် မောင်ပါက ဆောက်လုပ် လှူဒါန်းသော ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ အရိန္ဒမဂဏာဘိသီရိဓဇ မဟာဓမ္မရာဇ ဂုရုတံဆိပ်တော်ကိုခံယူရသည်၊ ဆရာတော်သည် ၁၂၁၄-ခုနှစ် လွန်မှ ပျံတော်မူသည်။

---

* ပဌမ မြောက်မြို့ ဆရာတော်ရှင်ခေမာစာရ(၁၁၁၆–၁၁၉၆)ရှု။

## ၈၇။ ရှင်ကဝိန္ဒ (စတုဿကျော်အောင်စံထားဆရာတော်)

(၁၁၄၃-၁၂၁၁ ×)

*ကျော်အောင်စံထား ဆရာတော်ကို ၁၁၄၃-ခုနှစ် တော်သလင်းလပြည့်ကျော် ၁၅-ရက်နေ့တွင် ဗန်းကျီတိုက် လေည်ပေါက်ရွာ၌ဖွားမြင်သည်၊ ခမည်းတော်မှာ မောင်သူဖြစ်၍ မယ်တော်ရှင်မြို ဖြစ်သည်၊ ငယ်မည်မှာ မောင်ရွှေဖြစ်၍ ရဟန်းပြုသော် ရှင်ကဝိန္ဒဘွဲ့ခံသည်၊ရတနာပုရအင်းဝမြို့တော်တွင် ဘကြီးတော်မင်းလက်ထက် ရေကြည်မှူးမဟာမင်းလှက လေးထပ်ကျောင်း ဆောက်လုပ်ကိုးကွယ်သည်၊အမရပုရမြို့တော်သို့ရောက်သော် ရေကြည်မှူးကတော်က ဆက်လက်ကိုးကွယ်၍ တောင်သမန်အင်းအနီး တရုပ်တန်းအရှေ့ဖက် ကျောင်းတိုက်တွင် သီတင်းသုံးတော်မူသည်၊ ကဝိန္ဒာဘိဓဇမဟာဓမ္မရာဇဂုရုတံဆိပ်တော်ကို ရရှိသည်၊ဆရာတော်သည် ၁၂၁၃-ခုနှစ်လွန်မှ ပျံလွန်တော်မူသည်။

---

## ၈၈။ ရှင်ပညာဇောတ
## (ဒုတိယဗားကရာ သာသနာပိုင်ဆရာတော်)

(၁၁၄၇-၁၂၂၂)

†ဗားကရာ သာသနာပိုင်ဆရာတော်ကြီးမှာပုဂံမင်းလက်ထက်တွင် ထင်ရှားသောဆရာတော်ကြီးဖြစ်၍ ၁၁၄၇-ခုကဆုန်လဆုတ် ၁၃-ရက်နေ့တွင် ပုခန်းကြီးမြို့ကျေး မြိုင်ရွာဇာတိ မောင်ကြင်-အမိရှင်ကြင်တို့မှ ချောင်းကောက်ရွာတွင် ဖွားမြင်လေသည်၊ ငယ်မည်မှာ ဦးအင်းဖြစ်၍ ရဟန်းဘွဲ့မှာ ရှင်ပညာဇောတ ဖြစ်လေသည်၊ ၁၁၆၇-ခုနှစ်တွင် သဲအင်းဆရာတော်ကြီးထံ၌ ရဟန်းပြုတော်မူ၍ ၁၁၇၀- ပြည့်နှစ်တွင်

---

*ကျော်အောင်စံထား ဆရာတော်ဟူ၍ ရှင်ဉာဏဝရ (၁၀၆၇-၁၁၁၅), ရှင်ဂုဏာစာရ (၁၀၈၀-၁၁၃+),ရှင်ဝရ (၁၁၂၅-၁၂၀၈) ဟူ၍ ယခင်က သုံးပါးပေါ်ထွက်ခဲ့ဘူးလေသည်။

†ဘုရားကြီးဆရာတော် ရှင်ဇာဂရ, ရေစကြိုဆရာတော် ရှင်ဝရသမ္ဘာဓိ, ဗန်းမော်ဆရာတော် ရှင်ပဏ္ဍိတ,ခေနဲဆရာတော် ရှင်ဒီပါလင်္ကာရ, အုဂ်ဖိုရ်ဆရာတော်ရှင်ဥက္ကံဝံသမာလာတို့မှာ ဗားကရာဆရာတော်ကြီး၏ တပည့်ရင်းများဖြစ်လေသည်။

အမရပုရမြို့တော်သို့ကြွရောက်ကာ-သာယာဝတီမင်း၏ သားတော်ကြီး တောင်တွင်းချောင်မင်းသား၏ ကိုးကွယ်ခြင်းခံရလေသည်။

သာယာဝတီမင်း လက်ထက်တွင် ပညာဇောတာဘိသိရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်ကို အလှူခံရလေသည်၊ ထိုနောက်ပုဂံ မင်းလက်ထက် ၁၂၀၇-နှစ်တွင် ပညာဇောတာဘိဝံသ သီရိပဝရာ လင်္ကာရ ဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ် တော်နှင့် သာသနာပိုင်ခန့် အပ်ခြင်း ခံရလေသည်၊ ၁၂၁၀-ပြည့်နှစ်တွင် မဟာ ဝိဇယာရာမတိုက်ကျောင်းတော်ကြီးကိုလှူဒါန်းခြင်းခံရလေသည်၊ဗိမာန် ရတနာရွှေကျောင်းတော်ကိုလည်း မိဖုရားကြီးက လှူဒါန်းလေသည်၊ မင်းတုန်းမင်းကြီး လက်ထက်တွင် ပညာဇောတာဘိဓမ္မသီရိကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူရပြန်လေသည်။

ဆရာတော်ကြီးသည် ၁၂၂၂-ခုနှစ် တန်ဆောင်မုန်းလတွင် ပျံလွန် တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်၊

၁။ အင်္ဂုတ္တိုရ်ပါဠိတော် ၁၁-ကျမ်းနိသျသစ်။
၂။ အင်္ဂုတ္တိုရ်အဋ္ဌကထာနိသျ။
၃။ သုတ်မဟာဝါအဋ္ဌကထာနိသျသစ်။
၄။ သုတ်ပါထေယျအဋ္ဌကထာနိသျ။
၅။ မဏာရန္တဗေဒင်လက်ရိုးဗိုလ်ဋီကာ။
၆။ ဒုကင်္ဂုတ္တရပါဠိတော်နိသျသစ်,၎င်းအဋ္ဌကထာနိသျ။
၇။ တိကင်္ဂုတ္တရပါဠိတော်နိသျသစ်,၎င်းအဋ္ဌကထာနိသျ။
၈။ စတုကင်္ဂုတ္တရပါဠိတော်နိသျသစ်, ၎င်းအဋ္ဌကထာနိသျ။
၉။ ပဥ္စင်္ဂုတ္တရပါဠိတော်နိသျသစ်, ၎င်းအဋ္ဌကထာနိသျ။
၁၀။ ဆက္ကင်္ဂုတ္တရပါဠိတော်နိသျသစ်, ၎င်းအဋ္ဌကထာနိသျ။
၁၁။ သတ္တင်္ဂုတ္တရပါဠိတော်နိသျသစ်, ၎င်းအဋ္ဌကထာနိသျ။
၁၂။ အဋ္ဌင်္ဂုတ္တရပါဠိတော်နိသျသစ်, ၎င်းအဋ္ဌကထာနိသျ။
၁၃။ နဝင်္ဂုတ္တရပါဠိတော်နိသျသစ်, ၎င်းအဋ္ဌကထာနိသျ။
၁၄။ ဒသင်္ဂုတ္တရပါဠိတော်နိသျသစ်,၎င်းအဋ္ဌကထာနိသျ။
၁၅။ ဧကာဒသင်္ဂုတ္တရပါဠိတော်နိသျသစ်, ၎င်းအဋ္ဌကထာနိသျ။

## ၇၉။ ရှင်ပဏ္ဍိတ (ဒုတိယ ရွှေတောင်ဆရာတော်)
(၁၁၄၀-၁၂၁+)

*ရွှေတောင်ဆရာတော်ကို ၁၁၄၀- ခုနှစ် တော်သလင်း လဆန်း ၁၅-ရက်နေ့တွင် တပယင်းမြို့ကျေး တောင်လက် နဂါးမိုရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ထွေးဖြစ်၍ အရွယ်ရောက်သော် ရဟန်းပြုသည်၊ ရှင်ပဏ္ဍိတဘွဲ့ကိုခံယူသည်၊ ရတနာပုရ အင်းဝမြို့တွင် ဘကြီးတော် မင်းတရား လက်ထက် မင်းကင်းမြို့စား မင်း သမီး ကိုးကွယ်သည်၊ အမရပုရမြို့သို့ရောက်သော် မြို့အရှေ့တောင်ထောင့် ရွှေတောင်ကျောင်းတိုက်တွင် သီတင်း သုံးသည်၊ ပဏ္ဍိတဓဇ မဟာဓမ္မရာဇဂုရု ဆံဆိပ်တော်ကို ခံယူရသည်၊ ၁၂၁၃-ခုနှစ် နောက်တွင်မှ ပျံလွန်တော်မူသည်။

---

## ၈၀။ ရှင်ပညာသာမိ (ဘုံကျော်ဆရာတော်)
(၁၁၄၀-၁၂၁+)

ဘုံကျော် ဆရာတော်ကို သကရာဇ် ၁၁၄၀-ခု ဝါခေါင် လဆန်း ၁၂-ရက်နေ့တွင် ပင်းမြို့ကျေး သင်ခေါင်ရွာ၌ မောင်ရွှေနီ-ရှင်ခေါင်းဖြူတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ရွှေလှေးဖြစ်၍ သာမဏေပြုသော် ရှင်ပညာဘွဲ့ ခံသည်၊ အရွယ်ရောက်သော် ကာငူဝန် ကျောင်းတိုက် ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင်သို့ တက်ရောက်ရာ ရှင်ပညာသာမိဘွဲ့ ခံသည်၊ အင်းဝမြို့တွင် လောကသယမ္ဘူဘုရား အရှေ့ကျောင်းတိုက် သဲအင်းဆရာတော်ထံတွင် ပညာသင်ကြား၍ သီတင်းသုံးနေလေသည်၊ ထိုနောက် မြို့တော်အနောက် တောင်ထောင့် ရွှေစည်းခုံ ဘုရားအနီး မဟာအောင်မြေဘုံသာစံကျောင်းတိုက်တွင် စလင်းသာသနာပိုင် ဆရာတော်ထံ၌ ပညာသင်ကြားပြန်သည်၊ ထိုနောက် မဟာအောင်မြေ ဘုံကျော်ကျောင်းတိုက်တွင် သီတင်းသုံးရသည်၊ အမရပုရမြို့သို့ရောက်သော် မြို့အရှေ့တောင်ထောင့် ပုဂံမင်းသမီးတိုက် မင်းသမီးကျောင်းနှင့် ပုသိမ် မင်းသမီး ကျောင်းများတွင် သီတင်း သုံးသည်၊ ထိုနောက် ကျောက်မော်မြို့စားမင်းကြီး ဆောက်လုပ်သည့် ကျောင်းတွင် သီတင်း

---

*ပဉ္စမရွှေတောင် ဆရာတော်မှာ ရှင်ဂုဏာစာရ (၁၀၉၂-၁၁၇၂) ဖြစ်သည်။

သုံးတော်မူသည်၊ ဆရာတော်သည် ပညာသာမိ အဘိသဒ္ဓမ္မဓဇ မဟာ ဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူတော်မူရသည်၊ ဆရာတော်သည် ၁၂၁၃-ခုနှစ် နောက်ပိုင်းတွင်မှ ပျံလွန်တော်မူသည်။

ဆရာတော်သည် အသီတိခေတ်ကျမ်းကို ပြုစုတော် မူခဲ့လေသည်။

---

## ၉၁။ ရှင်မဏိဇောတ (ခင်မကန်ဆရာတော်)

(၁၁၄၉-၁၂၁+)

ခင်မကန်ဆရာတော်ကို သကရာဇ် ၁၁၄၉-ခုနှစ်တပေါင်းလပြည့်ကျော် ၁-ရက်နေ့တွင် တရုပ်မြို့ကျေးသမုံးကိုင်းရွာတွင် မောင်သာမင်း-ရှင်ဂုံးတို့မှဖွားမြင်သည်၊ ငယ်မည်မှာ မောင်ပျားဖြစ်သည်၊သာမဏေပြုသော် ရှင်ပဏ္ဍိတဘွဲ့ခံ၍အရွယ်ရောက်၍ရဟန်းပြုသော် ရှင်မဏိဇောတ ဘွဲ့ခံသည်၊ အင်းဝမြို့ခေတ်တွင် သဲအင်းဆရာတော်ကြီးထံ၌ စာပေသင်ကြားနေသည်၊ပုဂံမင်း၏မိဖုရား ကနောင်မြို့စား မင်းသမီး၏သမီးတော်ပင်းတလဲမြို့စားမင်းသမီး, ယင်းခဲမင်းသမီးတို့က မြို့တော်အရှေ့မြောက်ယွန်းမင်းအိုကျောင်းတော်တိုက်တောင်ဖက်တွင် ကျောင်းဆောက်လုပ်ကိုးကွယ်သည် *မဏိဇောတလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုခံယူရသည်၊မင်းတုန်းမင်းလက်ထက် မန္တလေးမြို့တော် အရှေ့မျက်နှာ မဟာဝိဇယာရာမတိုက်တွင် သီတင်းသုံးတော်မူသည်၊ ဝိနည်းအကျင့်ထူးမြတ်လှသည်ဟု ထင်ရှား၏၊ဆရာတော်သည် ၁၂၁၅-ခုနှစ်နောက်ပိုင်းတွင်မှ ပျံလွန်တော်မူသည်၊ ဆရာတော်ပြုစုတော်မူသောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ သဂါထာဝဂ္ဂသံယုတ်အဋ္ဌကထာနိဿယ။
၂။ နိဒါနဝဂ္ဂသံယုတ်အဋ္ဌကထာနိဿယ။
၃။ မူလဋီကာဒွါရကထာအဖွင့်နိဿယ။
၄။ ဝိနည်း အဆုံးအဖြတ်များ။

---

* ပိဋကတ်တော်သမိုင်း၌ သာယာဝတီမင်းလက်ထက် မဏိဇောတိရာသီရိသဒ္ဓမ္မဓဇမဟာ ဓမ္မရာဇာဓိ ရာဇဂုရု တံဆိပ်တော်ရသည်ဟု ဖေါ်ပြသည်။ သင်္ဂဇာစကားပုံပေါင်းချုပ်၌-မဏိဇောတ သဒ္ဓမ္မာလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရုဟုဖေါ်ပြသည်။

## ၉၂။ ရှင်စက္ကိန္ဒ-ဦးဖုမ် (အငွမညောင်ကန်ဆရာတော်)
(၁၁၄၉-၁၂၀၄)

*ညောင်ကန်ဆရာတော် ဦးဖုမ်မှာ ကုန်းဘောင်ခေတ်တွင်အထူးထင်ရှားသောဆရာတော်တပါးဖြစ်လေသည်၊သတ္တမညောင်ကန်ဆရာတော် ဦးပိုး၏ညီဝမ်းကွဲဖြစ်၍ မဟာအောင်မြေဘုံစံအုတ်ကျောင်းကြီး၌ပင် သီတင်းသုံးတော်မူလေသည်၊ဗဒုံမြို့နယ် ညောင်ကန်ရွာ ဇာတိဖြစ်သည်ကို စွဲ၍ ညောင်ကန်ဆရာတော်ဟု အမည်တွင်လေသည်၊ရှင်အမည်မှာဇမ္ဗုဓဇဖြစ်လေသည်။

ဆရာတော်မှာ သကရာဇ် ၁၁၄၉-ခုနယုန်လပြည့်ကျော် ၅-ရက် အင်္ဂါနေ့၌ ဦးအို-ဒေါ်မွေးတို့မှဖွားမြင်တော်မူ၍ ဆရာတော်၏ငယ်မည်မှာ ဦးဖုမ်(ဦးပုတ်ဟုအချို့ရေးသည်)ဖြစ်ပြီး ဘွဲ့တော်မှာ ဦးစက္ကိန္ဒဖြစ်လေသည်၊တံဆိပ်တော်မှာစက္ကိန္ဒာဘိ သီရိပဝရာလင်္ကာရ သဒ္ဓမ္မပါလကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုဖြစ်လေသည်၊ ဆရာတော်သည် ကျမ်းဂန်တတ်မြောက်၍ အထူးထင်ရှားလေသည်၊နောက်အငွကထာဆရာဟု ပင်တွင်လေသည်။

၁၂၀၄-ခုနှစ်နယုန်လပြည့်ကျော် ၁-ရက်အင်္ဂါနေ့၌ ပျံလွန်တော်မူလေသည်။

ဆရာတော် ဦးဖုမ်ပြုစုခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။(ညောင်ကန်သာသနာဝင် ၂၀၃-ရှု)

၁။ ဝိထိစိတ္တုပကာသနီ။
၂။ နယမုခဒီပနီပါဌ်နိသျ (ဂါထာ)။
၃။ သံဝဏ္ဏနာနယဒီပနီပါဌ်နိသျ။
၄။ ပိဋကဘေဒထောမနာပါဌ်နိသျ။
၅။ နိရုတ္တိဘေဒသင်္ဂဟပါဌ်နိသျ။
၆။ ဂီဟိဝိနယသင်္ဂဟပါဌ်နိသျ။

---

*သတ္တမညောင်ကန်ဆရာတော်ကိုပဌမအုတ်ကျောင်းဆရာတော်,အငွမညောင်ကန်ဆရာတော်ကို ဒုတိယအုတ်ကျောင်းဆရာတော်ဟူ၍လည်း ခေါ်ကြသည်။

၇။ လက္ခဏာဘောဒဒီပနီပါဌ်။
၈။ စူဠာမဏိပူဇာဂါထာနိသျ။
၉။ ဝါဆိုစဉ်ဂါထာပါဌ်နိသျ။
၁၀။ မဟာသမယသုတ် ပါဠိတော်နိသျ။
၁၁။ အာဒိတ္တပရိယာယသုတ်ပါဠိတော်နိသျ။
၁၂။ ဗြဟ္မဇာလတ္တဝဏ္ဏနာဂါထာပါဌ်နိသျ။
၁၃။ ရူပဘေဒပကာသနီပါဌ်နိသျ။
၁၄။ ပါဒစေတိယဝန္ဒနာပါဌ်နိသျ။
၁၅။ သဗ္ဗသံခိပ်အဋ္ဌကထာနိသျ။
၁၆။ မုခမတ္တသာရဋီကာနိသျ။
၁၇။ သဒ္ဒနီတိပဒမာလာနိသျ။
၁၈။ သဒ္ဒနီတိဓာတုမာလာနိသျ။
၁၉။ သဒ္ဒနီတိသုတ္တမာလာနိသျ။
၂၀။ ကဗျာသဒ္ဒသင်္ဂဟ။
၂၁။ သမ္ဗန္ဓစိန္တာစာကိုယ်နိသျ။
၂၂။ မဏိမဉ္ဇူသ,သီဟဠဒီပ,မြန်မာရာဇဝင်ချုပ်။
၂၃။ ဘိက္ခုပါတိမောက်ပါဠိတော်နိသျသစ်။
၂၄။ ဘိက္ခုနီပါတိမောက်ပါဠိတော်နိသျသစ်။
၂၅။ ခုဒ္ဒသိက္ခာနိသျ။
၂၆။ မူလသိက္ခာနိသျ။
၂၇။ ထေရအပါဒါန်ပါဠိတော်နိသျ။
၂၈။ ထေရီအပဒါန်ပါဠိတော်နိသျ။
၂၉။ ဂိုဏ်းရွေးနည်းလင်္ကာဇယားပုံစံ။
၃၀။ ပုတ္တရှင်မထီးသိမ်တော်မော်ကွန်း(၁၁၈၇)။
၃၁။ ဥပ္ပါတသန္တိကျမ်း။
၃၂။ ကဗျာသာရတ္ထသတ်ပုံလင်္ကာ။
၃၃။ သတိပဋ္ဌာန်,ဓမ္မစကြာ,ပရိတ်ကြီး နိသျများ။
၃၄။ ပစ္စယာကာရဒီပနီ။

၃၅။ ပစ္စယတ္ထပကာသနီပါဌ်နိသျ။
၃၆။ ပစ္စယဃဋနာပကာသနီနိသျ။
၃၇။ ဝုတ္တောဒယ ဆန်းနိသျသစ်။
၃၈။ ပဒရူပသိဒ္ဓိစာကိုယ်နိသျ။
၃၉။ အနမတဂ္ဂသံယုတ်။
၄၀။ နေတ္တိဟာရတ္ထဒီပနီ။
၄၁။ ကာယဝိဉ္ဉတ္တိနိဿယသုတ်ပါဠိတော်နိသျ။
၄၂။ ပဒရူပသိဒ္ဓိဋီကာနိသျ။
၄၃။ လောကနီတိနိသျ။
၄၄။ မဟာရဟနီတိနိသျ။
၄၅။ မဟာဇေယျဂါထာနိသျ။
၄၆။ ပကိဏ္ဏက ဝိသဇ္ဇနာကျမ်း။
၄၇။ အနတ္တလက္ခဏာသုတ် ပါဠိတော်နိသျ။
၄၈။ အောင်ခြင်း ၈-ပါး နိသျ။
၄၉။ သတ္တဋ္ဌာနဂါထာ ပါဌ်နိသျ။
၅၀။ ခါတ်တော်ရှိခိုးဂါထာ။
၅၁။ စေတီတော်ရှိခိုး ဂါထာ။
၅၂။ ပါရာဇိကကဏ်ပါဠိတော်နိသျ။
၅၃။ ဓမ္မပဒပါဠိတော်နိသျ။
၅၄။ သမ္မောဟဝိနောဒနီ အဋ္ဌကထာနိသျ။
၅၅။ ဒါနဖလပ္ပတ္တိ။
၅၆။ သီလဖလပ္ပတ္တိ။
၅၇။ ဘာဝနာဖလပ္ပတ္တိ။

---

## ၉၃။ ရှင်မေဓာဝီ (ပြည်ဆရာတော်)

(၁၁၅၀-၁၂၀+)

ပြည်ဆရာတော်ကို ၁၁၅၀-ပြည့်နှစ် ဝါဆိုလဆန်း ၇-ရက်နေ့တွင် ညောင်ကန်ရွာ၌ ဦးဖြူ- ဒေါ်ညွန့်တို့မှ ဖွားမြင်သည်၊ သာမဏေဘွဲ့၊ ရဟန်းဘွဲ့မှာ ရှင်မေဓာဝီဖြစ်သည်၊ သို့ရာတွင် ငယ်မည်အတိုင်း

ဆရာတော်*ဦးကြီးညိုဟုမှတ်သား ခေါ်ဝေါ်ကြသည်၊ ညောင်ကန်ရွာ ရတနာမဥ္စူတိုက် ဆရာတော် ရှင်မုနိန္ဒာသာရထံတွင် စာပေသင်ကြားသည်၊ ဘကြီးတော်မင်း လက်ထက် မြို့တော် အရှေ့မြောက်ထောင့် မဟာ အောင်မြေဘုံစံ အုတ်ကျောင်းကြီးတွင် ညောင်ကန် ဆရာတော် ထံ၌ စာပေသင်ကြားသည်၊ သာယာဝတီမင်း လက်ထက် ၁၂၀၁-ခု နှစ်တွင် အမရပုရမြို့သို့ရောက်၍ သားတော်ပြည်မြို့စား မဟာသီဟသူရ သုဓမ္မရာဇာ (မောင်ဖေပု)က တိုက်တာအသစ် ဆောက်လုပ် လှူဒါန်း ကိုးကွယ်သည်၊ ကျမ်းဂန်တတ်မြောက်၍ အကျင့်သိက္ခာပြည့်စုံသည်ဟု ဆရာတော်တို့ ချီးမွမ်းခြင်းခံရသည်၊ †မေဓာလင်္ကာရ ပရမဓဇ မဟာ ဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကို ခံယူရသည်။

ဆရာတော်သည် ၁၂၂၅-ခုနှစ် တန်ခူးလဆန်း ၁၃-ရက်နေ့တွင် ပျံလွန်တော်မူရာ ပြုစုခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင် လေသည်။

၁။ အဋ္ဌသာလိနီ အဋ္ဌကထာနိသျှသစ်။
၂။ ဝိသုဒ္ဓိမဂ် အဋ္ဌကထာနိသျှသစ်(၁၂၁၆)
၃။ ဋီကာကျော်နိသျှ။
၄။ ခန္ဓဝဂ္ဂသံယုတ် အဋ္ဌကထာနိသျှ။
၅။ သဠာယတနဝဂ္ဂသံယုတ် အဋ္ဌကထာနိသျှ။
၆။ မဟာဝဂ္ဂသံယုတ် အဋ္ဌကထာနိသျှ။
၇။ ပါဠ်ဇာတ်ပါဠိတော်နိသျှသစ်။
၈။ သဒ္ဒတ္ထဘေဒ စိန္တာနိသျှ။
၉။ သမ္ဗန္ဓစိန္တာနိသျှ။
၁၀။ ကစ္စာယနသာရနိသျှ။

* မင်းလှသီရိသီဟသူ မှတ်စုတွင် ဦးကြီး,ရှင်ဘွဲ့ ရှင်မေဓာ,ရဟန်းဘွဲ့တော် ရှင်မေဓာလင်္ကာရ ဟုဖော်ပြသည်။

† ပိဋကတ်တော်သမိုင်းတွင် မေဓာဘိဝံသသိရိသဒ္ဓမ္မဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရုဟု ဖော်ပြသည်။

ဤပြည်ဆရာတော်ကို နဝမညောင်ကန် ဆရာတော်အဖြစ် ညောင်ကန် ဆရာတော် များ၏ စာရင်းတွင်လည်း ထည့်သွင်း မှတ်ယူကြသည်။

၁၁။ ကစ္စာယနသာရသရုပတ္တဒီပနီ (၁၁၉၉)။
၁၂။ ဓာတုမာလာလက်သန်းပါဠိနိသျ (၁၂၁၃)။
၁၃။ ခန္ဓဝိဘာဝနီ ဋီကာပါဠိ (၁၂၂၃)။

## ၉၄။ ရှင်ဥာဏ (ဒုတိယ မန်ကျည်းတောဆရာတော်)

(၁၁၅၀-၁၂၁+)

မန်ကျည်းတော ဆရာတော်ကို ၁၁၅၀- ပြည့်နှစ် ဒုတိယဝါဆိုလပြည့်ကျော် ၁၃-ရက်နေ့တွင် တပယင်းမြို့ကျေး မြောက်လက်လေးရွာတွင် ဖွားမြင်သည်၊ ခမည်းတော်မှာ မောင်မြတ်သာနေ ဖြစ်၍ မယ်တော်မှာ ရှင်သဒ္ဒါဖြစ်သည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်ဉာဏဘွဲ့ခံယူသည်၊ အမရပုရမြို့တော် အနောက် မျက်နှာ မန်ကျည်းတောတိုက်တွင် သီတင်းသုံးတော်မူသည်၊ ဉာဏသဒ္ဓမ္မဇေမဟာဓမ္မရာဇဂုရုတံဆိပ်တော်ကို ရရှိသည်။

ဆရာတော်သည် ၁၂၁၃-ခုနှစ် နောက်တွင်မှ ပျံလွန်တော်မူသည်။

## ၉၅။ ရှင်ဥာဏဝံသ (စတုတ္ထ တောင်တွင်းဆရာတော်)

(၁၁၅၁-၁၂၁ ×)

*တောင်တွင်းဆရာတော်ရှင်ဉာဏဝံသကို ၁၁၅၁-ခုနှစ် ပြာသိုလဆန်း ၆-ရက်နေ့တွင်တောင်တွင်းကြီးမြို့ကျေး နားတောင်းရွာ၌ ဖွားမြင်သည်၊ ငယ်မည်မှာမောင်ကျော်စံလှဖြစ်၍ သာမဏေဘွဲ့ရှင်ဉာဏဝံသဖြစ်သည်၊ ရဟန်းပြုသော် ရှင်ဉာဏဝံသဘွဲ့ကိုပင်ခံယူသည်၊ ရတနာပုရအင်းဝမြို့ မဟာမုနိဘုရားတောင်ဖက်တွင် တောင်တွင်းကြီးမြို့

*တောင်တွင်းဆရာတော်ဟူ၍ ရှင်သီလဝံသရှင်ဉာဏ၊ ခင်ကြီးဖျော် (၁၀၈၆-၁၁၂၄)ရှင်ပရမ(၁၀၉၇)ပရမသီရိဝံသဇေမဟာဓမ္မရာဇဂုရုဟူ၍ ရှေးကသုံးပါး ထင်ရှားပေါ်ထွန်းခဲ့ဘူးသည်၊ ရှင်ပရမ၏ထေရုပ္ပတ္တိအကျယ်မတွေ့ရချေ၊ ရှင်သုမန (၁၁၉၅-၁၂၇၆) ခင်ကြီးဖျော်၏မြေးသည်လည်း တောင်တွင်းဆရာတော်ဟု ပင်ထင်ရှားသည်၊ ဤသို့အားဖြင့် တောင်တွင်းဆရာတော်၅-ပါးထင်ရှားသည်။

ဘိုးတော်ဘုရားလက်ထက် မဟာဒါန်ဝန်တိုက်ကျောင်းနေ ဇေနိပါတ်အဋ္ဌကထာနိသျကိုစီရင်သောရှင်ကေတု (ကေတုဇေမဟာဓမ္မရာဇဂုရု) သည်လည်း တောင်တွင်းဆရာတော်ဟုပင်ထင်ရှားသေးသည်။

နှင့်ပုသိမ်မြို့စား မင်းသမီးကဆောက်လုပ်၍ လှူဒါန်းသောဗဒ္ဒုံကျောင်းတိုက်တွင် စလင်းဇာတိ မိုးထိဆရာတော် ဦးပေါ်အိထံစာပေသင်ကြားသည်၊ မင်းသမီးဝန်မောင်လူကလေးကကိုးကွယ်သည်၊ အမရပုရမြို့သို့ရောက်သော် မင်းသမီး၏ကုသိုလ်တော် ဘုရားတောင်ဖက် ခံတောကျောင်းတိုက်အတွင်း၌ အချီတော်မောင်ရွှေချူက ကျောင်းဆောက်လုပ်လှူဒါန်းသည်၊ ဉာဏာဘိဝံသဓဇမဟာဓမ္မရာဇဂုရု တံဆိပ်တော်ကိုခံယူသည်။

---

## ၉၆။ ရှင်ဝိမလဗုဒ္ဓိ (ထီးလင်းဆရာတော်)

(၁၁၅၂-၁၂၁+)

ထီးလင်းဆရာတော်ကို ၁၁၅၂-ခုနှစ် တပို့တွဲလတွင် အနောက်ဖက်တိုက် ပျဉ်းမရွာ၌ဖွားမြင်သည်၊ ငယ်မည်မှာ မောင်မြတ်ရွဲဖြစ်၍သာမဏေပြုသော်ရှင်ဝိမလဘွဲ့ကိုခံယူသည်၊အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်ဝိမလဗုဒ္ဓိဘွဲ့ကိုခံယူသည်၊အင်းဝမြို့တော်တွင် လောကသယမ္ဘူဘုရားရှေ့ကျောင်းတိုက်တွင် သဲအင်းဆရာတော်ထံ၌ ပညာသင်ကြားသည်၊ အမရပုရမြို့သို့ရောက်သော် မြို့တော်အရှေ့ခြမ်ကထောင့် အောင်မြေဘုံကျော်ကျောင်းတိုက်တွင် သီတင်းသုံးတော်မူသည်၊ *ဝိမလာဘိဝံသ မဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်တော်ကို ခံယူရသည်၊ဆရာတော်သည် ၁၂၁၃-ခုနှစ်နောက်ပိုင်းတွင်မှပျံလွန်တော်မူသည်။

---

## ၉၇။ ရှင်ဂုဏဓဇ (ဒုတိယကျောင်းတော်ကြီးဆရာတော်)

(၁၁၅၃-၁၂၁+)

ကျောင်းတော်ကြီးဆရာတော်ကိုသကရာဇ်၁၁၅၃-ခုပြာသိုလဆန်း ၂-ရက်နေ့တွင် လယ်ကိုင်းမြို့ကျေး မောင်နိုး-ရှင်အိုတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ကံပေးဖြစ်၍ သာမဏေပြုသော် ရှင်ကရဝိကဘွဲ့ကိုခံယူသည်၊ ရဟန်းပြုသော် ရှင်ဂုဏဓဇဘွဲ့ကိုခံယူသည်၊ သာယာဝတီမင်းတရားလက်ထက် အင်းဝမြို့အနောက်တောင်ထောင့် မဟာအောင်

---

*မင်းလှသီရိသီဟသူမှတ်တမ်းတွင် ဝိရိယာဘိဝံသ-ဟုရှိသည်။

မြေဘုံသာစံကျောင်းတိုက်တွင် စလင်းသာသနာပိုင် ဆရာတော်ကြီးထံ တွင်စာပေသင်ကြားသည်၊ ထိုနောက် သူကြွယ်မောင်နိုးဆောက်လုပ်သည့် ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ပုဂံမင်းလက်ထက်တွင် အမရ ပုရမြို့တော်သို့ရောက်၍ ရတနာဘုံကျော်ကျောင်းတွင် စလင်းသာသနာ ပိုင်ဆရာတော်ထံ၌ပင် ပညာဆက်လက် ဆည်းပူးသည်၊ ဆရာတော် သည် ၁၂၁၃-ခုနှစ်နောက်တွင်မှပျံလွန်တော်မူသည်။

## ၉၈။ ရှင်ကဝိန္ဒာဘိ (ပင်းဆရာတော်)

(၁၁၅၅-၁၂၁၂)

ပင်းဆရာတော်ကို ၁၁၅၅-ခုနှစ် နတ်တော်လဆန်း ၁၄-ရက် နေ့တွင် မိတ္ထီလာမြို့ကျေး သပြေကုန်းရွာမောင်ကြာ-ရှင်ဖြူတို့မှဖွားမြင် သည်၊ ငယ်မည်မှာ မောင်လွှမ်းပြေဖြစ်သည်၊ ရှင်သာမဏေပြုသော် ရှင်ကဝိန္ဒဘွဲ့ကိုခံယူ၍ ရဟန်းပြုသော် ရှင်ကဝိန္ဒာဘိဘွဲ့ကို ခံယူသည်၊ ရတနာပုရ စတုတ္ထမြို့တည်မင်းလက်ထက် မြို့တော်အတွင်း လောက ထိပ်ဦးဘုရားတောင်ဖက် မဲထီးကျောင်းတိုက်တွင် ရေနံချောင်းမြို့စား ဝန်ကြီး မောင်တုတ်ကြီးက ဆောက်လုပ်သော သုံးထပ်ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ကဝိန္ဒာဘိသီရိသဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကို ခံယူရသည်၊ ဆရာတော်သည် ၁၂၁၂-ခုနှစ်တွင် မိတ္ထီလာနယ်၌ ဘုရားတည်တော်မူစဉ် မိုးကောင်းတောင်နှာမောင်း တောကျောင်းတွင်တောမီးသင့်၍ ပျံလွန်တော်မူရာ ယင်းတော်မြို့နယ် ရှမ်းမငယ်ရွာသို့ ပင့်ဆောင်သင်္ဂြိုဟ်ရသည်။

ဆရာတော်ပြုစုစီရင်ခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါ ဝင်လေသည်

၁။ နိဒါနဝဂ္ဂသံယုတ်ပါဠိတော်နိဿယသစ်။
၂။ ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်နိဿယသစ်။
၃။ သဠာယတနဝဂ္ဂသံယုတ်ပါဠိတော်နိဿယသစ်။
၄။ မဟာဝဂ္ဂသံယုတ်ပါဠိတော်နိဿယသစ်။
၅။ မနောရထပူရဏီအဘိနဝဋီကာ ... 

## ၉၉။ ရှင်ဥာဏိန္ဒ (ဒုသမဓညောင်ကန်ဆရာတော်)
(၁၁၅၅-၁၂၂၂)

ဒုသမဓညောင်ကန်ဆရာတော်ကို ဗဒုံမြို့ကျေးညောင်ကန်ရွာ၌ဖွားမြင်သည်၊ မိဘမည်ရည်နှင့် ဖွားလ,ရက်ကို မသိရှိရပေ၊ ငယ်မည်မှာ မောင်သူဖြစ်သည်၊ ငယ်စဉ်က အင်းဝမြို့တော် မဟာအောင်မြေဘုံစံ အုတ်ကျောင်း(ဆရာတော်ဦးပိုး)သတ္တမညောင်ကန် ဆရာတော်ထံတွင် စာပေသင်ကြားသည်၊ အရွယ်ရောက်၍ ရဟန်းပြုသော်ရှင်ဉာဏိန္ဒဘွဲ့ကို ခံယူသည်၊ ဆရာတော်ဦးဗုဓ် အဋ္ဌမညောင်ကန် ဆရာတော်လက်ထက်တွင် ညောင်ကန်ရွာသို့ပြန်လည်သီတင်းသုံးတော်မူလေသည်၊ ၁၂၁၆-နှစ်တွင် မင်းတုန်းမင်းလက်ထက်တွင် ရတနာပုံ နေပြည်တော်သို့ ပင့်ဆောင်၍ အိမ်တော်ရာစေတီတော်အနောက်မြောက် ချမ်းသာကြီး ကျောင်းတိုက်ကို တင်လှူတော်မူခြင်းခံရသည်၊ *ဉာဏိန္ဒာဘိပဏ္ဍိတ ပဝရမဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်ကိုလည်းခံယူရလေသည်။

ဆရာတော်သည် ၁၂၂၂ခုနှစ်တန်ဆောင်မုန်းလတွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ ၆၅-နှစ်တွက်သံဒိဋ္ဌပက္ခဒိန်။
၂။ သူရိယသိဒ္ဓန္တဋီကာ။

---

## ၁၀၀။ ရှင်ဉာဏသီရိဓဇ (တတိယမဲထီးဆရာတော်)
(၁၁၅၈-၁၂၁+)

မဲထီးဆရာတော်ကို ၁၁၅၈-ခုနှစ်တွင် ကျောက်ပန်းတောင်းမြို့ စီရင်စု လက်ပံချဉ်ရွာ မောင်အိပ်- မယ်ပွားတို့မှဖွားမြင်သည်၊ ငယ်မည်မှာ မောင်ကြွယ်ဖြစ်၍ ရှင်သာမဏေပြုသော် ရှင်ဉာဏသီရိဘွဲ့ကို ခံယူ၍ ရဟန်းဘောင်သို့တက်ရောက်သော် ရှင်ဉာဏသီရိဓဇဘွဲ့ကိုခံယူသည်၊ သာယာဝတီမင်းလက်ထက် အဝမြို့တော်အနောက်တောင်ထောင့် ရွှေ

---

*သူရိယသိဒ္ဓန္တဋီကာတွင် ဉာဏဝဇီရသီရိသဒ္ဓမ္မ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ ညောင်ကန်ဆရာတော်ဟု ဖေါ်ပြသည်၊ ကုန်းဘောင်မဟာရာဇဝင်တော်ကြီး စာမျက်နှာ ၁၄၂၇-တွင် ဉာဏိန္ဒာဘိ ပဏ္ဍိတပဝရမဟာ ဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ ညောင်ကန်ဆရာတော်ဟုပင် ဖေါ်ပြသည်။

စည်းခုံဘုရားအနီး မဟာအောင်မြေဘုံသာ စံကျောင်းတွင် စလင်းသာသနာပိုင် ဆရာတော်ကြီးထံ၌ စာပေသင်ကြားသည်၊ ပုဂံမင်းလက်ထက်တွင် အမရပုရမြို့တော် ရတနာဘုံကျော် ကျောင်းတော်ကြီးသို့ စလင်းသာသနာပိုင် ဆရာတော်ကြီးနှင့်အတူ ကြွရောက်လိုက်ပါတော်မူ၍ ပညာဆက်လက်ဆည်းပူးသည်၊ ဆရာတော်သည် မင်းပေးဘွဲ့ရသည်ဟုမထင်ရှားချေ၊ ကျောင်းတော်ကြီးတိုက် မဲထီးဆရာတော်ဟု ထင်ရှားသည်၊ ၁၂၁၃-ခုနှစ်နောက်တွင်မှ ပျံလွန်တော်မူသည်။

---

## ၁၀၁။ ရှင်ဥာဏဝံသ(ထွန့်ခေါင်ဆရာတော်)
(၁၁၆၀-၁၂၄၂)

ထွန့်ခေါင်ဆရာတော်သည် ဟသ်ာတခရိုင် လေးမျက်နှာမြို့ အနီး အနောက်မြောက်ဖက် မြင်းကုန်းရွာနေ ဦးလူကြီး ဒေါ်မေတို့မှ သကရာဇ် ၁၁၆၀-ပြည့်တပေါင်းလပြည့် အင်္ဂါနေ့နေတက်အချိန်တွင် ဖွားမြင်သောသားဖြစ်ပေသည်၊ ငယ်မည်မှာမောင်စိုဟုခေါ်သည်။

အသက်၁၃-နှစ်တွင် လေးမျက်နှာမြို့အနီး ငါးတရော်ကျွဲခေါင်းကျောင်း၌ ခေတ္တသီတင်းသုံးနေသော သိရိဂုဏာဘိလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်ရ အင်းဝ မန်ကျည်းတော ဆရာတော် ဦးသာသနဇောတထံအပ်နှံ၍ ရှင်သာမဏေပြုသည်၊ ဘွဲ့မှာရှင်ဉာဏဝံသဟုမှည့်ခေါ်သည်။

အင်းဝမန်ကျည်းတောကျောင်းတွင် ပဥ္စမကျော် အောင်မြင်သည်၊ သကရာဇ် ၁၁၈၁-ခု သက်တော် ၂၁-နှစ်အရ ဘကြီးတော်မင်းတရားကြီး၏ မိဖုရားခေါင်ကြီးမယ်နုက ဒါယိကာမပြု၍ရဟန်းခံသည်။

ဝါတော် ၈-ဝါအရတွင် စစ်ကိုင်းဘက် ရတနာထွန့်ခေါင် စေတီအနီး၌ အရည်ဝါသီ သီတင်းသုံးနေတော်မူသောကြောင့် ထိုစေတီ၏ အမည်ကိုစွဲ၍ ထွန့်ခေါင်ဆရာတော်ဟု အမည်တွင်သည်၊ ဆရာတော်သည် ပါမောက္ခကျမ်း ၁၃-စောင်နှင့် ကမ္မဝါနီးသံပေါက်များ ရေးခဲ့သည်ဟု အမှတ်အသားတွေ့ရ၏၊ သကရာဇ် ၁၂၄၂-ခု ပဥ္စမဝါဆိုလဆန်းတရက်နေ့တွင် ဘဝနတ်ထံပျံလွန်တော်မူသည်။

ဆရာတော်ပြုစုသမျှသော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

ရာဇပါမောဇ္ဇဒီပနီ, ဓမ္မပါမောဇ္ဇဒီပနီ, ဓမ္မသာရပါမောဇ္ဇဒီပနီ, ပကိဏ္ဏကပါမောဇ္ဇဒီပနီ, ဝိတိပါမောဇ္ဇဒီပနီ, သံဝေဂပါမောဇ္ဇဒီပနီ, အဇ္ဈာသယပါမောဇ္ဇဒီပနီ, သမန္တပါမောဇ္ဇဒီပနီ, သာခုဇနပါမောဇ္ဇဒီပနီ,သုတေသနပါမောဇ္ဇဒီပနီ, ကမ္မဋ္ဌာန်းသံပေါက်များ။

## ၁၀၂။ ရှင်အာစရန္တ* (တတိယမိုးထိဆရာတော်)

(၁၁၆၁-၁၂၁+)

မိုးထိဆရာတော်ကို သကရာဇ် ၁၁၆၁-ခုနှစ် တပို့တွဲ လဆန်း ၉-ရက်နေ့တွင် ပင်းမြို့ကျေး ဆတ်ချိုရွာတွင် မောင်အိ-ရှင်စိန်တို့မှ ဖွားမြင်သည်၊ ငယ်မည်မှာမောင်ပြောင်ဖြစ်၍ ရှင်သာမဏေပြုသော် ရှင်အာစရဟုခံသည်၊ ရဟန်းအဖြစ်သို့ ရောက်သော် ရှင်အာစရန္တဟုခံသည်၊ အင်းဝမြို့တော်တွင် လောကသယမ္ဘူဘုရားရှေ့သဲအင်းကျောင်းတိုက် သဲအင်းဆရာတော်ထံတွင် ပညာသင်ကြားသည်၊ အမရပုရမြို့တော်သို့ရောက်သော် မြို့တော်အရှေ့တောင် မိုးထိတိုက်တွင် ငွေခွန်ဝန်မောင်မှိုက ကျောင်းဆောက်လုပ် လှူဒါန်းသည်၊ ထိုနောက်ပုသိမ်မြို့ကန္နီမြို့စား မင်းသမီးကကိုးကွယ်၍ ဘုံသာဝေယန် မိုးထိကျောင်းကိုဆောက်လုပ်လှူဒါန်းသည်၊ အာစာရန္တသီရိဓဇ မဟာဓမ္မရာဇဂုရုတံဆိပ်တော်ကို ခံယူသည်၊ ဆရာတော်သည် ၁၂၁၃-ခုနှစ် နောက်မှ ပျံလွန်တော်မူသည်။

## ၁၀၃။ ရှင်ဥယျ (ဒုတိယမောင်းထောင်ဆရာတော်)

(၁၁၆၁-၁၂၂၇)

ဒုတိယ မောင်းထောင်ဆရာတော်မှာ သာယာဝတီမင်းလက်ထက်နှင့် မင်းတုန်းမင်း လက်ထက်တို့တွင် သာသနာပိုင် ဆရာတော်အဖြစ်နှစ်ကြိမ်တိုင်ဆောင်ရွက်ရသော ဆရာတော်ဖြစ်၍ သဲအင်းဆရာတော်၏ တပည့် ဒုတိယသဲအင်းဆရာတော်ဟူ၍လည်း ထင်ရှားလေသည်။

---

* မင်းလှသီရိသီဟသူမှတ်စုတွင် ဤဆရာတော်ကိုစတုတ္ထမိုးထိ ဆရာတော်ဟုဖော်ပြသော်လည်းမိုးထိဆရာတော်သုံးပါး၏ထေရုပ္ပတ္တိများသာဖော်ပြထားသည်၊ရှင်ဇမ္ဗုမဥ္ဇူ(၁၁၂၃-၁၂၀၅)ရှင်ဓမ္မဒီပ(၁၁၃၃-၁၂၀၉)တို့မှာ မိုးထိဆရာတော်များအဖြစ်ထင်ရှားခဲ့သည်။

ဆရာတော်ကို ကန္ဒီမြို့ကျေး နတ်ရဲတောင်ရွာ ဝက်ရဲသူကြီးသား ဦးထွန်းဝါနှင့် မောင်းထောင်သူ ဒေါ်မယ်ရာတို့မှ "နတ်ရဲတောင်" ရွာ၌ ၁၁၆၁-ခုနှစ်၊ ပဌမ ဝါဆို*လပြည့်ကျော် ၁၁ ရက် အင်္ဂါနေ့တွင် ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်သံမှိုဖြစ်လေသည်။

မောင်သံမှိုသည် အလုံမြို့သို့သွား၍ သာမဏေဘောင်သို့ ဝင်ပြီးနောက် မင်းအိုရွာ ဘကြီးတော်ဘုန်းတော်ကြီးထံတွင် စာပေသင်ကြားလေသည်၊ ၁၁၈၀-ပြည့်နှစ်တွင် ရဟန်းဘောင်သို့ ဝင်လေသည်၊ ဘွဲ့တော်မှာ ဦးဧယျဖြစ်လေသည်၊ ပဌမ မောင်းထောင် ဆရာတော်မှာဦးဧယျ၏ဆရာပင် ဖြစ်လေသည်၊ထိုနောက် အမရပုရဝေဃန်သာလွတ်တိုက် ဆင်တဲတိုက်များတွင်လည်း ပညာဆည်းပူး၍ သဲအင်းဆရာတော်ထံတွင် အတူလိုက်ပါကာ သီတင်းသုံးတော်မူလေသည်။

သာယာဝတီမင်းက ဧယျဓမ္မာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကပ်လှူတော်မူလေသည်၊ ထိုနောက် သဲအင်းဆရာတော် ပျံလွန်တော်မူသောအခါ ၁၂၀၁-ခုနှစ်တွင် ဧယျဓမ္မာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇဂုရု တံဆိပ်တော် ကပ်လှူ၍ သာသနာပိုင်တင်မြှောက်တော်မူလေသည်၊ ၁၂၀၃-ခုနှစ် တော်သလင်းလဆန်း ၆-ရက်နေ့တွင် ရန်ကုန်မြို့သို့ကြွ၍ ရွှေတိဂုံစေတီတော်ကြီးအား ကိုယ်လုံးပြည့် ရွှေသင်္ကန်း ကပ်လှူတော်မူပြီးလျှင် ခေါင်းလောင်းတော်ကြီးကို သွန်းလုပ်လှူတော်မူလေသည်။

ဆရာတော်ကြီးအားဧယျဓမ္မာဘိဝံသသီရိပဝရာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ထပ်မံလှူဒါန်း၍ မဟာအဘယာ ရာမတိုက် မဟာတုလွတ်ဘုံကျော်ကျောင်းတော်ကို ဆောက်လုပ်လှူဒါန်းလေသည်။

မင်းတုန်းမင်းလက်ထက်တွင် ဒုတိယအကြိမ် သာသနာပိုင်ဆရာတော်တင်မြှောက်ပြန်၍ ဧယျဓမ္မာဘိမုနိဝရ ဉာဏကိတ္တိသီရိဓဇဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု ဟူသောတံဆိပ်တော်ကို ထပ်မံလှူဒါန်းပြန်လေသည်။

* ရွှေရေးဆောင်ထေရုပ္ပတ္တိကထာတွင် တန်ဆောင်မုန်းလဆုတ် ၁၃-ရက် ဟုဆိုသည်။

ဆရာတော်သည် ၁၂၂၇-ခုနှစ် တပို့တွဲလဆန်း ၁၂-ရက်တွင် ပျံလွန်တော်မူရာ ပြုစုတော်မူသော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ သုရာဇမဂ္ဂဒီပနီ။
၂။ မာဂဓ အဘိဓာန်ဋီကာနိဿယသစ်။
၃။ မဇ္ဈိမပဏ္ဏာသ အဋ္ဌကထာနိဿယ။
၄။ ဥပရိပဏ္ဏာသ အဋ္ဌကထာနိဿယ။
၅။ ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာနိဿယ။
၆။ မာရာရိဇယသိမ်တော်မော်ကွန်း (၁၂၀၃)
၇။ ဥပရိပဏ္ဏာသပါဠိတော်နိဿယ။
၈။ မဟာနိဒ္ဒေသ အဋ္ဌကထာနိဿယ။
၉။ အတ္တယာဥ္စကျမ်း။
၁၀။ စိတ္တနိဂ္ဂဟကျမ်း။
၁၁။ သီဟိုဠ်သန္ဒေသကထာကျမ်း။
၁၂။ ရူရာရပ္ပကျမ်း။
၁၃။ မဂ္ဂါမဂ္ဂ ပဋိပဒါကျမ်း။

---

## ၁၀၄။ ရှင်သုနန္ဒ (တလုပ်မြို့ဆရာတော်)

(၁၁၆၁–၁၂၀၉)

တလုပ်မြို့ဆရာတော်ကို ၁၁၆၁-ခုနှစ် တော်သလင်း လဆန်း ၈-ရက်နေ့တွင် တလုပ်မြို့ကျေးချောင်းတောင်ရွာ မောင်ရွှဲနှင့်ဇနီးတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ရွှေသီးဖြစ်၍ အရွယ်ရောက်၍ ရဟန်းပြုသော် ရှင်သုနန္ဒဘွဲ့ကိုခံယူသည်၊စီးတော်မြင်းဝန်မောင်ရွှေနီက-အမရပုရမြို့တော်အရှေ့တောင်ယွန်းကျောက်မြောင်းတိုက် အနောက်ကျောင်းတိုက်တွင်ကျောင်းသစ်ဆောက်လုပ်တင်လှူသည်၊သာယာဝတီမင်းတရားလက်ထက်မိဖုရားကြီးက ကိုးကွယ်တော်မူသည်၊ သုဓမ္မာလင်္ကာရာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူရသည်၊ ဆရာတော်သည် ၁၂၀၉-ခုနှစ် တော်သလင်းလဆန်း ၈-ရက်နေ့တွင် ပျံလွန်တော်မူလေသည်။

---

## ၁၀၅။ ရှင်ဉာဏာလင်္ကာရ (ဆင်တဲဆရာတော်)

(၁၁၆၂-၁၂၁+)

*ဆင်တဲဆရာတော်ကို သကရာဇ် ၁၁၆၂-ခုနှစ် ဝါဆိုလဆန်း ၁၁-ရက်နေ့တွင် ပုခန်းကြီးမြို့ကျေး အနောက်လက် ကျည်းကန်ရွာ မောင်မြတ်စံပေါ်-ရှင်နိုးတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်သာနိုး ဖြစ်သည်၊ အရွယ်ရောက်၍ ရဟန်းပြုသော် ရှင်ဉာဏာလင်္ကာရဘွဲ့ကို ခံယူသည်၊ ပုဂံမင်းလက်ထက် ပေါက်မြိုင်မြို့စား အတွင်းဝန်မောင်မှူ ကိုးကွယ်သည်၊ မြို့တော်မြောက်မျက်နှာ ဆင်တဲတိုက်တွင်းရှိ လေးထပ် ကျောင်းတော်တွင် သီတင်းသုံးသည်၊ ဉာဏာလင်္ကာရ သီရိပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကို ခံယူရသည်။

---

## ၁၀၆။ ရှင်ဒီပ (ကောဒသမညောင်ကန်ဆရာတော်)

(၁၁၆၂-+)

ညောင်ကန်ဆရာတော် ရှင်ဒီပကို ၁၁၆၂-ခုနှစ်တွင် ဗဒုံမြို့ကျေး ညောင်ကန်ရွာ၌ ဦးစံရာ-ဒေါ်ဦးတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ ကြက်သွန်ကန်ဘောင်ရိုး၌ ဖွားခြင်းကြောင့် မောင်ကန်ရိုးဟုမှည့်ခေါ်သည်၊ ငယ်စဉ်က ဆရာတော်ဦးပိုး (သတ္တမညောင်ကန်ဆရာတော်) ထံတွင် စာပေပညာသင်ကြားသည်၊ အရွယ်ရောက်၍ ရဟန်းပြုသော် ရှင်ဒီပဘွဲ့ကိုပင်ခံယူသည်၊ ဆရာတော်ဦးပိုးသည် အင်းဝမြို့သို့ကြွတော်မူသောအခါ အတူလိုက်ပါရသည်၊ ဘကြီးတော် မင်းလက်ထက် ဒီပါလင်္ကာရမဟာဓမ္မရာဇဂုရုတံဆိပ်တော်ကိုခံ ယူရသည်၊ ဆရာတော် ဦးဖုဓ်လက်ထက်တွင်လည်း ဆက်လက်၍နိသျည်း ခံယူလေသည်၊ ထိုနောက် အမရပုရမြို့တော် အရှေ့မြောက်ယွန်း မဟာဘုံကျော် ညောင်ကန်တိုက်တွင် မြေတောင်မြို့စား မင်းသမီးဆောက်လုပ်လှူဒါန်းသော လေးထပ်ကျောင်းကို ခံယူရလေသည်။

---

*ဆင်တဲဆရာတော် ၄-ပါးရှိသည်၊ ရှင်ဉာဏာလင်္ကာရ(၁၁၆၂-၁၂၁+) နှင့် ရှင်ဉာဏ(၁၁၀၆-၁၁၇၈), ရှင်သာဂရ မင်းတုန်းမင်းလက်ထက်ဖြစ်သည်၊ ရှင်ဝိမလ မင်းတုန်း,သီပေါ, အင်္ဂလိပ်လက်ထက်ဖြစ်သည်၊ ဆိုင်ရာအတ္ထုပ္ပတ္တိများတွင်ရှု၊ဆင်တဲဆရာတော် ရှင်သာဂရသည် ၁၂၃၈-ခုနှစ်တွင် ဝိနည်းမဟာဝါ ပါဠိတော်နိသျသစ်ကိုစီရင်သည်။

ဆရာတော်သည် ကျမ်းဂန်တတ်သည်ဟုသာထင်ရှား၍ကျမ်းပြုတော်မူသည်ဟု အမှတ်အသားမတွေ့ရှိရပေ။

---

## ၁၀၇။ ရှင်ဓမ္မ (သစ်ဆိမ့်ဆရာတော်)
(၁၁၆၃-၁၂၁+)

* သစ်ဆိမ့်ဆရာတော်ကို သကရာဇ် ၁၁၆၃-ခုနှစ်တွင် တောင်ဖက်မြင်းမြေရန်အောင်မြို့သစ်၌ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ရွှေလူဖြစ်သည်၊ အရွယ်ရောက်သော် ရဟန်းဘောင်သို့ဝင်ရောက်၍ ရှင်ဓမ္မဘွဲ့ခံယူသည်၊ ရတနာပုရစတုတ္ထမြို့တည် မင်းလက်ထက် အင်းဝမြို့အနောက်တောင်ထောင့် မန့်ကျည်းတောကျောင်းတိုက် မြောက်နန်းမိဖုရားဆရာတော်ထံတွင် စာပေသင်ကြားဆည်းပူးသည်၊ ပုဂံမင်းလက်ထက်တွင် မိဖုရားကြီးကဆောက်လုပ်သော မဟာခေမိကာရာမတိုက် မဟာဘုံကျော် တိုက်ကျောင်းတွင် သီတင်းသုံးတော်မူသည်၊

---

*မင်းလှသီရိသီဟသူ၏ မှတ်စုတွင် တေဇောနန္ဒာဘိဓဇသဓဇမဟာဓမ္မရာဇာဓိရာဇဂုရုဟူ၍ပြသည်၊ ပိဋကတ်တော်သမိုင်းနှင့်မညီလေ။

အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိသျ, ပရိဝါပါဠိတော်နိသျ, လောကဒီပကသာရနိသျကျမ်းပြု သစ်ဆိမ့်ဆရာတော်မှာ ဤဆရာတော်၏တပည့် ပညာသီဟာဘိသီရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ ဒုတိယသစ်ဆိမ့်ဆရာတော်ရှင်ပညာသီဟဖြစ်သည်၊ မန္တလေးမြို့မြောက်ပြင် ခေမိကာရာမတိုက်၌ သီတင်းသုံးတော်မူသည်၊ ပေါရာဏကထာဋီကာ ကျမ်းပြု သစ်ဆိမ့်ဆရာတော်၏ ဘွဲ့တံဆိပ်ကိုမူ ထိုကျမ်းနိဒါန်း၌ ပညာသီဟသာသနာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရုဟူ၍ပြဆိုသည်၊ သစ်ဆိမ့်ဆရာတော်၏တပည့် ဒုတိယသစ်ဆိမ့်ဆရာတော်ရှင်ပညာသီဟပင်ဖြစ်ဖွယ်ရှိသည်၊ သင်္ဂဇာစကားပုံပေါင်းချုပ်တွင် ပညာသီဟသာသနဓဇမဟာ ဓမ္မရာဇာဓိရာဇဂုရုဟူ၍ဖေါ်ပြသည်၊ တံဆိပ်တော်အကွဲအလွဲမှတ်သားကြသည်။

သစ်ဆိမ့်ဆရာတော် ၁၂၀၁-ခုနှစ်တပို့တွဲလတွင် ပြုစုသော ဂီတာလင်္ကာရကျမ်းတစောင်ရှိပေသေးသည်၊ ပေါရာဏကထာဋီကာကျမ်းပြု ဆရာပင်ဖြစ်ဖွယ်ရှိသည်၊ မင်းတုန်းမင်းလက်ထက် ၁၂၂၂-ခုနှစ် ပဌမသင်္ဂါယနာတင်ရာတွင် အကြပ်အမဆရာတော်တပါးဖြစ်သော မဟာအဘယာရုံတိုက် သစ်ဆိမ့်ကြီးရွာဇာတိ ဧသီသာရဓမ္မပါလကိတ္တိမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ သစ်ဆိမ့်ဆရာတော်ဟူ၍လည်း ရှိသေး၏။

မွှာဘိလင်္ကာရသိရိသဒ္ဓမ္မဇေမဟာ ဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ခံယူတော်မူရသည်၊ဆရာတော်သည် မင်းတုန်းမင်းလက်ထက်တော်တွင် ထင်ရှား၍ ၁၂၃၃-ခုနှစ်လွန်မှ ပျံလွန်တော်မူသည်။

ဆရာတော်သည် ရာဇဝံသဒီပကာ ပါဠိနိသျကို ရေးသားဖွင့်ဆိုတော်မူခဲ့လေသည်။

---

## ၁၀၈။ ရှင်ဥာဏဝံသ (ငွေးချိုဆရာတော်)

(၁၁၆၃-၁၂၁+)

ငွေးချိုဆရာတော်ကို၁၁၆၃-ခု နယုန်လဆန်း ၈-ရက်နေ့တွင် ဗန္ဓကျီတိုက်ကျွားတက်ရွာ၌ ဖွားမြင်သည်၊အရွယ်ရောက်သော်ရဟန်းပြု၍ ရှင်ဉာဏဝံသဘွဲ့ခံယူတော်မူသည်၊ ပုဂံမင်းလက်ထက်အင်းဝမြို့တော်တောင်ဖက်အတွင်း၌ သီတင်းသုံးသောပုဂံနတ်ထောင် ဆရာတော်ထံတွင်ပညာဆည်းပူးတော်မူသည်၊ မင်းတုန်းမင်းတရား လက်ထက် အမရပုရမြို့မြောက်မျက်နှာ၊ငွေးချိုကျောင်းတိုက်တွင် မြင်စိုင်းနှင့် မြင်ကွန်းမြို့စားမင်းသမီး ဆောက်လုပ်လှူဒါန်းသော ကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ဉာဏဝဇိရဓဇမဟာဓမ္မရာဇဂုရု တံဆိပ်တော်ကို ခံယူတော်မူရသည်၊ ဆရာတော်သည် ၁၂၁၃-ခုနှစ်နောက်ပိုင်းတွင်မှ ပျံလွန်တော်မူသည်။

---

## ၁၀၉။ ရှင်ဇာဂရ (ဘုရားကြီးဆရာတော်)

(၁၁၇၂-၁၂၃၆)

ဘုရားကြီးဆရာတော်ဟု ထင်ရှားသော ဒက္ခိဏာရာမတိုက် မဟာနာယကဆရာတော် ရှင်ဇာဂရမှာ *မိတ္ထိလာမြို့ မြင်းနယ် ကဖြူရွာနေ ဦးရွှေစ-ဒေါ်မင်းရင်တို့မှသကရာဇ် ၁၁၇၂-နှစ်တွင် ဖွါးမြင်သောသား

---

* ပိဋကတ်တော်သမိုင်း၌ ရွှေပြည်ရန်အောင်အနောက်လက် ကဖြူရွာဟု ဆိုသည်။

ဘုရားကြီးဆရာတော်၏ တပည့်များကား ဒုတိယဒက္ခိဏာရာမဆရာတော် ရှင်ပဏ္ဍိတ, တတိယဒက္ခိဏာရာမဆရာတော် အရှင်သုဇာတ (ဦးကမ်းနီ), စတုတ္ထ ဒက္ခိဏာရာမဆရာတော်ရှင်အာစာရ,ဦးရန်ကုန်ဆရာတော်ရှင်သုဇာတ, ငွေတောင်ဆရာတော် ရှင်ကဝိန္ဒတို့တည်း။

တော်ဖြစ်လေသည်၊ ငယ်မည်မှာ ဦးညိုဖြစ်၍ ရဟန်းဘွဲ့တော်မှာ ရှင်ဇာဂရဖြစ်လေသည်၊ဆရာတော်သည်ဝါတော် ၁၇-ဝါအရတွင်အာရာမာဓိပတိသံဃနာယကတင်မြှောက်ခြင်းခံရလေသည်။

မင်းတုန်းမင်းကြီးလက်ထက်တွင် ပဥ္စမသင်္ဂါယနာတင်ရာ၌ မဟာနာယကအဖြစ် တင်မြှောက်ခြင်းရ၍ ဇာဂရာဘိဓဇသီရိပဝရာလင်္ကာရမဟာဓမ္မရာဇဂုရု တံဆိပ်တော်ဆက်ကပ်ခြင်းခံရလေသည်၊ ဇာဂရာဘိဝံသဓဇ တိပိဋကဓရမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုလည်း ခံယူရပေသေးသည်၊မင်းတုန်းမင်းကြီး၏ တောင်ဆောင်မိဖုရားဆောက်လုပ်လှူဒါန်းသော ဘုံပျံကျောင်းတော်ကြီးတွင်လည်း သီတင်းသုံးတော်မူသည်။

ဆရာတော်သည် ၁၂၃၆-ခုနှစ်တွင် ဒက္ခိဏာရာမကျောင်းတိုက်၌ သက်တော် ၆၄-နှစ်၌ပျံလွန်တော်မူလေသည်။

ဆရာတော်ရေးသားပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ သံဝေဂဝတ္ထုဒီပနီကျမ်း။
၂။ ဗြဟ္မဝိဟာရဒီပနီကျမ်း။
၃။ ဥဘတောဝိဘင်းပါဠိတော်နိဿယသစ်။
၄။ နေတ္တိပါဠိတော်နိဿယသစ်။
၅။ သံပျင်ဋီကာနိဿယ။
၆။ ကာရိကာနိဿယ။
၇။ မောဂ္ဂလာန်နိဿယ။
၈။ မူလသိက္ခာနိဿယသစ်။
၉။ မင်္ဂလသုတ်နိဿယသစ်။
၁၀။ သဂြိုဟ်ဂဏ္ဌိသစ်။
၁၁။ နိယံသစ်ကျမ်း။
၁၂။ ဆန်းပုံကျယ်။
၁၃။ ပါစိတျာဒိယောဇနာ။
၁၄။ ဒီပဝင်ဋီကာပါဌ်။
၁၅။ ဂန္ထာဘရဏဋီကာသစ်။

၁၆။ သဒ္ဒဝုတ္တိဋီကာသစ်။
၁၇။ အဘိဓမ္မတ္ထသင်္ဂဟဂဏ္ဌိသစ်။
၁၈။ ပါရာဇိကဏ်ပါဠိတော်နိဿယသစ်။
၁၉။ ဘိက္ခုပါစိတ်ပါဠိတော်နိဿယ။
၂၀။ ဘိက္ခုနီပါဠိတော်နိဿယ။

---

## ၁၁၀။ ရှင်နရိန္ဒ(ဆီးပန်းနီဆရာတော်)

(၁၁၇၃–၁၂၅၀)

ဆီးပန်းနီ (ဆီးဘန္နီ) ဆရာတော်မှာ မင်းတုန်းမင်းကြီး လက်ထက်တွင် ထင်ရှားသည်၊ ဘိုးတော်မင်းတရားလက်ထက် မဟာရာဇသင်္ကြံအမတ်ကြီး၏သားဖြစ်၍ ၁၁၇၃-ခု ပြာသိုလပြည့်ကျော် ၁-ရက် စနေနေ့တွင် အနောက်ဖက်မင်းကွန်းရွာ၌ ဖွားမြင်တော်မူသည်၊ ငယ်မည်မှာ မောင်မှော်ဖြစ်လေသည်။

အရွယ်သို့ရောက်လျှင် ရဟန်းပြု၍ စလင်းမင်းသားကြီးဆရာတော်, မြသိန်းတန်ဆရာတော်တို့ထံ ပညာဆည်းပူး၍ ပိဋကတ်ကျမ်းဂန် တတ်မြောက်လေသည်၊ဘွဲ့တော်မှာ ရှင်နရိန္ဒဖြစ်လေသည်၊ ရွှေဘိုမင်းနှင့် ပုဂံမင်းတို့ လက်ထက်တွင် အမရပုရမြို့ မိုးထိတိုက် ပြည်ဆရာတော်, မိုးထိဆရာတော်တို့ထံတွင် ပညာဆည်းပူးတော်မူလေသည်။

ကျမ်းဂန်တတ်လှ၍ မင်းတုန်းမင်းကြီး လက်ထက်တွင် နရိန္ဒာဘိသီရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်နှင့် နရိန္ဒာဘိသီရိသဒ္ဓမ္မဇောတိပါလ ဓဇမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်နှစ်ထပ် လှူဒါန်းခြင်းခံရပြီးလျှင် သီဘောမင်းလက်ထက်တွင် နရိန္ဒာဘိဓဇ အတုလာဓိပတိသီရိပဝရ မဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်တော်ကိုထပ်မံ ကပ်လှူဒါန်းခြင်းခံရပြန်လေသည်။

ဆရာတော်ကြီးသည် ၁၂၅၀-ပြည့်နှစ်ကဆုန်လပြည့်ကျော် ၁-ရက် ဗုဒ္ဓဟူးနေ့တွင် ပျံလွန်တော်မူရာ ရေးသားပြုစုတော်မူခဲ့သော စာပေများအနက် အောက်ပါစာပေများပါဝင်လေသည်။

၁။ ကဝိမဏ္ဍနမေဒနီကျမ်း။
၂။ ပါတော်မူတမ်းချင်း။
၃။ သင်္ဂါယနာတင်အန်ချင်း။
၄။ အောင်ခြင်းရှစ်ပါးပျို့သစ်။
၅။ စရိယာပိဋက အဋ္ဌကထာပါဠိနိဿယ။
၆။ ခတ္တောဝါဒလင်္ကာ။
၇။ သိဿကောဝါဒလင်္ကာ။
၈။ အရညကောဝါဒလင်္ကာ။
၉။ ဆီးပန်းနီ-ကထိန်အမေးအဖြေ။

---

## ၁၁၁။ ရှင်မဏိဇောတ
(၁၁၇၃–၁၂၃၃)

ရှင်မဏိဇောတမှာ ဘကြီးတော်ဘုရား လက်ထက်တွင် ထင်ရှား သော ကျမ်းတတ်ဆရာတော်တပါးဖြစ်လေသည်။

သကရာဇ် ၁၁၇၃-ခုနှစ် တန်ခူးလတွင် ရှမ်းမကားရွာ၌ သူကြီး ဦးလူလှ-ဒေါ်မဲညိုတို့မှဖွားမြင်ရာ ငယ်မည်မှာ မောင်မုန်းဖြစ်လေသည်၊ အသက် ၇-နှစ်အရွယ်တွင် သာမဏေဝတ်၍ သာမဏေဘဝ၌ပင် စာပေ တတ်မြောက်ပြီး ကျောင်းသားနှင့် သာမဏေငယ်တို့ကို စာပေပို့ချ ပေးရလေသည်။

၁၁၉၁-ခုနှစ်တွင် ဘကြီးတော်ဘုရား၏ ပဋ္ဌင်းခံပွဲတွင် ရဟန်းဘဝ သို့တက်ရောက်ရာ ရှင်မဏိဇောတဘွဲ့ကိုခံယူလေသည်၊သို့ရာတွင် ဦးမဏိ ဟူ၍သာ ထင်ရှားလေသည်၊ ဦးမဏိမှာ ပဌမကျော် စာပြန်ပွဲကို အောင်မြင်၍ မင်းတရားကြီးက လေးမြတ်ခြင်းပြုလေသည်။

ဦးမဏိသည် သာယာဝတီမင်းနှင့် ပုဂံမင်းလက်ထက်အထိ စာပေ ပြုစု၍နေပြီး ကျောက်မြောင်းမြို့အနီး ရွှေပေါက္ကန်းဘုရားအရှေ့၌ သမ ထတရားအားထုတ်နေလေသည်၊၁၂၃၃-ခုနှစ်တွင် အညာ သီဟတော ဘုရားအနီး၌ ပျံလွန်တော်မူလေသည်၊ ဦးမဏိသည် အင်းဝမဟာ အောင်မြေဘုံစံ အုတ်ကျောင်းတွင် သီတင်းသုံးဘူး၍ ဟင်္သာတမြို့သို့ စုန်ဆင်းကြွရောက်ခါ သီရိမဟာဇေယျဗလဘွဲ့ခံမြို့သူကြီး ဦးမြတ်သာ ထွန်း, ရန်ကုန်ဝန်ကြီး ဦးကျော်ရွှေး၏ တူမ မြို့သူကြီးကတော်ဒေါ်ရွှေ

ရုပ်တို့၏ ကောင်းမှု ဝက်လှကျောင်းတိုက်၌ သီတင်းသုံးတော် မူဘူးသည်ဟုလည်း အမှတ်အသားရှိသည်၊ မဏိဇောတလင်္ကာရဟူ၍လည်း ဘွဲ့ထင်ရှားသည်။

* ဆရာတော်ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ပေါရာဏကထာဒီပက။ (၁၁၉၇)
၂။ ပေါရာဏမူလ အဘိဓာန်။ (၁၂၀၅)
၃။ ဓမ္မမာလာတရားစာ။ (ပေမူ၉–တွဲ။ စာအုပ် ၃-အုပ်စာမျက်နှာ ၄၇၆) (၁၁၉၉-ခုနှစ် ပြာသိုလဆန်း ၈-ရက်နေ့ပြီး)
၄။ ဘိက္ခုကြန်ါဝိတရဏီအဋ္ဌကထာနိသျ။

---

## ၁၀၂။ ရှင်အဂ္ဂဓမ္မ (သင်္ဂဇာဆရာတော်)
(၁၁၇၇-၁၂၄၀)

သင်္ဂဇာဆရာတော်မှာ ပုဂံမင်း, မင်းတုန်းမင်းနှင့် သီပေါမင်းတို့ လက်ထက်တွင် ထင်ရှားသောဆရာတော်တပါးဖြစ်လေသည်။

† ဆရာတော်ကိုတလုပ်မြို့ကျေးလက်ပေါက်ချောင်းရွာတွင် ၁၁၇၇-ခုနှစ်နယုန်လဆန်း၁၄-ရက် တနင်္ဂနွေနေ့၌ ဖွားမြင်လေသည်၊ငယ်မည်မှာ မောင်ပိုဖြစ်၏၊ငယ်စဉ်ကသာမဏေအဖြစ်ဖြင့်၎င်း,ရဟန်းအဖြစ်ဖြင့်၎င်း သလုံးဆရာတော်,ထီးလင်းဆရာတော်နှင့် သဲအင်းဆရာတော်များထံတွင် စာပေကျမ်းဂန်များကို သင်ကြားတတ်မြောက်ခဲ့ရာ ဆရာတော်အား မင်းတုန်းမင်းက ပင့်ဆောင်ကိုးကွယ်လေသည်။

ဆရာတော်သည် အဂ္ဂဓမ္မာလင်္ကာရ ကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကို ရရှိလေသည်၊၁၂၄၆-ခုနှစ်တွင် အိန္ဒိယပြည် ကာလကတ္တားမြို့သို့ရောက်ရှိ၍ ညောင်အုပ်မင်းသား အိမ်တော်တွင် တပတ်

---

*ဆရာတော်ကို ရှမ်းအမျိုးအနွယ်ဟုလည်း ဆိုသည်၊ ဟသ်ာတမြို့ သမပြေပင်ဆရာတော်ရေး ဟသ်ာတသမိုင်းတွင်ဖေါ်ပြသည်။

† ဆရာတော်၏ထေရုပ္ပတ္တိကျောက်စာသံပိုင်းကို မော်လမြိုင်မြို့ကျိုက်သလ္လာဘုရားအနီးစေတီကြီးတွင် စိုက်ထူထားသည်။

မျှသီတင်းသုံးတော်မူလေသည်၊ သီဟိုဠ်သို့သွားရန် ရည်ရွယ်သော်လည်း သွားဖြစ်တော်မမူခဲ့ပေ။

သကရာဇ် ၁၂၄၀-ခုနှစ် ဝါခေါင်လဆန်း ၁၀-ရက်နေ့တွင် မော်လမြိုင်မြို့၌ ပျံလွန်တော်မူလေသည်။

ဆရာတော်ရေးသားပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ စကားပုံများ(ဥပမာသမူဟဂီရက္ကမ)။
၂။ ဝိမတိဝိနောဒနီဋီကာနိသျ။
၃။ သိဂ်ါလောဝါဒဆုမ္မစာ။
၄။ စတုရာရက္ခကျမ်း။
၅။ ဓမ္မပဒပါဠိတော်နိသျသစ်။
၆။ ဓာတုတ္ထဒီပက။

---

## ၁၁၃။ ရှင်သုဒဿန (ဒုတိယစံကျောင်းဆရာတော်)
(၁၁၇၇-၁၂၅၀)

ဒုတိယစံကျောင်းဆရာတော်ကြီးကို* မြင်းခြံခရိုင်နွားပြင်းရွာ၌ပုခန်းကြီးမြို့ ဇာတိရင်းဖြစ်သော မိဘတို့မှ ၁၁၇၇-ခုနှစ် တဆောင်မုန်းလဆန်း ၁၂-ရက်နေ့တွင် ဖွားမြင်တော်မူသည်၊ သဲအင်းဆရာတော်ထံ၌ ရဟန်းပြု၍ စာပေသင်ကြားသည်၊ မင်းတုန်းမင်းကြီး၏ မိဖုရားငယ်စဉ်က ကိုးကွယ်ခြင်းခံရ၍ မင်းတုန်းမင်းကြီးက အင်းဝမြို့တော်ဟောင်းကို ပြောင်းရွှေ့ဆောက်လုပ်သော စံကျောင်းကို တင်လှူသည်၊ သာယာဝတီမင်းလက်ထက် သုဒဿနဝရဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်

---

* ရွှေရေးဆောင်ထေရုပ္ပတ္တိကထာ၌ကူးခန်းကြီးမြို့(ပခန်းကြီးမြို့)အနောက်လက် မြို့လှချောင်းကြီးရွာ၌ဖွားမြင်သည်ဟုဆိုသည်။

ဒုတိယစံကျောင်းဆရာတော်၏ တပည့်များမှာ တိုက်တော်ဆရာတော် ရှင်လက္ခဏ, လယ်တီဆရာတော်ရှင်ဉာဏ, တောင်ခွင်ဆရာတော်ရှင်ဝိသုဒ္ဓါစာရ, မင်းကျောင်းဆရာတော် ရှင်ဝိစာရ, ငွေတောင်ဆရာတော်ရှင်ကဝိန္ဒ, စလင်းဆရာတော်, အလ္လကပ္ပဆရာတော်, ရွှေရေးဆောင်ဆရာတော်, မိုင်းခိုင်းဆရာတော် ရှင်ပဏ္ဍိတ, မကုဋာရာမတိုက်ဆရာတော် ရှင်ခေမိန္ဒတို့ဖြစ်သည်။

တော်ကိုခံယူရသည်၊မင်းတုန်းမင်းလက်ထက် သုဒဿနဓဇအတုလာဓိပတိသီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုခံယူရပြန်သည်။

ဆရာတော်သည် ၁၂၅၀-ပြည့် နှစ် တော်သလင်းလဆန်း ၈-ရက်နေ့၌ပျံလွန်တော်မူရာ ပြုစုခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ စူဠဝါပါဠိတော်နိသျ။
၂။ ဓမ္မသင်္ဂဏီပါဠိတော်နိသျ။
၃။ ဝိနိစ္ဆယကျမ်း(ပေ၂၃အင်္ဂါရှိ၏။)

---

## ၁၁၄။ ရှင်ဓမ္မရက္ခိတ (ကျူပင်းဘုန်းတော်ကြီး) (၁၁၇၇-၁၂၅၇)

ကျပင်းဘုန်းတော်ကြီးမှာ သီပေါမင်း လက်ထက်တွင် ထင်ရှားသော ဆရာတော်တပါးဖြစ်လေသည်။

သကရာဇ် ၁၁၇၇-ခုနှစ် ဝါဆိုလဆန်း ၁၅-ရက် စနေနေ့တွင် ကျပင်းရွာ ဦးဖိုးလာ-ဒေါ်ဂုံတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ရွှေသီး ဖြစ်လေသည်။

ငယ်စဉ်ကကျပင်းရွာခင်ကြီးစိုးထံတွင် စာပေသင်ကြား၍ သာမဏေဝတ်လေသည်၊ ထိုနောက် ရဟန်းဘောင်သို့ဝင်ရာ ဓမ္မရက္ခိတ ဟူသော ဘွဲ့တော်ကို ခံယူသည်၊ ရဟန်းအဖြစ်သို့ရောက်ပြီးသောအခါ ကျပင်းရွာခင်ကြီးအောင်နှင့် ခင်ကြီးသစ်တို့ထံတွင် စာပေပိဋကတ်ကို ဆက်လက်သင်ကြား၍ ကျပင်းရွာ အဘယဂီရိ ကျောင်းတွင် သီတင်း သုံးတော်မူသဖြင့် ကျပင်းဆရာတော်ဟု တွင်လေသည်။

သကရာဇ် ၁၂၅၄-ခု တွင် မန္တလေးမြို့ သာသနာပိုင် ဆရာတော်ကြီးက စလင်း,ကျပင်း,ဆင်ဖြူကျွန်း ၃-မြို့ ဂိုဏ်းချုပ်ဆရာတော် အဖြစ် ခန့်အပ်ခြင်း ခံရလေသည်။

ဆရာတော်သည် ၁၂၅၇-ခုနှစ် ဝါတော်-၆၀ သက်တော်-၈၀ တွင် ပျံလွန်တော် မူလေသည်။

ကျပင်းဆရာတော် ပြုစုခဲ့သော စာပေများတွင် အောက်ပါ ကျမ်းများ ပါဝင်လေသည်။

၁။ ကျပင်းတရားစာ။
၂။ သဒ္ဒါနိသျှမူကျယ်။
၃။ အဘိဓမ္မတ္ထကျမ်း။
၄။ ကမ္မဝိနိစ္ဆယကျမ်း။
၅။ ဒွိမဂ္ဂဒီပနီ။
၆။ နယဂ္ဂဒီပနီ။
၇။ လက္ခဏာဒိသံခိပ်။
၈။ သာသနာပြုကျမ်းများ။
၉။ ဥပေါသထ ဝိနိစ္ဆယကျမ်း။
၁၀။ သဒ္ဒါဒိဓမ္မသံခိပ်။
၁၁။ ပဟာနဘာဝနာသြဝါဒ။

---

## ၁၁၅။ ရှင်ဥက္ကံဝံသမာလာ(အုဂ်ဖိုရ်ဆရာတော်)
(၁၁၇၉-၁၂၆၇)

အုဂ်ဖိုရ်ဆရာတော်ကြီးကို ၁၁၇၉-ခုနှစ် တပေါင်းလဆန်း ၅-ရက် တနင်္ဂနွေနေ့တွင် သာရဝေါမြို့အနီး ရွာကလေးရွာ၌ ဖွားမြင်လေသည်၊ ခမည်းတော်နှင့် မယ်တော်မှာ ဦးရွှေပန်း-ဒေါ်လေးတို့ ဖြစ်လေသည်၊ ငယ်မည်မှာမောင်ညွှင်းဖြစ်၏၊ အရွယ်ရောက်လျှင် ဆရာတော်ဦးဇော်ဂျီ ထံ၌ ပညာဆည်းပူး၍ သာမဏေပြုရာ ရှင်ဥက္ကံဝံသမာလာဘွဲ့ ခံလေ သည်၊ ထိုနောက် အဝမှကြွလာသော မြသိန်းတန်ဆရာတော်ထံ၌ရင်း၊ ဟသ်ာတသရက်တောဆရာတော်,ရန်ကုန်ပုဇွန်တောင် ဆရာတော်တို့ထံ တွင် ပညာ ဆက်လက် သင်ကြားပြီး သာရဝေါ မန်ကျည်းတော ဆရာတော်ထံ၌ ရဟန်းပြုလေသည်၊ ထိုနောက် အမရပူရမြို့ ဗားကရာ ဆရာတော်ထံတွင် ကျမ်းဂန်သင်ကြား၍ ဗြာဟ္မဏဆရာကြီး သမ္မာရသျှံ ထံတွင် သတ္တဒုကျမ်းများကို သင်္ဂဇာ ဆရာတော်နှင့်အတူ သင်ကြား တော် မူရလေသည်၊ ပုဂံမင်းလက်ထက်တွင် ဗားကရာဆရာတော်ကြီး မှာ သာသနာပိုင်ဖြစ်လာ၍ စာချပျက်သောကြောင့် ဗန်းမော်ဆရာတော် ကြီး ထံ၌ ဆက်လက် သင်ကြားလေသည်။

ပုဂံမင်းက သာသနာပိုင် ဆရာတော်၏ တပည့်အဖြစ် ဘွဲ့တံဆိပ်နှင့် ကျောင်းတော်ကို လှူဒါန်း လိုသော်လည်း မခံယူလိုဘဲ စပါးတောတိုက် မြသိန်းတန် ဆရာတော်ထံတွင် စာပေသင်ကြား ပြန်လေသည်၊ ထို နောက် ၁၂၁၃-ခု နှစ်တွင် သာရဝေါ မြို့သို့ ကြွရောက်ပြီးနောက် ၁၂၁၄-ခုနှစ်တွင် အုဂ်ဖိုရ်မြို့ (ယခု အင်္ဂပူမြို့သို့ ကြွရောက် သိတင်းသုံး တော် မူလေသည်၊ ထိုအချိန်၌ ရွှေတောင် ကျီးသဲဆရာတော်လည်း ကြွ ရောက် သီးတင်း သုံးတော်မူသည်။) ဆရာတော် ကြီးသည် ရေသိမ်ကို အကြောင်းပြု၍ ဒွါရဝါဒီဂိုဏ်းကို သီးခြားထူထောင်တော်မူလေသည်၊ ၁၂၂၀-ခုနှစ်တွင် တောရဆောက်တည်တော် မူလေသည်၊ ၁၂၄၂-ခု နှစ်တွင် မဟာဗောဓိသို့ ကြွတော်မူလေသည်။

ဆရာတော် ကြီးသည် ၁၂၆၇-ခု နှစ် တပေါင်း လဆုတ် ၂-ရက် တနင်္ဂနွေနေ့တွင် ပျံလွန်တော်မူရာ အောက်ပါ ကျမ်းများကို ပြုစုတော် မူခဲ့လေသည်။

၁။ ကံဒွါရအဆုံးအဖြတ်မေတ္တာစာနှင့် အခြားမေတ္တာစာ ၁၄-ပုဒ်။
၂။ သေမင်းတမန်စာတမ်း။
၃။ နိယတာနိယတ မိစ္ဆာဒိဋ္ဌိကဒ်ါဘေဒ။
၄။ အဟံကာရယာတနစာတမ်း။
၅။ သာသနဒါယာဒဝိနိစ္ဆယ။
၆။ ဒွါရသင်္ဂဟ။
၇။ လက္ခဏစိတြတ္ထယောဇနာ။
၈။ လက္ခဏစိတြတ္ထဋီကာ။
၉။ ပထပူရဏီ။
၁၀။ အတိစိတြဂန္ထိရတ္ထမ္ဗပရိတ်များ။
၁၁။ သတိပဋ္ဌာနသုတ္တန္တဒေသနာ။
၁၂။ ဝိမ္ဟယဝိသဇ္ဇနာ။
၁၃။ ဝိပဿနာဉာဏတန္တိ။
၁၄။ ဂုဏ်တော်ဖွင့်ဘုရားရှိခိုးအမျိုးမျိုး။
၁၅။ စေတီ ဖျက်ထိုက်မဖျက်ထိုက်အဖွင့်။
၁၆။ ဗုဒ္ဓသရိက္ခစာတမ်း။
၁၇။ အမြိတောဒကစာတမ်း။

၁၈။ မဟာဝဇိရဉာဏာနုနယဝိသဇ္ဇနာ အလင်္ကာပိုဒ်စုံ။
၁၉။ သိမ်မော်ကွန်း။
၂၀။ ရေစက်ချပိုဒ်စုံ။
၂၁။ သံဝေဂပိုဒ်စုံရတုများ။
၂၂။ ကထိန်အမေးအဖြေ ၆-မျိုး။
၂၃။ နတ်ဖိတ်စာတမ်း။
၂၄။ စွယ်တော်သျောင်ရတုခွဲထားနှင့်ယင်းအဖြေ။
၂၅။ ဗောဓိသျောင်ရတုခွဲထားနှင့် ယင်းအဖြေ။
၂၆။ ဝိဘတ်သွယ်အကျယ်။
၂၇။ ဝါဆိုသင်္ကန်းအမေးအဖြေ။
၂၈။ စတုယုဂဝိနိစ္ဆယ။
၂၉။ နိယာမသာရဒီပနီ။
၃၀။ ယထာကြမိကရှုဘွယ်။
၃၁။ သုရာပါနဝိနိစ္ဆယ။
၃၂။ ဂီတသရူပတ္တစာတမ်း။
၃၃။ အစ္ဆရိယာဝတစာတမ်း။
၃၄။ ဥငယ်ရေးနည်း သတ်ပုံလင်္ကာ။
၃၅။ သဒ္ဒတ္ထဘေဒစိန္တာနိသျ။
၃၆။ ပ္ဗဇကာရီကျမ်း။
၃၇။ သက္ကဋုနီတိနိသျ။
၃၈။ ကာလိကလေးပါးအဆုံးအဖြတ်။
၃၉။ နစ္စဂီတသိက္ခာပဒဝိနိစ္ဆယ။
၄၀။ ဒုစရိုက်,သုစရိုက်ခွဲ အကျိုးအပြစ်။
၄၁။ ဋ္ဌုလဝိသဇ္ဇနာစာတမ်း။
၄၂။ သံဝေဇနီယစာတမ်း။
၄၃။ တုလတ္ထယောဇနာ။
၄၄။ စီဝရဝိနိစ္ဆယ။
၄၅။ ပစ္စဝေက္ခဏာယောဇနာ။
၄၆။ ဝိဿာသဂါဟဝိနိစ္ဆယ။
၄၇။ ဝိဝါဒပဟာနစာတမ်း။

၇၀။ တရားနာဖိတ်စာအမျိုးမျိုး။
၇၉။ မဃဒေဝနိဿယ။
၈၀။ လိင်အဆုံးအဖြတ်။
၈၁။ အနုကရအဆုံးအဖြတ်။
၈၂။ ဥပစ္စာယအဆုံးအဖြတ်။
၈၃။ ဗာဟိရကဝါဒဝိဒ္ဒိနီစာတမ်း။

---

## ၁၁၆။ ရှင်မုနိန္ဒာဘိဓဇ (ကျီးသဲဆရာတော်)
(၁၁၇၉-၁၂၅၆)

ကျီးသဲဆရာတော်မှာ စာပေလောကတွင် ထင်ရှားသောဆရာတော်တပါးဖြစ်လေသည်၊ သကရာဇ် ၁၁၇၉-ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၈-ရက် ကြာသပတေးနေ့တွင် ရွှေတောင်မြို့ ကျီးသဲရွာရှမ်းတန်းကလေးရပ်၌ ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်ကင်းဖြစ်၍ အမရပုရမြို့ ရွှေတောင်ဆရာတော်ထံတွင် ရဟန်းအဖြစ်သို့ တက်ရောက်သည်တွင် အရှင်မုနိန္ဒာဘိဓဇဟူသောဘွဲ့ကိုခံယူတော်မူလေသည်။

ထိုနောက် မန္တလေး နေပြည်တော်သို့ကြွရောက်၍ မောင်းထောင်သာသနာပိုင်ဆရာတော်၊ခင်မကန်ဆရာတော်၊ ရွှေတိုက်ဝန်ဆရာတော်ကြီးများထံ၌ ပိဋကတ်ကျမ်းဂန်များကို ဆည်းပူးသင်ကြားတော်မူလေသည်။

ထိုနောက် ၁၂၅၅-ခုနှစ်တွင် ဟသ်ာတမြို့သို့ ကြွရောက်သီတင်းသုံးတော်မူ၍ တဖန် ရွှေတောင်မြို့သို့ပြန်ကြွကာ မင်းကြီးမဟာမင်းလှ မင်းခေါင်ကျော် နော်ရထာဘွဲ့ခံ ဝန်ကြီးဦးမှုံဆောက်လုပ်လှူဒါန်းသော ရွှေတောင်မြို့ ကျီးသဲရွာအရှေ့မျက်နှာရှိ လေးထပ်ကျောင်းကြီးတွင် သီတင်းသုံးကာ စာပေကျမ်းဂန်များကိုပြုစုယင်း ၁၂၅၆-ခုနှစ်တွင်ပျံလွန်တော်မူလေသည်။

ဆရာတော်ပြုစုတော်မူသော စာပေများတွင် အောက်ပါတို့ပါဝင်လေသည်။

၁။ ဇိနတ္ထပကာသနီကျမ်း။
၂။ ကျီးသဲမေတ္တာစာ။

၃။ ဒုဋ္ဌဂါမဏီပြဇာတ်။
၄။ စွယ်စုံကျော်ထင်ပုဏ္ဏာအဖြေကျမ်း။ (နောက်ပိုင်း)
၅။ ပုရာဏ်ဓမ္မဂန်ဖတ်စာ။
၆။ နိဗ္ဗာန်အလင်းပြကျမ်း။
၇။ မဟာဝင်ကျမ်း။
၈။ စစ်ကဲမောင်ထော်လေးရေစက်ချ။
၉။ သဒ္ဒာနုဝိလာသနီ။
၁၀။ အနန္တသုခဒီပနီ။
၁၁။ သဂြိုဟ်နိသျှသစ်။
၁၂။ မင်္ဂလတ္ထဒီပနီဋီကာနိသျ။
၁၃။ ဒိဋ္ဌိဒီပကကျမ်း။
၁၄။ ပဥ္စာဗျာကရဏကျမ်း။
၁၅။ သီလဘေဒပကာသနီ။
၁၆။ ဂန္ထဝံသနိသျ။
၁၇။ ကဗျာသာရတ္ထသင်္ဂဟ။
၁၈။ သီလဘေဒပကာသနီ။
၁၉။ ဝိနည်းငါးကျမ်းပါဠိတော်နိသျ။
၂၀။ မနောရထပူရဏီ။
၂၁။ ဝိမတိစ္ဆေဒဒီပနီ။
၂၂။ ကဝိသာရဆန်းဋီကာနိသျသစ်။
၂၃။ မဟောသရပျို့သစ်။

---

## ၁၁၇။ ရှင်အာလောက (ပဌမ-မြတောင်ဆရာတော်)
(၁၁၈၃-၁၂၅၇)

မြတောင်ဆရာတော်ကို ပုဂံမြို့ ဝက်ကြီးအင်းရွာ၌ ၁၁၈၃-ခုနှစ် နတ်တော်လပြည့်ကျော် ၅-ရက် တနင်္ဂနွေနေ့တွင်ဖွားမြင်သည်၊ ငယ်စဉ်က သင်္ဇာဆရာတော်ကြီးထံတွင် ပညာသင်ကြား၍ ရဟန်းပြုသည်၊ ၁၂၃၆-ခုနှစ်တွင် မင်းတုန်းမင်းကြီးက မန္တလေးတောင်ခြေ၌ မဏိ ဒေသလာရာမမြတောင်တိုက်ကို ဆောက်လုပ်ကိုးကွယ်သည်၊ သမီးတော်

မြတောင်မင်းသမီး (သီပေါဘုရင်၏ မိဖုရားခေါင်ကြီး) အားလည်း ၉-နှစ်ရှယ်ကပင် ကိုးကွယ်စေသည်၊ မြတောင်မင်းသမီးမိဖုရားကြီးဖြစ်သော် ၁၂၄၄-ခုနှစ်၌ မန္တလေးမြို့တော်အနောက်ပြင်၌ *မဏိရတနာရာမ မြတောင်တိုက်ကို ဆောက်လုပ်လှူဒါန်းသည်၊ ဆရာတော်သည် မင်းတုန်းမင်းလက်ထက် အာလောကာဘိဝရ သာသနရက္ခမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်နှင့် သီပေါမင်းလက်ထက်အာလောကာဘိဝရသာသနရက္ခမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်နှင့် အာလောကာဘိဝရအတုလာဓိပတိသီရိ ပဝရမဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်တော်များကိုခံယူရသည်။

ဆရာတော်ကြီးသည်သက်တော် ၇၄-နှစ်အရွယ် ၁၂၅၇-ခုနှစ်တွင် ပျံလွန်တော်မူရာ ရေးသားပြုစုခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ ဗာလာဝတာရစာကိုယ်နိသျ။
၂။ လိင်္ဂမာလာ။
၃။ နာမရူပမာလာ။
၄။ သမာသပဒမာလာ။
၅။ တဒ္ဓိတပဒမာလာ။
၆။ အာချာတပဒမာလာ။
၇။ ကိတပဒမာလာ။
၈။ ဂဏာသံသဂ္ဂဇာတ်စဉ်။
၉။ ရူပပကာသနီ။

---

*ထိုကျောင်းတိုက် အတွက် အရပ်ရပ် ကုန်ကျငွေမှာ ၅၄၇၆၈၅၆-ကျပ်ဖြစ်၏။

ဆရာတော်၏ တပည့်များကား ရှင်ပဏ္ဍဝံသ(ဒုတိယမြတောင်ဆရာတော်) ရှင်သုမန, ရှင်တေဇော, ရှင်ကုမာရနှင့် တံဆိပ်တော်မရ ရှင်ပညာသာမိ, ရှင်ကဝိန္ဒ, ရှင်ကုမာရတို့တည်း။

## ၁၁၈။ ရှင်ဝရစက္က (ဒွါဒသမ ညောင်ကန်ဆရာတော်)

(၁၁၀၄–၁၂၄၇)

*ညောင်ကန်ဆရာတော်ကို ဗဒိုကျေး ညောင်ကန်ရွာတွင် ၁၁၀၄-ခု နှစ်တွင် ဖွားမြင်တော်မူလေသည်၊ ငယ်မည်မှာ ဦးမှော်ဖြစ်လေသည်၊ အရွယ်ရောက်၍ ရဟန်းပြုသော် ရှင်ဝရစက္កဘွဲ့တော်ကို ခံယူလေသည်၊ ဆရာတော်သည် ပြည်ဆရာတော် (နဝမညောင်ကန်ဆရာတော်) ထံ၌ ပညာသင်ကြားတော်မူလေသည်၊ဝိနည်းသိက္ခာကိုဂရုပြုတော်မူလှသော ကြောင့် ရွှေကျင်ဆရာတော်က ထရံကာ တိုက်ကို အပ်နှင်းတော်မူလေ သည်၊ ဆရာတော်သည် ညောင်ကန်ရွာသို့ပြန်၍ သီတင်းသုံးတော်မူလို သော်လည်း မင်းတုန်းမင်းက မေတ္တာရပ်ခံလျှောက်ထားသဖြင့် နေ ပြည်တော်၌ ဆက်လက်သီတင်းသုံးတော် မူရလေသည်၊ ၁၂၄၀-ပြည့် နှစ်တွင်မန္တလေးမြို့မြောက်ပြင်၌ပင်တိုင်စံစလင်းထိပ်ခေါင်တင်ဆောက် လုပ်လှူဒါန်းသော ကျောင်းတော်ကို အလှူခံတော်မူသည်၊ ထိုကျောင်း တော်ကို မဟာတုလွတ်ဘုံသာဝေယန် သမုတ်တော် မူလေသည်၊ မင်းတုန်းမင်းကြီးကဝရစက္ကပါလသီလာလင်္ကာရမဟာဓမ္မရာဇာဓိရာဇ ဂုရုတံဆိပ်တော်ကို ကပ်လှူတော်မူသည်။

ဆရာတော်သည် ၁၂၄၇–ခုနှစ်တွင်ပျံလွန်တော်မူရာ အောက်ပါ ကျမ်းကိုပြုစုတော်မူခဲ့လေသည်။

၁။ ခန္ဓဒေါသဒီပနီ။

---

## ၁၁၉။ ရှင်ဇာဂရ (ရွှေကျင်ဆရာတော်)

(၁၁၀၄–၁၂၅၅)

ရွှေကျင်ဆရာတော်ဟုထင်ရှားသော ဆရာတော်မှာ ရွှေဘိုမြို့တောင် ဖက် လှတောကြီး ငါးရွာအဝင်အပါ ရွှေကျင်ရွာတွင် သက္ကရာဇ် ၁၁၀၄-ခုနှစ်ဝါဆိုလပြည့်ကျော် ၁၂-ရက်နေ့တွင် ဖွားမြင်ခဲ့လေသည်။ ငယ်စဉ်က မဟာဗောဓိ ကျောင်းတိုက်ဆရာတော် ဦးဝရဗုဒ္ဓိနှင့်ဝက်ပါ

---

* ဤဆရာတော်သည်စလင်းမင်းသမီးကိုးကွယ်ခံရသဖြင့်စလင်းဆရာတော်ဟု လည်းထင်ရှားသည်၊ သီပေါမင်းလက်ထက် ဝဇီရဗုဓ ဓဇမဟာဓမ္မရာဇာဓိရာဇ ဂုရုဘွဲ့တံဆိပ်တော်ကိုခံယူရသည်ဟုလည်း အမှတ်အသားရှိသည်။

ကျောင်းဆရာတော်တို့ထံတွင် စာပေပိဋကတ်သင်ကြား တတ်မြောက်ခဲ့လေသည်၊ အရွယ်သို့ရောက်လျှင် ရဟန်းပြုကာ သိလုံးဆရာတော်ထံတွင် စာပေ ဆက်လက်သင်ကြားခဲ့ပြီး ၁၉-ဝါရသောအခါ မင်းတုန်းမင်းတရား၏ပင့်ဆောင်ကိုးကွယ်ခြင်းခံရ၍ မန္တလေးမြို့မြောက်ဖက် ဝိဟာရငါးတိုက်တွင် သီတင်းသုံးတော်မူလေသည်၊ ထိုကျောင်းတိုက်ကိုလည်း မဟာဓမ္မိကာရာမ ရွှေကျင်တိုက်ဟု ခေါ်တွင်လေသည်။

၁၂၃၀-ပြည့်နှစ်တွင်အလုံမြို့,ဗန်းကျီမြို့,တလုပ်မြို့,ရတနာသိယ်မြို့တို့တွင် သာသနာပြုစုတော်မူရန် လွှဲအပ်ခြင်းခံရ၍ ဂိုဏ်းချုပ်,ဂိုဏ်းအုပ်အဖြစ်ဆောင်ရွက်တော်မူပြီး ၁၂၃၃-ခုနှစ်တွင် မဟာဝိသုဒ္ဓါရာမတိုက်ကို အလှူခံတော်မူရလေသည်၊မင်းက ဘွဲ့တံဆိပ် ကပ်လှူတော်မူသော်လည်း မခံယူခဲ့ပေ။

၁၂၃၈-ခုနှစ်တွင်သီဟိုဠ်ကျွန်းသို့ ကြွမည်ပြုရာ မလွန်မြို့ မင်းလှရွာသို့ ရောက်ခိုက် တပည့်များ၏ လျှောက်ထားချက်အရ ဝါးရုံချောင်နွားလန်တောင်တောရတွင် သီတင်းသုံးရပြန်လေ၏၊ ၂တဖန်သီပေါမင်းလက်ထက်တွင် မန္တလေးမြို့သို့ပင့်ဆောင်ကိုးကွယ်ခြင်းခံရ၍ ဇာဂရာဘိဝံသဓဇာသဒ္ဓမ္မဝရဓမ္မသေနာပတိ အတုလာဓိပတိသီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု သာသနာပိုင်ဘွဲ့ကို ကပ်လှူခြင်းခံရသည်၊ ဆရာတော်လက်ခံသည်ဟူ၍အဆိုမရှိချေ။

၁၂၄၆-ခုနှစ်တွင်မင်းကွန်း ငွေတောင်တောရသို့ကြွရောက် ဝါကပ်တော်မူလေသည်၊ဆရာတော်ကြီးသည် သက္ကရာဇ်, မာဂဓမှစ၍ ကျမ်းဂန်တတ်ကျွမ်းတော်မူလေ၏။

ဆရာတော်ကြီးသည် ၁၂၅၅-ခုနှစ် တပေါင်းလပြည့်ကျော် ၇-ရက်နေ့ညတွင်ပျံလွန်တော်မူလေသည်၊ဆရာတော်ကြီး ပြုစုခဲ့သောကျမ်းများတွင်အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ နေတ္တိလီနတ္ထသင်္ဂဟ။
၂။ နေတ္တိဟာရတ္ထဝိဘာဝနီ။
၃။ ရူပဘေဒဝိဘာဝနီ။
၄။ ဂဏာဘေဒဒီပနီ။

၅။ နိဿဂ်ပိနိစ္ဆယ။
၆။ သီမာလင်္ကာရပိနိစ္ဆယ။
၇။ ဒသဓမ္မင်္ကာရအဌကထာ။
၈။ သီလဝိသောဓနီ။
၉။ သာသနဝိသောဓနီ။
၁၀။ ပဋိစ္စသမုပ္ပါဒဒီပနီ။
၁၁။ ဗောဇ္ဈင်္ဂဒီပနီ။
၁၂။ ဝဋ္ဋနာဒီပနီ။
၁၃။ ဝိနယဂရုဒီပနီ။
၁၄။ ဓမ္မာသဓဒီပနီ (၁၂၃၈)။
၁၅။ သြဝါဒါလင်္ကာရကထာ။
၁၆။ ဓမ္မခတ္တိယောဝါဒ။
၁၇။ ကောဝဋ္ဋောဝါဒ။
၁၈။ သီဟဠောဝါဒ။
၁၉။ သန္ဒေသကထာ။
၂၀။ လင်္ကာသာသနဝိသုဒ္ဓိကထာ။
၂၁ ဥပဒေသကထာ။
၂၂။ ယွင်္ဒီကာ။
၂၃။ ဝိနယမရု။
၂၄။ မဟာသိဿကောဝါဒ။
၂၅။ စူဠသိဿကောဝါဒ။
၂၆။ ဂန္ဓာရာဂန္ဓာရမဟာနိဗ္ဗုတကထာ။
၂၇။ ဝိစိတြဝဏ္ဏနာ (အင်္ဂလိပ်ဘာသာပြန်ပြီး)။
၂၈။ သမာသ်ဂဏ္ဍိ။
၂၉။ ဒါရုက္ခန္ဓသုတ်နိသျ။
၃၀။ အဌကထာ ကမ္မဋ္ဌာန်း။
၃၁။ ခတ္တိယောဝါဒ။
၃၂။ ဇရဲတပဝိဿာဒီပနီ။
၃၃။ ပဌမောဝါဒ စာတမ်း။
၃၄။ ဒုတိယောဝါဒစာတမ်း (၁၁၅၄)။

၃၅။ သစ္စာလေးပါးဖွဲ့နည်း။
၃၆။ *ဓမ္မဝိနယစာတမ်း။

## ၁၂၀။ ရှင်ဝဏ္ဏဓဇ (ငွေးတောက်ကုန်းဆရာတော်)
(၁၁၇၆–၁၂၅၄)

ရှင်ဝဏ္ဏဓဇမှာ မင်းတုန်းမင်းလက်ထက်တွင် ထင်ရှားသောဆရာတော်တပါး ဖြစ်လေသည်၊ ၁၁၇၆-ခုနှစ်တွင် တောင်တွင်းကြီးမြို့ အနောက်မြောက် ၁၀-မိုင်ကွာ မြို့သစ်ပိုင် ဝန်ချည်သီးကုန်းရွာတွင် ဦးအောင်ဖြိုး- ဒေါ်နှင်းညိုတို့မှ ဖွားမြင် လေသည်၊ ငယ်မည်မှာ မောင်ရွှေတောင်ဖြစ်လေသည်၊ ငယ်စဉ်က-တောင်တွင်းကြီးမြို့ ရေတိမ်ကျောင်းတွင် ပညာသင်ကြားခဲ့၍ ၃-ဝါမရမီ မန္တလေးမြို့ စံကျောင်းတိုက်တွင် ပညာသင်ကြားနေခိုက်-ပဌမသံဂါယနာတွင် ပါဝင်ဆောင်ရွက်ရလေသည်၊ ဆင်ဖြူမရှင်မိဖုရားကြီးက တောင်တွင်းကြီးမြို့ အရှေ့တောင်ငွေးတောက်ကုန်းရွာအနီး တောအုပ်ကိုရှင်းလင်း၍ဘုံငါးဆင့်ရှိကျောင်းတော် ဆောက်လုပ်လှူဒါန်း၍ မြသပိတ်, ဒေါင်းမြီးယပ်, သလွန်တော်စသည်များကိုလည်း လှူဒါန်းလေသည်။

ဆရာတော်သည် ၁၂၅၄-ခုနှစ်တွင် ပျံလွန်တော်မူရာ ရေးသားပြုစုတော်မူခဲ့သော စာပေများတွင် မေတ္တာစာမှာ ထင်ရှားလျက်ရှိလေသည်။

---

## ၁၂၁။ ရှင်ဂုဏဝါ (လုံးတော်ဆရာတော်)
(၁၁၉+-၁၂++)

လုံးတော်ဆရာတော်မှာ သီပေါမင်းလက်ထက်တွင် ထင်ရှားသောကျမ်းတတ်ဆရာတော်တပါး ဖြစ်သည်၊ ဆရာတော်ကို ဒီပဲယင်းမြို့တွင်

---

* ရွှေကျင်တိုက် ဥပဓေဒကို ၁၂၆၂-ခုနှစ်တွင် ရွှေကျင်ဂိုဏ်း သံဃနာယက ဝိသုဒ္ဓါစာရဓဇမိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရ မန္တလေးမြို့ မဟာဝိသုဒ္ဓါရာမဆရာတော်ရေးသားတော်မူသည်။

မင်းလှသီရိသီဟသူမှတ်စုတွင် ၁၁၀၄-ခုနှစ်ရွှေကျင်ဆရာတော်ဟူ၍အမည်မျပြထားသည်။

ဖွားမြင်သည်၊ မင်းတုန်းမင်းက တိုက်တော်သီးခြားဖြင့် ပူဇော်ကိုးကွယ်၍ ဂုဏာဝါဘိလင်္ကာရ သဒ္ဓမ္မဇောတမဟာဓမ္မရာဇဂုရု ဘွဲ့တံဆိပ်တော်ကို ဆက်ကပ်တော်မူသည်၊ ရတနာသိယ်မြို့ပလိုင်းရွာမတွင် သီတင်းသုံးတော်မူသည်။

ဆရာတော်သည် အောက်ပါကျမ်းများကို ရေးသားတော်မူခဲ့သည်။

၁။ ပကိဏ္ဏကဝိသဇ္ဇနာကျမ်း။ပ-ဒု

၂။ ဩဝါဒ ကထာစာတမ်း။

---

## ၁၂၃။ ရှင်ဝရဏ (ရွှေခုံတိုင်ဆရာတော်)

(၁၁၀၉-၁၂၇၀)

ရွှေခုံတိုင်ဆရာတော်ကို ၁၁၀၉-ခု တော်သလင်း လပြည့်ကျော် ၁၂-ရက်နေ့တွင် ကျောက်မြောင်းစီရင်စု သစ်ဆိမ့်ကြီးရွာတွင် ဖွားမြင်သည်၊ ငယ်စဉ်က သစ်ဆိမ့်ဂိုဏ်းအုပ်ဆရာတော်ထံတွင် စာပေသင်ကြားလျက် သိလုံးဆရာတော်ကြီးကို ကမ္မဝါဆရာပြု၍ ပဉ္စင်းဘောင်သို့ တက်ရောက်သည်၊ ထိုနောက် သာသနာပိုင်ဆရာတော် ဦးဉေယျထံတွင် စာပေပရိယတ္တိကို ဆက်လက်သင်ကြား၍ ရှမ်းကလေးကျွန်းဆရာတော် ဦးနန္ဒထံတွင် ဆက်လက်ဆည်းပူးကာ အမရပုရမြို့သို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူသည်၊ ထိုနောက် ရွှေခုံတိုင်ရွာတွင် သီတင်းသုံးတော်မူသည်၊ မင်းတုန်းမင်းကြီးက ဘွဲ့တံဆိပ်ကပ်လှူတော်မူလိုသော်လည်း ငြင်းပယ်တော်မူလေသည်၊ ၁၂၃၆-ခုနှစ်တွင် ရန်ကုန်မြို့သို့ ကြွတော်မူ၍ ရွှေတိဂုံစေတီတော်မြောက်ဖက် ရေတံခွန်တောရ*မဟာသိဝတိုက်တွင် သီတင်းသုံးတော်မူသည်၊ မဟာဗောဓိသို့ကြွတော်မူ၍ မြစ်ဝကျွန်းပေါ်မြို့များသို့လည်း လှည့်လည်တရား ဟောပြောတော်မူသည်။

---

* ထိုရွှေခုံတိုင် ဆရာတော် သီတင်းသုံးတော်မူရာ တိုက်ကို ရွှေခုံတိုင်ကျောင်းတိုက်ဟူ၍၎င်း ထိုရပ်ကွက်နှင့် လမ်းကိုပါနောင်သော်ရွှေခုံတိုင်ရပ်ကွက် ရွှေခုံတိုင်လမ်း (ယခုရွှေဂုံတိုင်လမ်း)ဟူ၍၎င်း ခေါ်တွင်ခဲ့လေသည်။

ဆရာတော်သည် ၁၂၇၈-ခုသီတင်းကျွတ်လဆုတ် ၃-ရက်နေ့တွင် ပျံလွန်တော်မူရာ ဆရာတော်ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ နေတ္တိဟာရအကောက်ကျမ်း။
၂။ သဒ္ဓမ္မပါလမေဒနီကျမ်း။
၃။ ဥပေါသထဝိသောဓနီကျမ်း။
၄။ ပညာဝဓုံနသင်္ဂြိုဟ်ဖွင့်နည်းကျမ်း။
၅။ ဓမ္မောသဓ ဝိသောဓနီကျမ်း။
၆။ ကာလဝိမုတ်အဆုံးအဖြတ်ကျမ်း။
၇။ ရာဇဝင်ချုပ်။

## ၁၂၄။ ရှင်သုဇာတ (မိုးထားဆရာတော်)

(၁၁၉၁-၁၂၆၅)

မိုးထားဆရာတော်မှာ သာယာဝတီမင်းလက်ထက်၌ ထင်ရှားသောဆရာတော် တပါးဖြစ်သည်၊ ၁၁၉၁-ခုနှစ်တွင် ဖွားမြင်သည်၊ လယ်ကိုင်းဆရာတော်၏ တပည့်ဖြစ်သည်၊ သာယာဝတီမင်းလက်ထက်တွင် ကလျာဏာဘိဝံသသဒ္ဓမ္မဇမဟာဓမ္မရာဇဂုရုဘွဲ့နှင့် မင်းတုန်းမင်းကြီးလက်ထက် သုဇာတာဘိသိရိဓဇမဟာဓမ္မရာဇဂုရုတံဆိပ်နှင့်သီပေါမင်းလက်ထက် သုဇာတာတိသိရိဓဇဓိပဓိပဝရမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်များ ဆက်ကပ်ခြင်းခံရသည်၊ မိုးထားဝန် ဆောက်လုပ်လှူဒါန်းသောကျောင်းတော်တွင် သီတင်းသုံး၍ မိုးထားဆရာတော်ဟုတွင်၏၊ ၁၂၆၃-ခုနှစ်တွင် မဟာသံဃရာဇာသာသနာပိုင်အဖြစ် တင်မြှောက်ခြင်းခံရ၍ ၁၂၆၄-ခုနှစ်တွင် ပျံလွန်တော်မူသည်၊ ဆရာတော်ပြုစုတော်မူသောကျမ်းများအနက် ဝိနယရာသီကျမ်းကားထင်ရှား၏။

## ၁၂၅။ ရှင်ကဝိဓဇ

(၁၁၉၂-၁၂၉၉)

ရှင်ကဝိမှာ သီပေါမင်းလက်ထက်ထင်ရှားသော လောကုတ္တရာကျမ်းပြုဆရာတော်တပါးဖြစ်လေသည်။

ရှင်ကဝိကိုသက္ကရာဇ် ၁၁၉၂-ခုနှစ်ကွင်မိတ္ထီလာကန်တော်အောက် ခြောက်ပင်ရွာ၌ ဦးမြ-ဒေါ်ဖွေးတို့မှ ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်ရွှေမင်းဖြစ်လေသည်၊ ငယ်စဉ်က သိမ်ကျောင်းဆရာ ရှင်ပဏ္ဍိစ္စထံတွင် စာပေသင်ကြားကာ အသက် ၂၀-တွင် ရှင်ကဝိဇေဘွဲ့ဖြင့် ရဟန်းဘောင်သို့တက်ရောက်လေသည်။

၃-ဝါအရတွင် မန္တလေးမြို့သို့ကြွ၍ ဘုရားကြီး ဆရာတော်ထံ၌ ပညာဆက်လက်ဆည်းပူးကာ စာပေပို့ချနေပြီးနောက် ဇာတိခြောက်ပင်ရွာသို့ပြန်ကြွလေသည်၊ ထိုနောက် ၁၂၃၃-ခုနှစ်တွင် လူဝတ်လဲရာ ဦးကဝိဟူ၍ပင်တွင်လေသည်။

ဦးကဝိသည် ၁၂၆၉-ခုသီတင်းကျွတ်လဆန်း ၁၄-ရက်နေ့တွင် ကွယ်လွန်ရာ ပြုစုခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ မဃဒေဝတိရယ်(ဋီကာကျော်ယောဇနာ)။
၂။ သဂြိုဟ်ယောဇနာ။
၃။ မိလိန္ဒပဉှာပါဠိတော်နိသျ။
၄။ ဗုဒ္ဓဝင်ပါဠိတော်နိသျ။
၅။ ဘုရားကြီးနိယံအဖြေ။
၆။ ကမ္မဝါ ၉-ခန်းနိသျ။
၇။ နမက္ကာရနိသျ။

---

## ၁၂၆။ ရှင်ပညာသီရိ (ဝဇီရာရာမဆရာတော်)
(၁၁၉၂-၁၂၇၀)

ဝဇီရာရာမ ဆရာတော်ကို ၁၁၉၂-ခုနှစ် တော်သတင်းလဆန်း ၂-ရက်နေ့တွင် တပယင်းမြို့ကျေး ချမ်းသာရွာ သွေးသောက်စုအပါအဝင် ကုန်းသာရွာတွင် ဖွားမြင်တော်မူသည်၊ ငယ်စဉ်က ကုန်းသာရွာဝါဆိုကျောင်းတိုက် ရှင်ကလျာဏဓဇထံတွင်စာပေသင်ကြား၍အရွယ်ရောက်သော် ရှင်ပညာသီရိဘွဲ့ဖြင့် သာမဏေဘောင်သို့ တက်ရောက်လေသည်၊ ထိုနောက် ထန်းကြီးရွာ မဟာရုံကျောင်း ရှင်ဝိမလဗုဒ္ဓိထံတွင်ဆက်လက်ပညာသင်ကြားပြီးနောက် ၁၂၀၉-ခုနှစ်တွင် အမရပုရမြို့မြောက်ဖက် ပုဇွန်ချောင်အရပ်၌ ရှင်အဂ္ဂဓမ္မမထေရ်ထံတွင် ဆက်

လက်ဆည်းပူးလျက် ရဟန်းဘောင်သို့တက်ရောက်၍ ရှမ်းမကားရွာ တောင်ဖက် သရက်ချောင်တောရတွင် သီတင်းသုံးတော်မူသည်၊ ထို နောက် စဉ့်ကူးမြို့နယ် ခက်သင်ရွာ သိလုံးဆရာတော် ရှင်စန္ဒိမာ လင်္ကာရထံတွင် ဆက်လက်ပညာဆည်းပူးလေသည်။

ထိုနောက် ဇာတိ တပယင်းရွာ, ပလိပ်ရွာ, ကျောက်အိုးတောရ, စစ်ကိုင်းမြို့လောကမှန်ကင်းကျောင်း, အင်းဝမြို့ နမောကျောင်းတို့တွင် သီတင်းသုံးပြီးနောက် ဆရာရှင်အဂ္ဂဓမ္မထေရ် (သင်္ဂဇာဆရာတော်) အား မင်းတုန်းမင်းကြီးက အဂ္ဂဓမ္မာလင်္ကာရ ကဝိဓဇမဟာဓမ္မရာဇာ ဓိရာဇဂုရုတံဆိပ်တော်ကပ်လှူ၍ ရတနာပုံနေပြည်တော် ပတ္တူကြီး သယ် ရာဇာတည်ထောင်ရင်း ကျောင်းသို့ပင့်ဆောင်သောအခါ အတူလိုက် ပါသွားလေသည်၊ ထိုနောက် သုသီရိမဟာရတနာဒေဝီဘွဲ့ခံ စလေနှင့် တလုပ်မြို့စား စိန်တုန်းမိဖုရားက ၁၂၂၀-ခုနှစ်တွင် မြို့တော်အရှေ့ မြောက်ယွန်း ဝဇီရာရာမတိုက်၌ မင်္ဂလာရတနာဘုံစံကျောင်းတော်ကြီး ကို ပြင်ဆင်ဆောက်လုပ်၍ လှူဒါန်းလေသည်၊ မင်းတုန်းမင်းကြီးက လည်း ပညာဘိသီရိသဒ္ဓမ္မကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော် ကိုကပ်လှူတော်မူလေသည်၊ ထိုကျောင်းတိုက်တွင် ၁၅-ဝါသီတင်းသုံး တော်မူပြီးနောက် မင်းကွန်းနံ့သာချောင်တွင် တရားအားထုတ်တော် မူလေသည်၊ ၁၂၄၇-ခုနှစ်တွင် ရန်ကုန်မြို့သို့ကြွတော်မူ၍ ဆရာသင်္ဂဇာ ဆရာတော်ဘုရားကြီးသီတင်းသုံးရာ မော်လမြိုင်မြို့သို့ ဆက်လက်ကြွ ရောက်သီတင်းသုံးတော်မူလေသည်၊ မော်လမြိုင်မြို့တွင် ရတနာဘုံမြင့် ကျောင်းကိုအလှူခံတော်မူ၍ ပဋ္ဌမပြန်စာမေးပွဲများကို စတင်ကျင်းပ တော်မူသည်၊ သီဟိုဠ်ကျွန်းသို့ကြွတော်မူပြီးနောက် ၁၂၅၃-ခုနှစ်တွင် မော်လမြိုင်မြို့သို့ ပြန်လည်ရောက်ရှိတော်မူ၍ ၁၂၆၀- ပြည့်နှစ်တွင် တကြိမ်,၁၂၆၂-ခုနှစ်တွင်တကြိမ် သီဟိုဠ်သို့ အကြိမ်ကြိမ်ကြွတော်မူ လေသည်။

ဆရာတော်ကြီးသည် ၁၂၇၀-ပြည့်နှစ် တပို့တွဲလဆုတ် ၃-ရက်နေ့ တွင် ပျံလွန်တော်မူရာ ရေးသားစီရင်တော်မူသော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်သည်။

၁။ ဓမ္မဒီပနီ။

၂။ ဒွတ္တိံသ ကာယ ဒီပက။

၃။ ဝေဿန္တရဇာတကာလင်္ကာရကျမ်း။
၄။ သိဿကောဓါဒကျမ်း။
၅။ မဟာနမက္ကာရဗုဒ္ဓဝန္ဒနာကျမ်း။
၆။ လက္ခဏရသပစ္စုပဋ္ဌာန်ပဒဋ္ဌာန်ဝိနိစ္ဆယဂါထာနိသျ။
၇။ သုတ်ဝိနည်းအဘိဓမ္မာမာတိကာနိဒါန်း အမေးအဖြေကထာ။
၈။ အနတ္တလက္ခဏသုတ်ပါဠိတော်နိသျ။
၉။ ဝိဝဋ္ဋနိဿိတဒါနဝိနိစ္ဆယ။
၁၀။ ဝိသုံဂါမသီမဝိနိစ္ဆယ။
၁၁။ ဒသသီလဝိနိစ္ဆယ။
၁၂။ မာဂဓိသန္ဒေသကထာ။
၁၃။ ဗုဒ္ဓဝန္ဒနာဂါထာပါဌ်နိသျ။
၁၄။ ဒ္ဒယသီလဒါနာဒိဝိနိစ္ဆယ။
၁၅။ အာဠာနာဋိယသုတ်နိသျသစ်။

---

## ၁၂၇။ ရှင်သီလ (တောရဆရာတော်)
### (၁၁၉၄–၁၂၆၉)

ရှင်သီလကို ၁၁၉၄-ခုနှစ် နတ်တော်လဆန်း ၈-ရက်နေ့တွင် ပဲခူးမြို့မြောက်ဖက်အထက်ဇိုင်းဂနိုင်းကျေးရွာ၌ ဦးထွန်းအောင်-ဒေါ်ချိတို့မှဖွားမြင်သည်၊ ငယ်မည်မှာမောင်ရွှေသာဖြစ်သည်၊ ငယ်စဉ်ကကော့ပြင်းရွာဘုန်းတော်ကြီး ဦးမှူးထံတွင် စာပေသင်ကြား၍ သာမဏေပြုသော် ရှင်သီလသာရဘွဲ့ခံယူသည်၊ အရွယ်ရောက်လျှင် ကျိုက်ဒေယျံကုန်းသိမ်တော်၌ ရဟန်းခံ၍ ထောင့်ကျောင်းဘုန်းကြီးရှင်စန္ဒာလင်္ကာရထံ၌ ဆက်လက် စာပေသင်ကြားလေသည်၊ ရဟန်း ၅-ဝါ ရလျှင် ရန်ကုန်မြို့ ပုဇွန်တောင် တောင်လုံးပြန် ရွှေကြက်ယက် ဘုန်းတော်ကြီး ဦးမေဓာထံ၌၎င်း၊ ပဲခူးကလျာဏီ တောရဘုန်းတော်ကြီး ဦးဝဏ္ဏထံတွင်၎င်း၊ စစ်ကိုင်း ပိတောက်ချောင် တောင်ရိုး အရိယဝံသ ရေငုံတိုက်၊ မန္တလေးမြို့စလင်းတိုက်များတွင် စာပေသင်ကြားလေသည်။

၁၂၂၂-ခုနှစ်တွင် နေရပ်သို့စုန်ဆင်းခဲ့၍ ကျိုက်ပတိုင်၊ ကုန်းတန်း၊ ဂျကုန်းတို့၌ တောရဆောက်တည်တော်မူသည်၊ ထိုနောက် ဆရာတော်

ဦးဝဏ္ဏနှင့်အတူလိုက်ပါကာတောရဆောက်တည်လေသည်၊ပဲခူးတောရ ဂိုဏ်းမှဝိနည်းစာပြန်ပွဲများကို၁ ၂၃၃-ခုနှစ်မှစတင်ကျင်းပခဲ့လေသည်။ ဆရာတော်သည် နိုင်ငံအရပ်ရပ်သို့ လှည့်လည်၍တရားဟောပြောတော် မူလေသည်၊ ဝိနည်းသိက္ခာ အထူးတင်းကြပ်စွာ စောင့်စည်းတော်မူ၍ ဘုန်းကြီးလှသည်ဆို၏၊ဆရာတော်သည်ညောင်လေးပင်တောရကျောင်း တိုက်တွင် သီတင်းသုံးတော်မူလေသည်၊ညောင်တုံးမြို့ ရွှေဟသ်ာတောရ တိုက်ကိုလည်း တည်ထောင် ပြုစုတော် မူလေသည်၊ ဆရာတော်သည် ၁၂၆၉-ခုနှစ် ကဆုန်လဆုတ် ၄-ရက်နေ့တွင် ပျံလွန်တော်မူလေသည်၊ တောရဘုန်းတော်ကြီး ဦးသီလဟုထင်ရှားသည်။

---

## ၁၂၈။ ရှင်သုမန(ပဥ္စမတောင်တွင်းဆရာတော်)
(၁၁၉၅–၁၂၇၆)

ရှင်သုမနမှာ-မင်းတုန်းမင်း လက်ထက်တွင် ထင်ရှားသောကျမ်းပြု ဆရာတော်တပါးဖြစ်လေသည်။

သကရာဇ် ၁၁၉၅-ခုသီတင်းကျွတ်လဆန်း ၇-က်နေ့တွင် တောင် တွင်းကြီးနယ်မြို့လုလင်ရွာ၌ဦးကုလား-ဒေါ်ရွက်တို့မှဖွားမြင်လေသည်၊ ငယ်စဉ်က တောင်တွင်းကြီး အရှေ့မြောက် ဒန့်ဒလွန့်ပင်ရွာ မဂ်လာ ရာမလေသာတိုက်တွင် ပဥ္စင်းဘောင်သို့တက်ရောက်၍မန္တလေးမြို့,အမရ ပုရမြို့များတွင် စာပေသင်ကြား၍ မန္တလေးမြို့စံကျောင်းတွင် ခေတ္တ သီတင်းသုံးကာ-တောင်တွင်းကြီးမြို့သို့ ပြန်၍ သီတင်းသုံးတော်မူလေ သည်၊ ဓမ္မာစရိယ ဂိုဏ်းထောက်ဆရာတော် အဖြစ် မင်းတုန်းမင်းက ပူဇော်ချီးမြှောက်လေသည်။

ဆရာတော်မှာ ခင်ကြီးဖျော်၏မြေးတော်၍ ကျမ်းဂန်နှံ့စပ်လေသည်၊ ၁၂၇၆-ခုနှစ်တွင် ပျံလွန်တော်မူရာ ကျမ်းပေါင်း ၃၀-ကျော် ပြုစုခဲ့ သည်ဟု သိမှတ်ရလေသည်၊ ထိုကျမ်းများအနက် ကင်းဝန်မင်းကြီး၏ ပုစ္ဆာဆယ်ချက်ကိုဖြေဆိုတော်မူသော ပုစ္ဆာဝိသဇ္ဇနာဒီပနီမှာ ထင်ရှား လေသည်။

---

## ၁၂၉။ ရှင်ဝိသုဒ္ဓါစာရ (ဝိသုဒ္ဓါရုံဆရာတော်)
(၁၂၀၀-၁၂၇၈)

ဝိသုဒ္ဓါရုံဆရာတော်ကို ၁၂၀၀-ပြည့်နှစ် ဝါဆိုလဆန်း ၁၃-ရက်နေ့တွင် ရွှေဘိုစီရင်စု သရိုင်နယ် စမွန်းရွာတွင် ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ရွှေမောက်ဖြစ်သည်၊ ၁၂၁၉-ခုနှစ်တွင် ရွှေကျင်ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းခံရာ ရှင်ဝိသုဒ္ဓါစာရဘွဲ့ကို ခံယူသည်။

ရွှေကျင်ဆရာတော်ကြီးသည် ၁၂၅၆-ခုနှစ်တွင် ပျံလွန်တော်မူရာ ရွှေကျင်ဂိုဏ်း, တောရဂိုဏ်းများကို အုပ်ချုပ်ရန် သမုတိ သာသနာပိုင်တင်မြှောက်ခြင်းခံရလေသည်၊ ၁၂၆၅-ခုနှစ်တွင် မန္တလေးမြို့အနောက်ပြင် ဝိသုဒ္ဓါရုံတိုက်သစ်သို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူသည်။

ဆရာတော်သည် ၁၂၇၈-ခုနှစ် ဝါဆိုလဆန်း ၈-ရက်နေ့တွင် ပျံလွန်တော်မူသည်၊ (ဆရာတော်လွန်သော် ကျီကွက်စံဆရာတော်နှင့် ဒီပဲရင်း ဆရာတော်နှစ်ပါးကို ပူးတွဲ၍သမုတိ သာသနာပိုင် တင်မြှောက်သည်။)

ဆရာတော်သည် အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ ဝိသုဒ္ဓါရုံကစ္စည်းသုတ်နက်
၂။ ဆိဒ္ဓပိဓာနနီ။
၃။ ဝိသုဒ္ဓါရုံပုဒ်စစ်ဂဏ္ဌိ။
၄။ ဝိနယကောသလ္လ။
၅၊ ခါတွတ္တသင်္ဂဟပါဠိနိဿယ။
၆။ ဆန္ဒောမဉ္ဇရီ။
၇။ ဂိဟိဝိနယစာတမ်း။
၈။ ဝိသုဒ္ဓါရုံအဆုံးအဖြတ်။
၉။ မုဒ္ဒိဗောဓနိဿယ။
၁၀။ မခုသာရတ္ထသတ်ပုံကျမ်း။
၁၁။ နေတ္တိဟာရတ္ထဒီပနီသစ်။
၁၂။ ဒေါင်းမေတ္တာစာ။
၁၃။ သမ္ဗန္ဓဆက္က သံဝဏ္ဏနာ။
၁၄။ ဂိဟိစာရိတ္တကျမ်း။
၁၅။ ပရမတ္ထသရူပဘေဒနီ။
၁၆။ မုစ္စနဂ်ပကာသနီ။
၁၇။ သမင္ဆဒေါသဒီပနီ။
၁၈။ ရွှေကျင်ဝံသာနုရက္ခ။
၁၉။ ရွှေကျင်နိကာယ စာရိတ္တဥပဒေသ။
၂၀။ သတ်ပုံသစ်သံခိပ်။
၂၁။ ပါဒစက္ကစေတိယ ဝဏ္ဏနာ။
၂၂။ ဆဗ္ဗဏ္ဏရံသိဝဏ္ဏနာ။
၂၃။ သံဝါသဒီပနီ။
၂၄။ ပရိဝါသဝိနိစ္ဆယ။
၂၅။ ဉာဏောဒယစာစပ်ကျမ်း။

၂၆။ သဒ္ဒတ္ထဘေဒစိန္တာ ဂဏ္ဌိပဒ။
၂၇။ ဝိဇ္ဇာဓိုရ်ကဗျာဗန္ဓကျမ်း။
၂၈။ ရှင့်ကျင့်ဝတ်သစ်။

---

## ၁၃၈။ ရှင်ဇာဝန (မန်လည်ဆရာတော်)

(၁၂၀၃-၁၂၈၁)

မန်လည်ဆရာတော်မှာ ကသာစီရင်စုအင်းတော်ကြီးမြို့နယ် မန်လည်ရွာကျောင်းတွင် သီတင်းသုံးတော်မူခဲ့သော ဆရာတော်ဖြစ်လေသည်၊ ဘွဲ့တော်မှာဦးဇာဝနဖြစ်၍ငယ်မည်မှာ မောင်မာဖြစ်လေသည်၊ သကရာဇ် ၁၂၀၃-ခုနှစ်တွင် မန်လည်ရွာ၌ပင် သစ်ကုန်သည်ကြီး ဦးတင်ညို-ဒေါ်မြေတို့မှဖွားမြင်သည်။

အသက် ၃-နှစ်အရွယ်တွင် ဘခင်ကွယ်လွန်၍ အသက် ၁၂-နှစ်တွင် ဝန်းသိုမြို့တောင်ပေါ်ကျောင်း ဘုန်းကြီး ဦးပန်းအောင် ထံတွင် စာပေသင်ကြားသည်၊ အသက် ၂၀-တွင် ရဟန်းပြု၍ စာပေပိဋကတ် သက္ကတ,မာဂဓဘာသာများနှင့် ပျို့ကဗျာလင်္ကာများကိုသင်ကြား တတ်မြောက်တော်မူသည်။

ဆရာတော်သည် ဆုတောင်းစာ, သံချို, ရတု, ဟောစာ, လေချိုး, သဖြန့်, ဘုရားရှိခိုးစသည် စာပေကဗျာလင်္ကာများကို ရေးသားခဲ့၍ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကြီး တစောင်ဖြင့်ပင်လျှင် ကဗျာ ပါရဂူဟု မည်တွင်ထိုက်သော ဂုဏ်စွမ်းကိုပြသတော် မူခဲ့လေသည်၊ ကျမ်းပေါင်းများစွာပြုစုတော်မူခဲ့၍ ၁၂၇၉-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကပ်လှူပူဇော်ခြင်းခံရလေသည်။ ၁၂၈၁-ခုနှစ် ဝါဆိုလတွင် ပျံလွန်တော်မူသည်။

ပုဗ္ဗာဝိသဇ္ဇနာကျမ်းများနှင့် သုတ်ပါဠိတော် နိဿယအမျိုးမျိုး ကျမ်းပေါင်း ၃၀-ကျော်မျှကို ဆရာတော်ရေးသားပြုစုတော်မူခဲ့ရာ သို့ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ပဥ္စပတ္တာလီသ ပုဗ္ဗာဝိသဇ္ဇနာ။
၂။ သတပဒိက ပုဗ္ဗာဝိသဇ္ဇနာ။
၃။ ဝဇိရဗုဒ္ဓိဋီကာသော ဓနကျမ်း။

## ၁၃၁။ ရှင်ပဏ္ဍိတ (မိုင်းနိုင်းဆရာတော်)

(၁၂၀၄-၁၂၆၁)

ရှင်ပဏ္ဍိတကို အောက်ချင်းတွင်းနယ် ရွှေအခေါ်ဗဒိုံ ယခုအခေါ် အလုံနယ် သာစည်ရွာတွင် ၁၂၀၄-ခုနှစ်တပေါင်းလပြည့်ကျော်၁-ရက် နေ့တွင်ဖွားမြင်လေသည်၊ မိဘတို့မှာသူကြီးရိုးပင်ဖြစ်လေသည်၊အသက် ၁၇-နှစ်အရွယ်တွင် မင်းကွန်းမြောက်ဖက် အုန်းသဇင်ရွာ ဇာနုသာလ တောကျောင်းနေ စံကျောင်းဆရာတော်ကြီးထံတွင် စာပေသင်ကြား၍ ၁၂၂၄-ခုနှစ်တွင် ဆင်ဖြူမရှင်မိဖုရားကြီးက ရဟန်းဒါယိကာခံကာ ရဟန်းဘောင်သို့ ပို့ဆောင်ခြင်းခံရသည်၊စံကျောင်းတိုက်တွင်စာချအဖြစ် သီတင်းသုံးတော်မူရာ ၁၂၄၆-ခုနှစ်တွင် ပဏ္ဍိတဓဇသိရိပဝရမဟာ ဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော်ကို ကပ်လှူခြင်းခံရသည်၊ စံကျောင်း ဆရာတော်ကြီးပျံလွန်တော်မူသောအခါ စံကျောင်းတိုက်တွင် ဆက်လက် သီတင်းသုံး၍ ၁၂၅၄-ခုနှစ်တွင် စလင်းမြို့သူကောင်းကြီးကပင့်သဖြင့် မြို့မငါးစဉ်စံကျောင်းကို အလှူခံတော်မူသည်၊ ၁၂၅၇-ခုနှစ်တွင် မြို့သစ် မြို့စားမင်းကြီးမဟာဇေယျသင်္ကြိုက လျှောက်ထားသဖြင့် ရွှေရေးဆောင် တိုက်တွင် သီတင်းသုံးတော်မူသည်၊

မိုင်းနိုင်းဆရာတော်သည် ၁၂၆၁-ခုနှစ် တပေါင်းလပြည့်ကျော် ၁၃-ရက်နေ့တွင် ပျံလွန်တော်မူလေသည်၊ ဆရာတော်သည်အောက်ပါ ကျမ်းများကိုပြုစုတော်မူခဲ့လေသည်။

၁။ ဝိထိပုံ, သိမ်ပုံ, ဆန်းပုံ။
၂။ တိပေဋကဝိနိစ္ဆယကျမ်း ပဌမတွဲ။
၃။ ၎င်းဒုတိယတွဲ။

---

## ၁၃၂။ ရှင်ဝိစာရ (မင်းကျောင်းဆရာတော်)

(၁၂၀၄-၁၃၀၁)

မင်းကျောင်း ဆရာတော်ကို ၁၂၀၄-ခုနှစ် ပဌမဝါဆိုလဆန်း ၁၁-ရက်ဗုဒ္ဓဟူးနေ့တွင် မြင်းခြံခရိုင်တောင်သာမြို့အပိုင်ရွာသစ်ကြီးရွာ

ဦးလမ်း-ဒေါ်မင်းသာတို့မှဖွားမြင်သည်၊ ငယ်မည်မှာမောင်ရွှေဝဖြစ်၏၊ အသက် ၁၄-နှစ်အရွယ်တွင် ရှင်ဝိစာရဘွဲ့ဖြင့်သာမဏေပြု၍ ပျော်ဘွယ်ရွာဆရာတော်ဦးပိုင်းထံတွင် ပညာသင်ကြားသည်၊ ထိုနောက်မြင်းခြံမြို့ မင်းကျောင်းဆရာတော်၏ ဦးသုဇာတထံတွင် ဆက်လက်ပညာသင်ကြား၍ အရွယ်ရောက်လျှင်ရဟန်းပြုသည်၊ ထိုနောက် မန္တလေးမြို့ စံကျောင်းဆရာတော်ထံတွင် ပညာဆက်လက်သင်ကြားပြန်၍စံကျောင်းဝင်းအတွင်း၌သီတင်းသုံးကာ စာပေများပို့ချတော်မူသည်၊ (မိုင်းခိုင်းဆရာတော်, လယ်တီဆရာတော်, တောင်ခွင်ဆရာတော်တို့နှင့် စာသင်စာချဖက်ဖြစ်၏၊) ထိုနောက် မင်းကျောင်းဆရာတော်ထံသို့ ပြန်လည်၍ ဆည်းကပ်တော်မူလျက် စာပေသင်ကြားပို့ချနေရာ ဆရာတော်ပျံလွန်သော် တောင်တော်သာသနာပိုင်က ရှင်ဝိစာရအား မြင်းခြံမြို့နယ်ဂိုဏ်းအုပ်အဖြစ် ခန့်ထားတော်မူသည်၊ ၁၂၇၀-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ကပ်လှူခြင်းခံရ၍ ၁၂၀၉-ခုနှစ်တွင် မြင်းခြံမြို့မှ မြစ်စဉ်တလျှောက် ၁၂-မြို့ဂိုဏ်းချုပ်ခန့်အပ်တော်မူခြင်းခံရသည်။

ဆရာတော်သည် ၁၃၀၁-ခု ဒုတိယဝါဆိုလပြည့်ကျော် ၅-ရက်နေ့တွင် ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ ပဒဝေါဟာရကျမ်း။
၂။ သဒ္ဒတ္ထဂဏ္ဌိကျမ်း။
၃။ အဘိဓမ္မတ္ထသင်္ဂဟဂဏ္ဌိကျမ်း။
၄။ သီမနိမိတ္တကိတ္တနကျမ်း။

---

## ၁၃၃။ ရှင်အာစာရ (ဒက္ခိဏာရာမဆရာတော်)
## (၁၂၀၅–၁၂၀၇)

ဒက္ခိဏာရာမဆရာတော်ကို မိတ္ထီလာနယ် ကဖြူရွာတွင် ၁၂၀၅-ခုနှစ် တပို့တွဲလပြည့်ကျော် ၈-ရက်နေ့၌ ဦးပို-မယ်ရှိတို့မှ ဖွားမြင်သည်၊ ၁၂၂၀-ခုနှစ်တွင်ရဟန်းပြုတော်မူသည်၊ ပဌမဒက္ခိဏာရာမဆရာတော် ရှင်ဇာဂရမှာ ဥပဇ္ဈာယ်ဆရာဖြစ်သည်၊ ဘွဲ့တော်မှာရှင်အာစာရဖြစ်

လေသည်၊ဆရာတော်သည်ပဏ္ဍိတာဘိသီလာလင်္ကာရမဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်တော်ရ ဆရာတော်ဦးမင်းထံတွင်လည်း စာပေသင်ကြား ခဲ့ဘူးလေသည်၊ ပွဲစားကြီးဦးကျော် ဆောက်လုပ်လှူဒါန်းသော အုတ် ကျောင်းကို အလှူခံတော်မူသည်၊ ထိုနောက်မန္တလေးမြို့တောင်ပြင်ဒက္ခိ ဏာရာမကျောင်းတွင် ဆက်လက်သီတင်းသုံးတော်မူသည်။

ဆရာတော်သည် ၁၂၇၇-ခုနှစ်တန်ဆောင်မုန်းလဆန်း ၁၄-ရက် နေ့တွင် ပျံလွန်တော်မူသည်။

---

## ၁၃၄။ ရှင်ပဏ္ဍဝံသ(ဒုတိယမြစ်တောင်ဆရာတော်) (၁၂၀၅-၁၂၈၀)

မြစ်တောင်ဆရာတော်မှာ သီပေါမင်းလက်ထက်တွင် ထင်ရှားသော ဆရာတော်တပါးဖြစ်လေသည်။

သကရာဇ် ၁၂၀၅-ခုတပို့တွဲလပြည့်ကျော် ၅-ရက် ကြာသပတေး နေ့တွင် မန္တလေးအနောက်ပြင် ရေဝတီမြစ်လယ်ရှိအာလောင်ကျွန်း၌ ဖွားမြင်လေသည်။

အသက်၁၆-နှစ်အရွယ်တွင်စာပေထူးချွန်၍သာမဏေဝတ်ပြီးနောက် သင်္ဂဇာဆရာတော်ထံ၌ ပညာဆက်လက်သင်ကြားကာ ရဟန်းဘောင် သို့တက်၍ စာပေပို့ချနေခဲ့လေသည်၊ ထိုနောက် စံကျောင်းဆရာတော်, ရွှေကျင်ဆရာတော်, စလင်းဆရာတော်,မဟာဗိုလ်ဆရာတော်, မြို့ပြင် ကြီးဂိုဏ်းအုပ်ဆရာတော်တို့ထံတွင် ပညာဆက်လက် ဆည်းပူးပြန်လေ သည်။

ထိုနောက် မင်းကွန်းဥဒုမ္ဗရချောင်၌ သီတင်းသုံးနေခဲ့ပြီး အောက် မြို့ကျေးရွာများသို့ကြွတော်မူရာ ရွှေကျင်ဆရာတော်နှင့်တွေ့၍ ရန်ကုန်မြို့ ရွှေတိဂုံစေတီတော်အရှေ့ဖက်ရှိ ကျောင်းတော်ရာတိုက်၌ တဝါသီတင်း သုံးတော်မူလေသည်၊ ထိုနောက် သီပေါမင်းက ပင့်ဆောင်သဖြင့် မန္တလေးမြို့သို့ပြန်ကြွလာကာ မင်းကွန်းချောင်၌ သီတင်းသုံးတော်မူ လေသည်၊ထိုနောက်မှ မိဖုရားခေါင်ကြီးက မဏိရတနာရာမမြစ်တောင် တိုက်ကို လှူတော်မူ၍ ပဏ္ဍဝံသာဘိဓဇမိပတိပဝရ မဟာဓမ္မရာဇာဓိ-

ရာဇဂုရု ဘွဲ့တံဆိပ်တော်ကိုကပ်လှူလေသည်၊ထိုအခါမှစ၍ * ဒုတိယ မြတောင်ဆရာတော်ဟုတွင်လေသည်။

ဆရာတော်သည် ၁၂၄၈-ခုနှစ် ကဆုန်လတွင်ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ ဓာတုမဉ္ဇူသာ။
၂။ ဓာတွတ္ထဒီပနီဋီကာ။
၃။ ဆန်းဋီကာ။
၄။ ပညတ်နက်ကျမ်း။
၅။ သတပဒီကပုစ္ဆာဝိသဇ္ဇနာကျမ်း။ (၁၂၄၃)

## ၁၃၅။ ရှင်သာသန (ကျောင်းတော်ရာရွှေကျင်ဆရာတော်)
(၁၂၀၅-+)

ကျောင်းတော်ရာ ဆရာတော်ကို ၁၂၀၅-နှစ်တွင် အမရပုရမြို့ခရိုင် အုပ်မင်း ဦးဖေါ့-ဒေါ်စမွယ်တို့မှ ဖွားမြင်သည်၊ရှမ်းကလေးကျွန်း ဆရာတော်ထံ၌ စာပေသင်ကြား၍ မင်းတုန်းမင်းမိဖုရားခေါင်ကြီးက သာမဏေဒါယိကာမခံယူသည်၊ ရွှေကျင်ဆရာတော်ထံတွင် ဆက်လက် ပညာသင်ကြား၍ ၁၂၂၄-ခုနှစ်တွင် မင်းတုန်းမင်း၏ သမီးတော်စလင်းမင်းသမီးကိုဒါယိကာမပြု၍ ရဟန်းဘောင်သို့ တက်ရောက်သည်၊ ၁၂၄၂-ခုနှစ်တွင် ရန်ကုန်မြို့ကျောင်းတော်ရာ ရွှေကျင်တိုက်တွင် သီတင်းသုံးတော်မူ၍ ၁၂၄၇-ခုနှစ်၌သီပေါ်ဘုရင်က သာသနာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့ကိုကပ်လှူလေသည်။

## ၁၃၆။ ရှင်ဝိမလ (စတုဗ္ဗမောင်းထောင်ဆရာတော်)
(၁၂၀၆-၁၂၇၀)

ရှင်ဝိမလမှာ ပိဋကတ်ကျမ်းပြုမောင်းထောင် ဆရာတော်တပါးဖြစ်လေသည်။

* ၁၂၆၁-ခုနှစ်ပြီး ပုဂံဘုရားတဆယ့်နှစ်ဆူသမိုင်းကို ပြုစုတော်မူသော ဒုတိယမြတောင်ဆရာတော်မှာ နောင်အဆက်ဆက်မြတောင်တိုက်၌ သီတင်းသုံးတော်မူသောဆရာတော်တည်းကသာလျှင် ဖြစ်တန်ရာ၏။

သကရာဇ် ၁၂၀၆-ခုနှစ် ကဆုန်လဆန်း ၁-ရက် ဗုဒ္ဓဟူးနေ့တွင် အလုံမြို့ကျေးလက် မောင်းထောင်ကြီးရွာ နှိုင်းသာရပ်၌ ဦးဘိုးဂေါင်း-ဒေါ်ပုတို့မှ ဖွားမြင်လေသည်။

ငယ်စဉ်က မောင်းထောင်ရွာကုန်းသာတိုက်ဆရာတော်ထံ၌ စာပေသင်ကြား၍ ၁၅-နှစ်အရွယ်တွင် သာမဏေဝတ်လေသည်၊ ထိုနောက် အရွယ်ရောက်လျှင် ရဟန်းဘောင်သို့တက်၍ ရှင်ဝိမလဘွဲ့ခံယူလေသည်၊ ထိုနောက် မန္တလေးမြို့သို့ကြွရောက်ပြီးလျှင် သုဓမ္မာသာသနာပိုင်ဆရာတော်ထံ၌ စာပေဆည်းပူးကာ ရွှေကျင်သာသနာပိုင်ထံ၌လည်း ဆက်လက်ဆည်းပူးလေသည်။

၁၂၄၆-ခုနှစ်တွင် သီပေါမင်းက ဝိမလာလင်္ကာရ ကဝိဇဓမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို ကပ်လှူလေသည်၊ ထိုနောက်ရွှေကျင်ဆရာတော်နှင့်အတူ အောက်မြို့ကျေးရွာများသို့ လိုက်ပါ၍ သုံးဆယ်မြို့တွင် ၁၂၅၂-ခုနှစ်၌ မောင်းထောင် တိုက်ကို စတင်တည်ထောင်လေသည်။

ဆရာတော်သည် ၁၂၇၀-ပြည့်နှစ် ပြာသိုလဆန်း ၇-ရက်နေ့တွင် ပျံလွန်တော်မူရာ-ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ ကမ္မဝိနိစ္ဆယကျမ်း။
၂။ စတုသစ္စပကာသနီကျမ်း။
၃။ မရုဂ္ဂုတ္တဒီပနီကျမ်း။
၄။ လက္ခဏာဒိဝိဘာဝနီနိသျ။

---

## ၁၃၇။ ရှင်ဝိသုဒ္ဓသီလာစာရ
## (တောင်ခွင်သာသနာပိုင် ဆရာတော်)
### (၁၂၀၆-၁၃၀၁)

တောင်ခွင်သာသနာပိုင်ဆရာတော်ကြီးမှာ ဗြိတိသျှခေတ်အထိ ထင်ရှားကျော်ကြားတော်မူသော ကျမ်းတတ် ဆရာတော်ကြီးတပါး ဖြစ်လေသည်။

သကရာဇ် ၁၂၀၆-ခုနှစ်၊နတ်တော်လဆန်း ၄-ရက် ဗုဒ္ဓဟူးနေ့တွင် ဦးမောင်မောင်-ဒေါ်ရွှေဝတို့မှ အမရပုရမြို့၌ ဖွားမြင်လေသည်၊အသက်

၁၄-နှစ်အရွယ်တွင် သာမဏေဝတ်လျက် သက်တော် ၂၀-တွင်ရဟန်း အဖြစ်သို့ရောက်၍ စံကျောင်းဆရာတော်, ဘုံကျော်ဆရာတော်နှင့် အခြား ဆရာတော်များထံတွင် ပညာဆက်လက်ဆည်းပူးသင်ကြားရာ ၁၈-ဝါ အရတွင် သီပေါမင်းက မင်းဆရာအဖြစ်ကိုးကွယ်၍ ဝိသုဒ္ဓသီလာစာရ ကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကိုရင်း, ၂၂-ဝါအရတွင် ဝိသုဒ္ဓသီလာစာရဓဇသိရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကို ငင်းကပ်လှူတော်မူလေသည်၊ သီပေါမင်းပါတော်မူပြီးနောက် ဗြိတိသျှ အစိုးရက ၃၅- ဝါအရတွင်ဝိသုဒ္ဓသီလာစာရ သိရိပဝရဓမ္မသေနာပတိ မဟာသံဃရာဇာ ဘွဲ့တံဆိပ်ဖြင့် သာသနာပိုင် အပ်နှင်း လေသည်၊ ထိုနောက် ပရိယတ္တိပါရဂူ- ဒီလစ်ဘွဲ့ကိုလည်းကပ်လှူခြင်းခံရလေသည်၊ ကမ္ဘာ့ဗုဒ္ဓဘာသာ နိုင်ငံအသီးသီးမှမေးမြန်းသော ပုစ္ဆာအရပ်ရပ်ကို ဖြေကြားတော်မူနိုင်၍ အထူးကျော်ကြားလေသည်။

ထိုနောက် ၁၃၀၁-ခုနှစ်တွင် ပျံလွန်တော်မူလေသည်။

---

## ၁၃၈။ ရှင်ဥာဏ (လယ်တီဆရာတော်)
## (၁၂၀၈- ၁၂၈၅)

လယ်တီဆရာတော်သည် မုံရွာမြို့အရှေ့မြောက်ဖက်ရှိ လယ်တီ အမည်ရှိသော တောအုပ်ကို ရှင်းလင်းကာ တပည့်တပန်းများနှင့် သီတင်း သုံးတော်မူရာမှ မည်တွင်သော ဆရာတော် ဖြစ်လေသည်၊ သကရာဇ် ၁၂၀၈-ခုနှစ် နတ်တော်လဆန်း ၁၃-ရက် အင်္ဂါနေ့ညဉ့် တချက်တီးကျော်တွင် ဒီပဲယင်းမြို့နယ်၊စိုင်ပြင်ရွာ၌ ဖွားမြင်တော်မူသည်၊ ငယ်မည်မှာ မောင်တက်ခေါင်ဖြစ်လေသည်။

ရဟန်းအဖြစ်ရောက်တော်မူသောအခါ သုဒဿနဓဇအတုလာဓိပတိ သိရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရစံကျောင်း ဆရာတော် ထံတွင် ပရိယတ္တိသင်ကြားတော်မူလေသည်၊ ဘွဲ့တော်မှာ ရှင်ဉာဏ ဖြစ်လေသည်၊ ၁၂၄၄-ခုနှစ်တွင် မုံရွာမြို့သို့ရောက်ရှိ သီတင်းသုံးတော် မူ၍ ၁၂၄၈-ခုနှစ်တွင် လယ်တီတောအုပ်တွင် သီတင်းသုံးတော်မူလေ သည်။

ဆရာတော်သည် တပည့်များကို စာပေပို့ချခြင်း, နိုင်ငံအနှံ့အပြား လှည့်လည်၍ တရားဓမ္မဟောပြောခြင်း, ကျွန္ဒ္ဓာသတ်ဖြတ်မှုကို တားမြစ်တော်မူခြင်းစသည်တို့ကို အားထုတ်၍ ပိဋကတ်ဆိုင်ရာနှင့် ကဗျာလင်္ကာ နိဿယစသည့်ကျမ်းပေါင်း ၁၀၀-ကျော်ပြုစုတော်မူခဲ့လေသည်။

သကရာဇ် ၁၂၇၃-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်ကပ်လှူခြင်းခံ၍ ထိုဘွဲ့တော်ကိုရှေးဦးဆုံးခံယူရရှိတော်မူသော ဆရာတော်ဖြစ်လေသည်၊ ၁၂၈၀ ပြည့်နှစ်တွင် ရန်ကုန်တက္ကသိုလ်မှ ကျမ်းတတ်ပါရဂူဒီလစ်ဘွဲ့ကို ကပ်လှူခြင်းခံရပြန်လေသည်။

ဆရာတော်သည် ၁၂၈၅-ခုနှစ် သက်တော် ၇၇-နှစ်တွင် ပျဉ်းမနားမြို့၌ ပျံလွန်တော်မူလေသည်၊ ဆရာတော်၏ ကျမ်းဂန်များကို မုံရွာမြို့ လယ်တီတောရကျောင်းတိုက်တွင်ကျောက်အက္ခရာတင်ထားလေသည်၊ ဆရာတော်ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ဝိပဿနာဒီပနီ။
၂။ စတုသစ္စဒီပနီ။
၃။ ရောဂန္တရဒီပနီ။
၄။ မဂ္ဂင်္ဂဒီပနီ။
၅။ ဥတ္တမပုရိသဒီပနီ။
၆။ ဗောဓိပက္ခိယဒီပနီ။
၇။ ပါရမီဒီပနီ။
၈။ ဓမ္မဒီပနီ။
၉။ လက္ခဏာဒီပနီ။
၁၀။ အာဏာပါနဒီပနီ။
၁၁။ သုကုမာရဒီပနီ။
၁၂။ အနတ္တဒီပနီ။
၁၃။ ရူပဒီပနီ။
၁၄။ သောမနဿုပေက္ခာဒီပနီ။
၁၅။ ဒါနာဒိဒီပနီ။
၁၆။ သစ္စတ္တဒီပနီ။

၁၇။ ဂေါဏသုရာဒီပနီ။
၁၈။ နိဗ္ဗာနဒီပနီ။
၁၉။ ဝိနယသံခိပ်လက်စွဲ။
၂၀။ သင်ပုန်းကြီးသံခိပ်။
၂၁။ ဥရောပဗုဒ္ဓဘာသာအလင်းပြ။
၂၂။ အစိန္တေယျပဏာမကြီး။
၂၃။ လက္ခဏာတော်ကြီးဘုရားရှိခိုး။
၂၄။ ဣဏပရိဘောဂဝိနိစ္ဆယ။
၂၅။ နိဂ္ဂဟသြဝါဒကထာ။
၂၆။ ဗောဓိပက္ခိယတရားအကျဉ်း။
၂၇။ ဘာဝနာလေးဆယ်အနက်။
၂၈။ ရုပ်ပွါးဆင်းတုအဖြေ။
၂၉။ ပဋိစ္စသမုပ္ပါဒ်အကျဉ်း။
၃၀။ အန္တရာယ်ကင်းပါဌ်ဂါထာ။
၃၁။ ရုပ်ပိုင်းအကျဉ်းနှင့်သုတ်ပါဠိတော်များ။
၃၂။ သရဏဂုံဝိနိစ္ဆယ။
၃၃။ ဝိရတိသီလဝိနိစ္ဆယ။
၅၄။ မဟာသရဏဂုံတော်ကြီး။
၃၅။ အာဇီဝဋ္ဌမက အဆုံးအဖြတ်။
၃၆။ သီလဝိနိစ္ဆယ။
၃၇။ ဝိကာလဘောဇနသိက္ခာပုဒ်အဆုံးအဖြတ်။
၃၈။ နိဗ္ဗာနဝိသဇ္ဇနာ ပဓာနသုတ်ပါဠိနိသျ။
၃၉။ အာဝေဏိကဂုဏ်တော်ပါဌ်အနက်။
၄၀။ ဓာတ်ကမ္မဋ္ဌာန်း။
၄၁။ အမိန့်တော်ပြန်တမ်း။
၄၂။ သံဝေဂလေးချိုး။
၄၃။ မင်္ဂလသုတ္တန်။
၄၄။ သတ်ပုံသံခိပ်။
၄၅။ ပုဗ္ဗောဝါဒကမ္မဋ္ဌာန်း။
၄၆။ လယ်တီဘုရားရှိခိုး။

၄၇။ ဥပသမ္ပဒဝိနိစ္ဆယ။
၄၈။ မဟာသဃနဒီပနီ။
၄၉။ ဝိဇ္ဇာမဂ္ဂဒီပနီ။
၅၀။ သမ္ဗုဒ္ဓလာပဝိနိစ္ဆယ။
၅၁။ ဒဋ္ဌိကမ္မဒီပနီ။
၅၂။ မူလပရိယာယသုတ္တတ္ထဒီပနီပါဌ်။
၅၃။ ပရမတ္ထသံခိပ်အကျဉ်း။
၅၄။ နိယာမဒီပနီ။
၅၅။ နိရုတ္တိဒီပနီ။
၅၆။ ပရမတ္ထဒီပနီ။
၅၇။ အနုဒီပနီ။
၅၈။ သမ္မာဒိဋ္ဌိဒီပနီ။
၅၉။ ဂါရဝဝိနိစ္ဆယ။
၆၀။ ပဋ္ဌာန်ဒီပနီ။
၆၁။ ဘယဝိနာသကဒီပနီ။
၆၂။ သဒ္ဒသံခိပ်အကျဉ်း။
၆၃။ ပဋ္ဌာနုဒ္ဒေသအကျဉ်း။
၆၄။ ပဋ္ဌာနုဒ္ဒေသဒီပနီ။
၆၅။ လန်ဒန်ပါဠိဒေဝီပုစ္ဆာဝိသဇ္ဇနာ။
၆၆။ ဥရောပ အလင်းကျမ်း။
၆၇။ ကမ္မဋ္ဌာန်းကျမ်း။
၆၈။ အနတ္တာနိသံသကျမ်း။
၆၉။ ဂမ္ဘီရဒီပနီ။
၇၀။ ဂမ္ဘီရကဗျာ။
၇၁။ အနတ္တဒီပနီကျမ်းသစ်။
၇၂။ ဝိနယသံခိပ်အကျယ်။
၇၃။ သဒ္ဒသံခိပ်အကျယ်။
၇၄။ ဘာဝနာဒီပနီ။
၇၅။ ခန္ဓာအာယတနဓာတ်သစ္စာအလင်း။
၇၆။ ပဋိစ္စသမုပ္ပါဒ်ဒီပနီ။

၇၇။ ပရမတ္ထသံခိပ်အကျယ်။
၇၈။ အနတ္တာနတ္တပုစ္ဆာ ဝိသဇ္ဇနာ။
၈၉။ ပဌာနုဒ္ဒေသကျမ်း။
၈၀။ ဒီဃာသနဝိနိစ္ဆယကျမ်း။
၈၁။ ဒွန်ရဟန်းခံကမ္မဝါ။
၈၂။ ပရိဝသ်ကမ္မဝါ။
၈၃။ ခရိယန်ဝါဒပုစ္ဆာ,ဝိသဇ္ဇနာကျမ်း။
၈၄။ ဗုဒ္ဓဘာသာ,ဗြာဟ္မဏဘာသာရှင်းချက်။
၈၅။ ဉာဏ်အသင်း မာနအသင်း ခန္ဓာအသင်းရှင်းချက်။
၈၆။ အနတ္တဝိဘာဝနီကျမ်း။
၈၇။ သာသနသမ္ဘုတ္တိဒီပနီ။
၈၈။ နှစ်ကျိပ်ရှစ်ဆူစက်ပရိတ်တော်ကြီး။
၉၉။ ဒွိကမ္မဒီပနီနိသျ။
၉၀။ သာသနဝိသောဓနီကျမ်း။
၉၁။ လန်ဒန်အာကာသာဒိပုစ္ဆာဝိသဇ္ဇနာကျမ်း။
၉၂။ သသင်္ခါရအသင်္ခါရဝိနိစ္ဆယ။
၉၃။ မိုးပရိတ်တော်ကြီးနှင့်မိုးကမ္မဝါ။
၉၄။ သတ္တင္ဂ္ဂါနကောသလ္လဒီပနီ။
၉၅။ စေတီယင်္ဂဏဝိနိစ္ဆယ။
၉၆။ ပြင်သစ်ပုစ္ဆာအဖြေ။
၉၇။ မဟောသဓကျေးစေခဏ်းရတု။
၉၈။ ယမိုက်အဖြေကျမ်း။
၁၀၉။ လယ်တီဟောကိန်းတရားစာ။
၁၀၀။ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်။
၁၀၁။ ဝဿဝါသိကပုစ္ဆာ,ဝိသဇ္ဇနာ။
၁၀၂။ သာသနာဒါယဇ္ဇဒီပနီ။

## ၁၃၉။ ရှင်မုနိန္ဒ (ဆဋ္ဌမတောင်တွင်းဆရာတော်)

(၁၂၀၉-၁၂၉၀)

ရှင်မုနိန္ဒကို ၁၂၀၉-ခုနှစ် ပြာသိုလဆန်း ၃-ရက်နေ့တွင် ကျောက်ပန်းတောင်း ထန်းတော်ဦးရွာ၌ ဘိုးနက်မပေ-မယ်ရှင်တို့မှ ဖွားမြင်လေသည်၊ငယ်မည်မှာမောင်ပွေဖြစ်လေသည်၊ဆရာတော်သည် တောင်တွင်းကြီးမြို့ အနောက်ဖက်ယာတောကျောင်း နေရာတွင် ပညာသင်ကြား၍ ၁၂၂၄-ခုနှစ်တွင် မန္တလေးမြို့စံကျောင်းတိုက် ဆရာတော် ရှင်သုဒဿနထံတွင် စာပေသင်ကြားပြန်လေသည်၊၁၂၃၂-ခုနှစ်တွင် မင်းတုန်းမင်းသား၏ သားတော်ရွှေကုမင်းသားနှင့်ဆင်ရှင်မင်းသမီးတို့ကဒါယကာပြု၍ ရဟန်းဘောင်သို့ တက်ရောက်လေသည်။

ဆရာတော်သည် ဒက္ခိဏာရာမဆရာတော်, စီးတော်မြင်းဝန် ဆရာတော်တို့နှင့်အတူ ပဥ္စမ သံဂါယနာတွင် သံဂီတိကာရက ဆရာတော်အဖြစ်ပါဝင်တော်မူရ၍ အဘိဓမ္မာကထာဝတ္ထုပါဠိတော်ကို သုတ်သင်တည်းဖြတ်ရလေသည်၊ ၁၂၄၃-ခုနှစ်တွင် တောင်တွင်းကြီးမြို့သို့ ပြန်ကြွတော်မူ၍ မင်္ဂလာရာမမြို့ဦးကျောင်းတိုက်တွင် စာပေပို့ချတော်မူလေသည်၊ ဆရာတော်သည် ၁၂၉၀-ခုနှစ် ပြာသိုလဆန်း ၈-ရက်နေ့တွင် ပျံလွန်တော်မူလေသည်။

---

## ၁၄၀။ ရှင်ဝိစိတ္တာဥာဏိက (အင်ပူဆရာတော်)

(၄၂၁၄-၁၃၀၃)

အင်ပူဆရာတော်ကြီးကို ၁၂၁၄-ခုဝါဆိုလဆုတ်၇-ရက်ဗုဒ္ဓဟူးနေ့တွင် အင်ပူမြို့၌ မြို့သူကြီး ဦးအုံနှင့် ဒေါ်ခင်ရိပ်တို့မှ ဖွားမြင်လေသည်၊ ငယ်မည်မောင်လှကြီးဖြစ်သည်၊ ငယ်စဉ်ကအုဂ်ဖိုရ် ဆရာတော်ထံတွင် ဆည်းကပ်၍ ရှင်ဝိစိတ္တဘွဲ့နှင့် သာမဏေပြုလေသည်၊ အရွယ်ရောက်လျှင် ရဟန်းပြု၍ ရှင်ဝိစိတ္တာဉာဏိကဘွဲ့ခံယူသည်၊

ငါးဝါရသောအခါ မန္တလေးမြို့ ဘုရားကြီးဆရာတော်, မိုးကောင်းဆရာတော်ထံတွင် ပညာသင်ကြား၍ အုဂ်ဖိုရ်ဆရာတော်ကြီးထံသို့ ပြန်ကြွကာ ဆရာတော်ကြီးပျံလွန်မှ အင်ပူကျောင်းတိုက်တွင် သီတင်းသုံး

တော်မူလေသည်၊ ဆရာတော်သည်လက်ပံလှရွာ အဇိနာရုံကျောင်း မအူပင်မြို့မဟာဗောဓိကျောင်း,မအူပင်မြို့ဒီပဲယင်းကျောင်း, ရွာကလေး ကျောင်း,မင်းလှမြို့မဟာဇေယျုံကျောင်း, ပဲခူးမြို့ရွှေဂူကလေး ကျောင်း တို့တွင်လည်း သီတင်းသုံးတော်မူဘူးလေသည်၊ ဆရာတော်ကြီးသည် ကဗျာလက်ာလည်း နှံ့စပ်တော်မူ၏။

ဆရာတော်သည် ၁၃၀၃-ခုနှစ် သီတင်းကျွတ်လဆုတ် ၃-ရက်နေ့ ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ မောရပရိတ်မွှန်း။
၂။ သစ်နက်ရေမော်ကွန်း။
၃။ မထောက်စာတမ်း။
၄။ ပါဠိုဟာရိယစာတမ်း။
၅။ ဗာဟိရကမ္မိဋ္ဌာဝါဒပဟာနစာတမ်း။
၆။ အတိသံမုဋ္ဌနိဂ္ဂဟစာတမ်း။
၇။ ဒုဋ္ဌသံမုဋ္ဌနိဂ္ဂဟစာတမ်း။
၈။ ဂရုဟတ္ထရိယစာတမ်း။
၉။ ဝဇီရစ္ဆေဒနီစာတမ်း။
၁၀။ လောကဝိဝရဏပါဠိုဟာရိယစာတမ်း။
၁၁။ စေတိယပဋိဇဂ္ဂနစာတမ်း။
၁၂။ မဟာသီလပကာသနီစာတမ်း။
၁၃။ ဓမ္မာနုဓမ္မဝိကာသနီစာတမ်း။
၁၄။ ဝဿုပနာယိကယထာဓမ္မစာတမ်း။
၁၅။ အဂ္ဂရစိန္တာကျမ်း။
၁၆။ ပရောပုရိသစိန္တာကျမ်း။
၁၇။ သကောဝါဒကမ္မဋ္ဌာနစာတမ်း။
၁၈။ ပဥ္စာဝိသဇ္ဇနာအချို။
၁၉။ ပုစ္ဆာဝိသဇ္ဇနာ။
၂၀။ သဒ္ဓေးသားလေးယောက်ကမ္မဋ္ဌာန်း။
၂၁။ ကဗျာသာရကမ္မဋ္ဌာန်း။
၂၂။ သဒ္ဒါနိယံသံပေါက်။
၂၃။ သိဂ်ါလောဝါဒသံပေါက်။

၂၄။ ကန်ကုန်းသွန်းဘုရားကြီးမော်ကွန်းပေါင်အနက်။
၂၅။ ဘုရားဆုတောင်းဂါထာပေါင်အနက်။
၂၆။ ပုသိမ်ကျောင်းရေစက်ချ။
၂၇။ မေတ္တာစာ ဆောင်းပါးကဗျာများ,လေးချိုး,တေးထပ်,သဖြန်, ရတု။
၂၈။ ဗကဒူက၊ ကာကဒူတ ကဗျာများ။
၂၉။ ကစ္စာယနသာရနိဿယသစ်။
၃၀။ ဓာတွတ္ထာဝဥ္စပေါင်နိဿယ။
၃၁။ သန္ဓိပုဒ်စစ်ကျယ်။
၃၂။ သီဟိုဠ်ပေးသန္ဒေသကထာ။
၃၃။ ပါဠိနိမန္တနဂါထာဖိတ်စာများ။
၃၄။ ဝိတ္ထာရသန္ဓိ ပဒဝိစယ။

---

## ၁၄၁။ ရှင်သာဂရ (မဟာမြိုင်ဆရာတော်)

(၁၂၁၄-၁၂၉၇)

မဟာမြိုင် ဆရာတော်ကို မော်လမြိုင်မြို့မြောက်ဖက် ကျုံစိန်ရွာ၌ သစ်ကုန်သည် ဦးဖျား- မညော်တို့မှ ၁၂၁၄-ခုနှစ် တပေါင်းလဆန်း ၅-ရက်နေ့တွင် ဖွားမြင်တော်မူလေသည်၊ ငယ်မည်မှာ မောင်ထူးဖြစ်လေသည်၊ကျုံစိန်ရွာနှင့် ကတိုးရွာ မော်လမြိုင်မြို့ ရန်ကုန်မြို့ များတွင် သာမဏေဘဝဖြင့် ပညာသင်ကြားပြီးနောက် မှော်ဝန်းချောင်းကျုံကန်ရွာတွင် ရဟန်းဘောင်သို့ တက်ရောက်တော်မူလေသည်၊ ဘွဲ့တော်မှာ ရှင်သာဂရ ဖြစ်လေသည်၊ ထိုနောက် မှော်ဝန်းချောင်း ပါဒရွာနှင့် ကြည့်မြင်တိုင် စလင်းတိုက်,ဟသ်ာတ လယ်တီတိုက်များတွင်စာပေသင်ကြားလေသည်၊ သီပေါမင်းလက်ထက်တွင် တောင်ပြင်ကျီဝန်တိုက်၌သီတင်းသုံး၍ ၁၂၄၇-ခုနှစ်တွင် ပြည်မြို့ကန်တွင်းကျောင်း၌ သီတင်းသုံးတော်မူလေသည်၊ ၁၂၅၀-ပြည့်နှစ်တွင် မော်လမြိုင်မြို့သို့ ပြန်ကြွ၍ မဟာမြိုင် တောရကျောင်းတိုက်ကို ဖန်တီး တည်ထောင်တော်မူရာ ၁၂၈၁-ခုနှစ်တွင် မော်လမြိုင်မြို့ ရွှေကျင်ဂိုဏ်း၏ဂိုဏ်းချုပ် ဖြစ်တော်မူလေသည်၊ ၁၂၈၅-ခုနှစ်တွင် မြန်မာတနိုင်ငံလုံးရှိ ရွှေကျင်ဂိုဏ်းကြီး၏

မဟာနာယက ၁၈-ပါးတွင်ပါဝင်တော်မူပြီး ၁၂၉၀-ခုနှစ်တွင်အဂ္ဂ မဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကို ခံယူတော်မူသည်။

ဆရာတော်သည် ၁၂၉၇-ခုနှစ်တန်ခူးလဆန်း၁-ရက်နေ့တွင်ပျံလွန် တော်မူလေသည်။

---

## ၁၄၂။ ရှင်ကဝိန္ဒ (ငွေတောင်ဆရာတော်)
### (၁၂၁၄-၁၂၉၂)

ငွေတောင်ဆရာတော်ကို မိတ္ထီလာမြို့အပိုင် ညောင်ရမ်းမြို့အရှေ့ ကန့်ဖြူရွာ ဦးရွှေမောင်-ဒေါ်ကြွတ်သာတို့မှ ၁၂၁၄-ခု ဝါဆိုလဆန်း ၁၃-ရက်တနင်္လာနေ့တွင် ဖွားမြင်လေသည်၊ ငယ်မည်မှာမောင်ကြင် ဖော်ဖြစ်၏၊ ငယ်စဉ်က ညောင်ရမ်းမြို့ မိုးညင်းကုန်း ဂိုဏ်းချုပ်ဆရာ တော်ထံ၌ ပညာသင်ကြား၍ ရွှေထားမြို့ ဇောင်ချမ်းတောင် ဂိုဏ်းချုပ် ထံ၌၎င်း, ရမည်းသင်း ရွှေဂူဂိုဏ်းချုပ်ဆရာတော်ထံ၌၎င်း ဆက်လက် သင်ကြားလေသည်၊ ထိုနောက်ရှင်ကဝိန္ဒဘွဲ့ဖြင့် သာမဏေပြုကာ ပဌမ ဒက္ခိဏာရာမတိုက် ဘုရားကြီးဆရာတော်ထံ၌ ပညာဆက်လက်သင် ကြား၍ ရဟန်းဘောင်သို့တက်ရောက်သည်၊ ထိုနောက် မန္တလေးမြို့ မြောက်ပြင် မဟာဇောတိကာရာမတိုက် ဒုတိယ မင်္ဂလာစံကျောင်း ဆရာတော်ကြီး ရှင်သုဒဿနထံတွင် ပညာသင်ကြားပြန်သည်၊တံဆိပ် တော်ရဆရာတော်တို့ ကျွမ်းကျင်သင့်ရာ ကျမ်းဂန်များနှံ့စပ်တော်မူသော် လည်း ပါတေခ်ီမူခေတ်တွင် တံဆိပ်တော် ခံယူရခြင်းမရှိခဲ့တော့ချေ၊ ထိုနောက် အကောက်ဝန်မင်းကျောင်းတော်ကို အလှူခံတော်မူသည်၊ ၁၂၆၁-ခုနှစ်တွင် ငွေတောင်တိုက်ကိုအလှူခံတော်မူသဖြင့် ငွေတောင် ဆရာတော်ဟုထင်ရှားသည်၊ ၁၂၇၇-ခုနှစ်တွင် တောင်ခွင်သာသနာ ပိုင်ဆရာတော်က သံဃနာယကခန့်အပ်တော်မူသည်၊ ၁၂၈၈-ခု နှစ် တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကိုခံယူလေသည်။

ဆရာတော်သည် ၁၂၉၂-ခုနှစ် သီတင်းကျွတ် လဆုတ် ၄-ရက်နေ့ ညဥ့်၃-နာရီအချိန်တွင် ပျံလွန်တော်မူရာ ပြုစုခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းလည်းပါဝင်လေသည်။

၁။ သုဗုဒ္ဓဒီပနီ။

---

## ၁၄၃။ ရှင်အာဒိစ္စရံသီ (ရွှေရေးဆောင်ဆရာတော်)
(၁၂၁၈-၁၂၈၇)

ရွှေရေးဆောင်ဆရာတော်မှာ ပိဋကတ် ကျမ်းများကို ပြုစုတော်မူခဲ့သော ကျမ်းတတ်ဆရာတော်တပါးဖြစ်လေသည်၊ သကရာဇ် ၁၂၁၈-ခုနှစ် ဝါဆိုလဆန်း ၈-ရက် တနင်္ဂနွေနေ့တွင် တောင်သာမြို့ တောင်ဖက် မန်ကျည်းချိုရွာ ဦးကြာဝင်း- ဒေါ်ကြွယ်တို့မှဖွားမြင်၍ ငယ်မည်မှာ မောင်ကြည်ဖြစ်လေသည်၊ ငယ်မည်အတိုင်းပင် နောင်သော်ဆရာတော်ဦးကြည်ဟုလည်းတွင်လေသည်။

ငယ်စဉ်ကမန္တလေးမြို့ မဟာမဏိဇောတိကာရာမတိုက် စံကျောင်းဆရာတော်ထံတွင် စာပေကျမ်းဂန်များသင်ကြားလေသည်၊ မင်းတုန်းမင်းကြီးနှင့် မိဖုရားခေါင်ကြီးတို့က မောင်ကြည်၏ပညာဂုဏ်ကို ကြားသိသဖြင့် ရှင်ဒါယကာပြု၍ သာမဏေအဖြစ်သို့ သွတ်သွင်းပေးရာ ဘွဲ့တော်မှာ ရှင်အာဒိစ္စရံသီဖြစ်လေသည်။

ရှင်အာဒိစ္စရံသီသည် ပဉ္စမကျော် အောင်မြင်တော် မူပြီးနောက် ရဟန်းဘောင်သို့ဝင်ရောက်ရာ ပဥ္စင်းဒါယကာမှာလှေသင်းအတွင်းဝန်ဖြစ်လေသည်။

ထိုနောက် ဘိုးတော်ဘုရား တောင်ရွှေရေးဆောင်မိဖုရား ဆောက်လုပ်လှူဒါန်းခဲ့သော ရွှေရေးဆောင်တိုက်သို့ ပြောင်းရွှေ့၍ စာပေပို့ချနေရာ မူလကျောင်းထိုင် မိုင်းခိုင်းဆရာတော်ကကျောင်းတိုက်ကို အပ်နှင်းလေသဖြင့် ရွှေရေးဆောင်ဆရာတော်ဟု ထင်ရှားလေသည်။

ဆရာတော်သည် ၁၂၈၇-ခုနှစ်ဦးတန်ခူးလဆုတ်၄-ရက် တနင်္ဂနွေနေ့တွင် ပျံလွန်တော်မူသည်၊ ဆရာတော်ကြီးရေးသားပြုစုခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ စံကျောင်းနိဿယံစာကိုယ်။
၂။ စံကျောင်းနိဿယမဟာသာရတ္ထဒီပနီ၃-တွဲ။
၃။ သောတုဇနဟိတကာရီကျမ်း။
၄။ သဒ္ဒတ္ထဘေဒစိန္တာဋီကာဟောင်း, ဋီကာသစ်ပြင်ဆင်စီရင်ချက်။
၅။ သဒ္ဒတ္ထဘေဒစိန္တာဋီကာနိဿျ။
၆။ မုခမတ္တဒီပနီနိဿျ ပြင်ဆင်စီရင်ချက်။

၇။ စလင်းမဟာဝါဂဏ္ဌိပြင်ဆင် စီရင်ချက်။
၈။ နေတ္တိပါဠိတော်နိသျှပြင်ဆင် စီရင်ချက်။
၉။ ဝိနယသင်္ဂဟဋီကာဟောင်းပြင်ဆင်စီရင်ချက်။
၁၀။ သာရတ္ထသင်္ဂဟနိသျ။

## ၁၄၄။ ရှင်ဇာဇိန္ဒ (ဟသ်ာတလယ်တီဆရာတော်)

(၁၂၂၂-၁၃၀၃)

ဟသ်ာတလယ်တီဆရာတော်ကို ၁၂၂၂-ခုပြာသိုလဆုတ် ၇-ရက် ဗုဒ္ဓဟူးနေ့တွင် ဟသ်ာတမြို့တာငါးဆယ်ရပ် ဦးစံလှ-ဒေါ်ထယ်တို့မှ ဖွားမြင်သည်၊ ငယ်စဉ်က ခရိယာန်ကျောင်းတွင် ပညာသင်ကြား၍ ခရိယာန်ဘာသာကို ဖြေကြားနိုင်သဖြင့် စာအုပ်ဆုများပင် ရရှိခဲ့လေသည်၊ ၁၁-နှစ်အရွယ်တွင် မြစ်ကွေ့ကျောင်းတိုက် ဦးသဒ္ဓမ္မထံ၌ ဗုဒ္ဓဘာသာစာပေများ သင်ကြားတတ်မြောက်၍ လယ်တီကျောင်းတိုက်တွင် သာမဏေပြုလျက် ၁၂၄၄-ခုနှစ်တွင်ရဟန်းပြုလေသည်၊ထိုနောက် ပဲခူးမြို့, မန္တလေးမြို့များတွင် စာပေဆည်းပူးသင်ကြားပြီး ၁၂၅၃-ခုနှစ်တွင် ဟသ်ာတမြို့လယ်တီတိုက်တွင် သီတင်းသုံးတော်မူလေသည်၊ အုဂ်ဖိုရ်ဆရာတော်ကြီးထံမှ သက္ကတဘာသာကိုသင်ကြားတတ်မြောက်လေသည်၊ ၁၂၆၀-ခုနှစ်တွင် * ပဌမလယ်တီဆရာတော်ပျံလွန်လျှင် ဒုတိယလယ်တီဆရာတော်ဟု ထင်ရှားလေသည်၊ ဒွါရဂိုဏ်းမဟာနာယကတင်မြှောက်ခြင်းခံရ၍ ၁၂၉၂-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကိုခံယူရရှိသည်။

ဆရာတော်ကြီးသည် ၁၃၀၃-ခု တပို့တွဲလဆန်း ၁-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ ဝဇီရပမဝိနိစ္ဆယသာရကျမ်း။

---

*ပဌမဟသ်ာတလယ်တီဆရာတော်မှာ ရှင်စန္ဒိမာဖြစ်သည်၊ ၁၁၉၃-ခုနှစ် ဝါခေါင်လဆုတ် ၃-ရက်နေ့ သာရဝေါတိုက်နယ် လုလင်ကျော်ရွာ ဦးရွှေကူး-ဒေါ်ရွှေနဲ့တို့မှဖွားမြင်၍ ငယ်မည်မှာမောင်ပုနောင်ဖြစ်သည်၊ ကြံခင်း,မြင်းခြံ, မန္တလေးမြို့များ၌ စာပေသင်ကြား၍ ဒွါရဂိုဏ်းကို စောင့်ရှောက်တော်မူကာ ဝိဝါဒပဟာနကျမ်းကို ပြုစုတော်မူသည်၊ ၁၂၆၀-ခုဝါခေါင်လဆန်း ၃-ရက် တနင်္ဂနွေနေ့တွင် ပျံလွန်တော်မူသည်။

၂။ ပရဟိတကျမ်း။
၃။ ဝဿုပနာယိကကျမ်း။
၄။ ဇဋ္ဌာဝိဇဋ္ဌကျမ်း။
၅။ လောကာဘိဝဍ္ဎနကျမ်း။
၆။ သတုပ္ပါဒကကျမ်း။
၇။ နယသာရာဝလိကျမ်း။
၈။ သံဝါသာဒိဝိနိစ္ဆယကျမ်း။
၉။ မာဂဓအေဘိဓါနတ္ထဒီပကကျမ်း။
၁၀။ သက္ကဋအမရကောသအဘိဓါနတ္ထဒီပကကျမ်း။
၁၁။ ဒေသနာသမူဟကျမ်း။
၁၂။ မဂ္ဂင်ဒီပကကျမ်း။
၁၃။ ဝိပဿနာရှုဖွယ်ကျမ်း။
၁၄။ ဓာတုမနသိကာရကျမ်း။
၁၅။ ပေါရာဏမေဒဒီပကကျမ်း။
၁၆။ ဘူမိဝိစာရဏာကျမ်း။
၁၇။ အနုသာသနခန်း။
၁၈။ ကဗျာလင်္ကာရတုများ။
၁၉။ ကာလိကဝိနိစ္ဆယ။
၂၀။ ကုလသင်္ဂဝိနိစ္ဆယသံခေပ။
၂၁။ ကုလသင်္ဂဝိနိစ္ဆယဝိတ္ထာရ။
၂၂။ ကုဋိဝိနိစ္ဆယ။
၂၃။ ထာလကဝိနိစ္ဆယ။
၂၄။ ဝိညတ္တိဝိနိစ္ဆယသံခေပ။
၂၅။ ပဋိဂ္ဂဟဏဝိနိစ္ဆယသံခေပ။
၂၆။ ဘေသဇ္ဇကရဏ။
၂၇။ ပရိတ္တဝိနိစ္ဆယ။
၂၈။ အနာမဋ္ဌပိဏ္ဍပါတဝိနိစ္ဆယ။
၂၉။ ပဋိသန္ထာရဝိနိစ္ဆယ။
၃၀။ ဝိညတ္တိဝိနိစ္ဆယဝိတ္ထာရ။
၃၁။ ဇယ်ပေသနိယဝိနိစ္ဆယသံခေပ။

၃၂။ ဇယ်ပေယနိယဝိနိစ္ဆယဝိတ္ထာရ။
၃၃။ ရူပိယသံဝေါဟာရဝိနိစ္ဆယ။
၃၄။ ကယဝိက္ကယသမာပတ္တိဝိနိစ္ဆယ။
၃၅။ အနာမာသဝိနိစ္ဆယ။
၃၆။ သဟသေယျဝိနိစ္ဆယ။
၃၇။ ဘုရားကြီးနိယံအဖြေ။
၃၈။ ဥပေါသထာဒိဝိနိစ္ဆယပဌမနှင့်ဒုတိယ။
၃၉။ မုတ္တိသမ္ပါက။
၄၀။ ဝဋ္ဋဒေဒကနှင့်သိဿကောဝါဒ။
၄၁။ သီလကထာ။
၄၂။ ဒါနကထာ။
၄၃။ သဒ္ဒါခြောက်ပါးအနက်ခြောက်ပါး။
၄၄။ သီမဝိနိစ္ဆယ။
၄၅။ ကမ္မဝါစာဘာသနောပဒေသ။
၄၆။ ဘုရားရှိခိုးအမျိုးမျိုးနှင့်ကမ္မဋ္ဌာနယောဇနာ။
၄၇။ အာဟာရေပဋိကူလသညာစာတမ်း။
၄၈။ ယထာဓမ္မဘုရားစည်းကမ်းဟောစာတမ်း။
၄၉။ ရဟန်းလောင်းဆုမ္မခန်းအကျယ်။
၅၀။ ဩဘာစာအမျိုးမျိုး။
၅၁။ ပရိတ်မွန်းအမျိုးမျိုး။
၅၂။ အဘိဏှသုတ်ယောဇနာ။
၅၃။ ကြီးပွားရေးစာတမ်း။
၅၄။ ဩဝါဒမိန့်ခွန်းအမျိုးမျိုး။
၅၅။ ဝိနယသမူဟခက်ဆစ်လက်ာနှင့်အဖြေ။
၅၆။ ကိုယ်ပြစ်ရှုသံဝေဇနိယကဗျာ။
၅၇။ အတွင်းအောင်ခြင်းဝိတ္ထာရတ္ထယောဇနာ။
၅၈။ လက္ခဏာသုံးပါးပွားများရန်သံဝေဂစာတမ်း။
၅၉။ ကျန်းမာရေးလမ်းညွှန်။
၆၀။ သာသနာလျှောက်ထုံး။

# ၁၄၅။ ရှင်နန္ဒ (သဒ္ဓမ္မဇောတိကာရာမဆရာတော်)

(၁၂၂၃-၁၂၉၇)

ဆရာတော်ကြီးကို ၁၂၂၃-ခုတပို့တွဲလဆုတ် ၁၁-ရက်တနင်းလာနေ့တွင် ညောင်တုန်းမြို့ သံကြိုးရွာနေ ဦးထွန်းဦး- ဒေါ်သဲကြာတို့မှ ဖွားမြင်သည်၊ ငယ်စဉ်က ခါးပန်းနီဆရာတော်, ကလျာဏီဆရာတော်တို့ထံတွင် စာပေသင်ကြား၍ ၁၂၄၃-ခုနှစ်တွင် ရဟန်းပြုလေသည်၊ ၁၂၄၆-ခုနှစ်တွင် ဓနုဖြူမြို့သဒ္ဓမ္မဇောတိကာရာမတိုက်သို့ ကြွတော်မူ၍ ၁၂၅၀-ပြည့်နှစ်တွင် မန္တလေးမြို့မြတောင်တိုက်တွင် စာပေသင်ကြားတော်မူလေသည်၊ ၁၂၅၅-ခုနှစ်တွင် ဓနုဖြူမြို့သို့ပြန်ကြွကာ ၁၂၈၂-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကိုခံယူရလေသည်။

ဆရာတော်ကြီးသည် ၁၂၉၇-ခု ပြာသိုလဆုတ် ၃-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ သာရုပသာဒကကျမ်း။
၂။ စာဏကျနီတိနိဿယ။
၃။ သာခုသမာစာရကျမ်း။
၄။ ဝါဒါနုဝါဒအနုဓမ္မပါဌ်။
၅။ သာခုပတ္တပူရဏီပါဌ်နိဿယ။
၆။ ကမ္မဝိလောတိကဝိနိစ္ဆယပါဌ်နိဿယ။
၇။ ရူပိယဒါနာဒိဝိနိစ္ဆယ။
၈။ မဂ္ဂပကာသနီကျမ်း။
၉။ ပဋိပတ္တိပကာသနီကျမ်း။
၁၀။ ပဋ္ဌာန်းပဌာဝါရပါဌ်နိဿယ။
၁၁။ ပစ္စဝေက္ခဏာဗုဒ္ဓသုတ်နိဿယ။
၁၂။ ဒေဝဒူတသံဝေဇနီယကျမ်း။
၁၃။ အာမဂန္ဓသုတ်နိဿယ။
၁၄။ ဒွါရဂိုဏ်းဥပဒေ။
၁၅။ ကမ္မာကမ္မဝိနိစ္ဆယကျမ်း။
၁၆။ အာသန္နဒါနာဒိဝိနိစ္ဆယကျမ်း။

၁၈။ ပုဗ္ဗကောဒိုဝိနိစ္ဆယကျမ်း။
၁၉။ စတုဘာဏဝါရမဟာပရိတ္တနိသျ။
၂၀။ ဝုမ္ဘာပစာယနဝိနိစ္ဆယကျမ်း။
၂၁။ နဝဂ်သီလဝိနိစ္ဆယကျမ်း။
၂၂။ ပဋိသမ္ဘိဒါပတ္တဝိနိစ္ဆယကျမ်း။

## ၁၄၆။ ရှင်ဝိစာရ (ပုခန်းဆရာတော်)
(၁၂၂၄-၁၃၀၂)

ပုခန်းဆရာတော်ကို ပုခန်းကြီးမြို့ အနောက်တိုက် တွင်းမရွာ၌ ဦးဘိုးပြန့်- ဒေါ်မွေးတို့မှ ၁၂၂၄-ခု တန်ဆောင်မုန်း လပြည့်ကျော် ၇-ရက်နေ့တွင် ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်စာတိုက်ဖြစ်လေသည်၊နေ ာင်တော်ဘုန်းကြီးဦးဥတ္တမထံတွင်စာပေသင်ကြား၍ရှင်ဝိစာရဘွဲ့ဖြင့် သာမဏေပြုလေသည်၊ အရွယ်ရောက်လျှင် တောဝေးကန်ဂိုဏ်းထောက် ဆရာတော် ရှင်အရိယကို ဥပဇ္ဈာယ်ပြု၍ ရဟန်းပြုလေသည်၊ ထိုနောက် ပခုက္ကူမြို့မြစ်ကိုင်းရွာ ရွာဦးကျောင်း ဆရာတော် ရှင်သုနန္ဒထံ စာပေ သင်ကြားကာ ၆-ဝါ ရသောအခါ မန္တလေးမြို့ အနောက်ပြင် စကုတိုက် ရှင်ပဒုမဆရာတော်ထံတွင် စာပေဆက်လက် သင်ကြားပြန်လေသည်၊ အဝမြို့ တံတားဦးအပိုင် မြင်းသည်ရွာ သိမ်ကုန်းတော ကျောင်းတွင် ခိုမှီသီတင်းသုံးပြီး နောက် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဆရာတော်ထံတွင် စာပေ သင်ကြားပြန်လေသည်၊ ထိုကျောင်းတိုက်တွင်နေစဉ် ကျမ်းဂန်အများ ပြုစုတော်မူလေသည်၊ ဇာတိရပ်ကိုစွဲ၍ ပုခန်းဆရာတော်ဟု ထင်ရှားလေသည်။

၃၆-ဝါ မြောက်တွင် ပခုက္ကူမြို့ သာသနဝိပုလာရာမ မန္တလေးတိုက်သစ်ကြီးတွင် သီတင်းသုံး နေတော်မူရာ ၁၃၀၂-ခုနှစ် တပို့တွဲ လပြည့်ကျော် ၆-ရက်နေ့တွင် ပျံလွန်တော်မူလေသည်။

ပုခန်းဆရာတော် ပြုစုခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ကစ္စည်းသဒ္ဒါနိသျ။
၂။ ပရိတ်ကြီးနိသျ။

၃။ လောကနီတိနိသျ။
၄။ မင်္ဂလသုတ်နိသျ။
၅။ လက္ခဏာတ္တယဒီပနီ။
၆။ သက္ကာယဒိဋ္ဌိဝိနိစ္ဆယ။
၇။ စတုသစ္စဝိနိစ္ဆယ။
၈။ သံဃဘေဒကဝိနိစ္ဆယ။
၉။ ဇီဝိတိန္ဒြိယဝိနိစ္ဆယ။
၁၀။ မိတ္တိလာမြို့သံဃာ့ဝိဝါဒိကရဏာသမထဝိနိစ္ဆယ။
၁၁။ အာပတ္တာဓိကရဏာဝိနိစ္ဆယများ။
၁၂။ ကာရန္တ္တာဒိဝိဘာဝနီ။
၁၃။ ဖျူဠနဗုဒ္ဓါဒိဒီပနီ။
၁၄။ ကပ္ပဝိနိစ္ဆယ။
၁၅။ ဥဒ္ဒိဋ္ဌစေတနာဝိနိစ္ဆယ။
၁၆။ ဇီဝိတပရိစ္စာဂ,အင်္ဂပရိစ္စာဂဝိနိစ္ဆယ။
၁၇။ နိပ္ဖန္နရူပဝိနိစ္ဆယ။
၁၈။ လောကဝဇ္ဇ, ပဏ္ဏတ္တိဝဇ္ဇ ဝိနိစ္ဆယ။
၁၉။ မနော္ဒွါရေအနာပတ္တိဝိနိစ္ဆယ။
၂၀။ ဗုဒ္ဓဂုဏာပကာသနီ။
၂၁။ ဥဒ္ဒေသျမ္မဝိနိစ္ဆယ။
၂၂။ ဒေသနာဝါမာပတ္တိ ဝုဋ္ဌာနဝိနိစ္ဆယ။
၂၃။ သီလဝန္တ နရ ဟနန ဝိနိစ္ဆယ။
၂၄။ ဥဒကုက္ခေပသီမဝိနိစ္ဆယ။
၂၅။ ကမ္မဝါစာဝိသောဓနေဝိနိစ္ဆယ။

---

## ၁၄၇။ ရှင်××(မငေးဆရာတော်)
### (၁၂၂၆-၁၃၁၆)

မငေး ဆရာတော်ကြီးကို မြင်းခြံခရိုင် ကျောက်ပန်းတောင်း အရှေ့ဘက် ဆင်ခေါင်းရွာ၌ ၁၂၂၆-ခုနှစ် ပြာသိုလပြည့်ကျော် ၁၀-ရက်နေ့တွင် ဦးရွှေလှ-ဒေါ်ထိမ်းတို့မှ ဖွားမြင်သည်၊ အသက် ၁၂-နှစ်အရွယ်

တွင် သာမဏေပြု၍ မန္တလေးမြို့သို့ စာသင်ကြွတော်မူ၍ စလင်းဆရာတော်, စံကျောင်းဆရာတော်များ ထံတွင် ပညာသင်ကြားသည်၊ ထိုနောက် တောင်ခွင် သာသနာပိုင်ဆရာတော် ကျောင်းတိုက်တွင် ပညာဆက်လက်သင်ကြား၍ ရဟန်းပြုတော်မူသည်၊ မန္တလေးမြို့တွင် ၅-ဝါတိုင် စာပေပို့ချပြီးနောက် လက်ပန်တန်းမြို့နယ် သိုက်ဝါချောင်းရွာတွင် ၁၀-နှစ်ကျော် သီတင်းသုံးတော် မူလေသည်၊ ၁၂၆၁-ခု နှစ်တွင် ကျိုက်လတ်မြို့ ကွင်းပေါက်ပိုင် မငေးကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးတော်မူသည်၊ဆရာတော်သည် ဆဋ္ဌသံဃာယနာတွင် ပါဝင်ဆောင်ရွက်တော်မူရာ သက်တော်အကြီးဆုံး ဆရာတော်တပါးဖြစ်သည်။

ဆရာတော်သည် ၁၃၁၆-ခုနှစ် တန်ဆောင်မုန်း လပြည့်ကျော် ၁-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါ ကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ ဗုဒ္ဓါဒိဂုဏာဝန္ဒနာ။
၂။ ပုညကြိယာဒီပနီ။
၃။ အရိယုပေါသထစာတမ်း။
၄။ ဓမ္မစကြာနိသျ။
၅။ အနတ္တလက္ခဏာသုတ်နိသျ။

---

## ၁၄၈။ ရှင်ကေတုမာလာလင်္ကာရ
## (ရတနာဘုံပျံဆရာတော်)
## (၁၂၂၈-၁၃၁၀)

ရတနာဘုံပျံ ဆရာတော်ဘုရားကြီးသည် ပြည်ခရိုင် ပန်းတောင်းမြို့အပိုင် မြစိမ်းကျွန်းရွာကြီး၌ ၁၂၂၈-ခု ကဆုန်လပြည့်ကျော် ၉-ရက်တနင်းလာနေ့တွင် ဦးကြာနု- ဒေါ်ကောင်းသာတို့မှ ဖွားမြင်တော်မူသော သားဖြစ်လေသည်၊ ငယ်မည်မှာ မောင်အောင်ကျော်မြဖြစ်လေသည်။

ငယ်စဉ်က-ကျီးသဲမြို့ သင်္ဂဇာဆရာတော်ကြီး၏ ပညာဆွေးနွေးဖက်ချောင်းဒေါင့်ဆရာတော်ထံတွင် ပညာသင်ကြားပြီး ၁၂၄၇-ခုနှစ်တွင် အရှင်ကေတုမာလာလင်္ကာရဘွဲ့ဖြင့် ရဟန်းဘောင်သို့ ဝင်ရောက်လေသည်၊ ထိုနောက်ရန်ကုန်မြို့ ဗဟန်းကျောင်းတော်ရာ ကျောင်းတိုက်၌

သီတင်းသုံးကာ ပုဇွန်တောင်နော်မံကျောင်းကြီး ဆရာတော်ထံ၌၎င်း, မော်လမြိုင်မြို့ သင်္ဂဇာဆရာတော်ကြီးနှင့် ဝဇီရာရာမ ဆရာတော်ကြီးများထံ၌၎င်း စာပေသင်ကြားတတ်မြောက်တော်မူ၍ မဟာမြတ်မုနိဘုရားအမကြီးဒေါ်ရွှေပွင့်၏လျှောက်ထားချက်အရ ရတနာဘုံမြင့်ကျောင်း၌ ၁၂၅၂-ခုနှစ်မှစ၍ ၁၂၆၂-ခုနှစ်တိုင်အောင် ၁၀-ဝါမျှ သီတင်းသုံးတော်မူလေသည်။

ထိုအတွင်း ၁၂၅၇-ခုတွင် ပဌမဆုံးအကြိမ်ကျင်းပသည့်ပါဠိ ပဌမပြန်စာမေးပွဲကို အကျော်တန်းမှအောင်မြင်တော်မူလေသည်၊ထိုနောက် မန္တလေးမြို့နှင့် စစ်ကိုင်းတောင်ရတနာဘုမ္မိချောင်သို့ ရောက်ရှိနေသော ဆရာရင်း ဝဇီရာ ရာမဆရာတော်ကြီးထံသို့ ဆက်ခံသင်ကြားပြီး ဇာတိမြစ်မိမ်းကျွန်း၌ ၂-ဝါမျှသီတင်းသုံးတော်မူလေသည်၊ ထိုနောက်မှတဖန် ဦးညို-ဒေါ်ဒေါ်အိမ်တို့ဆောက်လုပ်လှူဒါန်းသော ရတနာဘုံပျံကျောင်းတိုက်၌ ၁၂၆၇-ခုနှစ်မှ ၁၂၇၇-ခုနှစ်တိုင် ၂၁-ဝါပတ်လုံး စာပေပို့ချသီတင်းသုံးတော်မူလေသည်၊ ၁၂၈၈-ခုနှစ်တွင် မုဒုံမြို့အပိုင် ဘဲ့ရမ်းရွာအနီး သဲဖြူစမ်းတောရ ကျောင်းသို့ ၁-ဝါမျှ ကြွရောက်လေသည်၊ ထိုနောက် ရတနာဘုံပျံ ကျောင်းတိုက်၌ပင် ဆက်လက် သီတင်းသုံး၍ ၁၂၉၂-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော် ကပ်လှူခြင်းခံရလေသည်၊ ၁၂၉၉-ခုနှစ်တွင် ကြာအင်းနှင့်လောင်းကိုင်အကြားဒူးရင်းစမ်းတောရတွင်၎င်း, ၁၃၀၀-ပြည့်နှစ်မှ ၁၃၀၃-ခုနှစ်တိုင် ခေါင်းဆေးကျွန်းတွင်၎င်း, ထိုနောက်ရတနာဘုံပျံကျောင်း၌ပင်၎င်း သီတင်းသုံးတော်မူလေသည်။

ပဌမဆုံး အနေကျစီအောင်တော်မူသော ဆရာတော်ကြီးသည် ၁၃၁၀-ပြည့်ကဆုန်လဆန်း ၁၀-ရက်စနေနေ့တွင် ပျံလွန်တော်မူရာ ရေးသားပြုစုတော်မူခဲ့သော စာပေများတွင် အောက်ပါကျမ်းဂန်များ ပါဝင်လေသည်။

၁။ နိဂ္ဂဟိတဝိမုတ္တိဝိနိစ္ဆယ။
၂။ ဒါဌာဓာတုဝင်။
၃။ ကမ္မဝါစာဘာသာဋီကာ။
၄။ ဝိနယကောဝိဒ။

## ၁၄၉။ ရှင်စာရိန္ဒာသဘ (ဘုရားကြီးဆရာတော်)
(၁၂၂၉-၁၃၁၈)

ဘုရားကြီးဆရာတော်ကို ဟင်္သာတခရိုင် သာရဝေါ ရွာကြီးတွင် ဦးပုဏ္ဏား-ဒေါ်ပိုးဥတို့မှ ၁၂၂၉-ခုနှစ် သီတင်းကျွတ်လဆုတ် ၃-ရက် အင်္ဂါနေ့တွင် ဖွားမြင်လေသည်၊ငယ်မည်မှာ မောင်ယုန်ဖြစ်၍သာရဝေါ ကျောင်းတိုက် အရှင်ကလျာဏတိဿမထေရ်ထံတွင် စာပေသင်ကြား လေသည်၊ ထိုနောက် ဟင်္သာတမြို့လယ်တိကျောင်းတိုက် ရှင်သာဂရ ဗုဒ္ဓိထံတွင် ဆက်လက်ပညာသင်ကြားလျက် သာမဏေဘောင်သို့ တက်ရောက်ရာ ရှင်စာရိန္ဒာသဘဘွဲ့ကို ခံယူလေသည်၊ ထိုနောက် မိမိ ဆရာတော်နှင့်အတူ ခနဖြူမြို့သို့ကြွရောက်၍ ၁၂၄၈-ခုနှစ်တွင် ဟင်္သာတ လယ်တီတိုက်ကြီး၌ပင်ရဟန်းဘောင်သို့တက်ရောက်လေသည်၊ထိုနောက် ရန်ကုန်မြို့ နေဉ်မံကျောင်းတိုက်ကြီးတွင် ဆက်လက်၍ ပိဋကတ်စာပေ များကိုသင်ယူလေလသည်။

၁၂၈၀-ပြည့်နှစ်တွင်ဟင်္သာတမြို့ ဘုရားကျောင်းကြီးတိုက်၌သီတင်း သုံးတော်မူ၍သီရိစာရိန္ဒာသဘတိပိဋကဉာဏရံသီဟူသော သံဃဒတ္တိယ ဘွဲ့တံဆိပ်တော်ကို ခံယူရရှိတော်မူလေသည်၊ ၁၂၉၀- ပြည့်နှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကိုလည်း ရရှိလေသည်၊ ဆရာတော် သည် မဟာဒွါရနိကာယ ပဌမ မဟာနာယက သာသနာပိုင်အဖြစ် ၁၃၀၄- ခုနှစ်မှစ၍ ဆောင်ရွက်တော်မူလေသည်၊ ဂျပန်ခေတ်တွင် လည်း နိုင်ငံတော်ဩဝါဒစရိယဆရာတော်အဖြစ် တင်မြှောက်ခြင်းခံရ လေသည်၊ ပြည်ထောင်စုခေတ်တွင် မြန်မာနိုင်ငံ ပါဠိဘာသာ ပညာရေး အဖွဲ့၏ နာယကအဖွဲ့ဥက္ကဋ္ဌ ဆရာတော်အဖြစ် တင်မြှောက်ခြင်း ခံရ၍ ၁၃၁၅-ခုနှစ်တွင် အဘိဓဇမဟာရဋ္ဌဂုရုဘွဲ့တံဆိပ်တော်ကို ရှေးဦးဆုံး ခံယူတော်မူရလေသည်၊ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်ကိုလည်း ထပ်မံ ခံယူရလေသည်၊ ၁၃၁၈-ခုနှစ်တွင် ဆဋ္ဌသံဂီတိဩဝါဒစရိယသံဃနာ ယကဘွဲ့တံဆိပ်တော်ကိုခံယူတော်မူရလေသေးသည်။

ဆရာတော်သည် ၁၃၁၈-ခုနှစ် တပေါင်းလဆန်း ၁၁-ရက်နေ့ တွင် ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါ ကျမ်းများပါဝင်လေသည်။

၁။ အမတမဂ္ဂနိဒ္ဒေသကျမ်း။

၂။ လောကစက္ကုကျမ်း။
၃။ ခံ့ဘတ္တတ္တယောဇနာကျမ်း။
၄။ ဂိဟိဝိနယကျမ်း။
၅။ သဗ္ဗညုတညာဏ်တော်အဆုံးအဖြတ်။
၆။ ဓာတုမနသိကာရရှုဖွယ်။
၇။ သာသနာလျှောက်ထုံး။
၈။ သစ္စာပြုစာတမ်း။
၉။ ဖြဟ္မဝိဟာရကမ္မဋ္ဌာန်းပွားနည်း။
၁၀။ အာဇီဝဋ္ဌမကသီလအဆုံးအဖြတ်။
၁၁။ နိမိကဏ္ဍသုတ်အတ္ထယောဇနာ။
၁၂။ သန္ဓိကပ္ပပဒဝိစယပကာသနီ။
၁၃။ သတ္တဋ္ဌာနဝဏ္ဏနာဒီပိပကကျမ်း။
၁၄။ ဥပေါသထဝိနိစ္ဆယ။
၁၅။ ဝိနယသင်္ခေပစာတမ်း။
၁၆။ ကမ္မဝါစာသဝနစ္စာရဏဝိနိစ္ဆယ။
၁၇။ လောကဝဓ်နစာတမ်း။
၁၈။ ဓမ္မဒေသနာနယပကာသနီ။
၁၉။ ကပ္ပါဒိဝိနိစ္ဆယကျမ်း။
၂၀။ ဓာတုသင်္ခေပဘေသဇ္ဇကျမ်း။
၂၁။ ပဒမာလာ၊ဓာတုမာလာဒီပိပကကျမ်း။
၂၂။ မြန်မာဘာသာမေတ္တာပို့စာတမ်း။
၂၃။ ဝိဟာရသန္တကာဒိဝိနိစ္ဆယကျမ်း။
၂၄။ ဘာဂျဝဏ္ဏနာဒီပိပကကျမ်း။
၂၅။ သုသန္ဓိစယအလင်္ကာကျမ်း။
၂၆။ သိမဝိနိစ္ဆယစာတမ်း။

---

## ၁၅၀။ ရှင်မေဓာဝီ (ညောင်လွန့်တောရဆရာတော်)

(၁၂၂၉-၁၂၉၅)

ညောင်လွန့်ဆရာတော်ကို၁၂၂၉-ခုနှစ်တပေါင်းလဆုတ် ၁၂-ရက်နေ့တွင် မိတ္ထီလာမြို့အနောက် ကန်ထက်အိုင့်ရွာ ဦးမှုတ်- ဒေါ်ဂုံတို့မှ

ဖွားမြင်သည်၊ ငယ်စဉ်က အိုင့်ရွာကျောင်းဆရာတော် ဦးကေသရထံတွင်ပညာသင်ကြား၍ သာမဏေပြုသော် ရှင်မေဓာဝီဟုခံသည်၊ ထိုနောက် ပျော်ဘွယ်မြို့အရှေ့တောင် မိုးနံကုန်းရွာကျောင်း မိုးနံကုန်းဆရာတော်ထံ၌ စာပေပရိယတ်သင်ကြားလေသည်၊ အရွယ်သို့ရောက်သော် ရဟန်းပြု၍ ဝါတော် ၂၀-ရလျှင် ရှမ်းရွာအနောက်ဖက် မင်းလိုတောင်သို့တောထွက်တော်မူလေသည်၊ထိုနောက် ညောင်လွန့်တောရသို့ကြွတော်မူ၍ သီတင်းသုံးတော်မူသည်၊ဝိပဿနာဓူရကိုအထူးအားထုတ်တော်မူသည်၊ ဆရာတော်သည် ၁၂၉၅-ခုနှစ် နယုန်လဆုတ် ၃-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ သမထဝိပဿနာနယသခေ်ပကျမ်း။
၂။ ဝဏ္ဏစာရိကပဒိုပတ္တိကျမ်း။
၃။ *နိဗ္ဗာနတ္ထပကာသနီကျမ်း။
၄။ တိပိဋကပကိဏ္ဏကဒီပနီ။ပ၊ဒု၊တ၊
၅။ ဝိနယဂဏ္ဌိဋ္ဌာနဝိနိစ္ဆယ။

---

## ၁၅၁။ ရှင်နာရဒ (မင်းကွန်းဇေတဝန်ဆရာတော်)

(၁၂၃၀-၁၃၁၆)

မင်းကွန်းဇေတဝန်ဆရာတော်ကြီးမှာ စစ်ကိုင်းခရိုင် ကျောက်ပန်းရွာမြောက်ဘက် ကန်ကြီးကုန်းရွာတွင် သကရာဇ် ၁၂၃၀-ပြည့်နှစ် တပို့တွဲလဆန်း ၅-ရက် စနေနေ့တွင် ဦးညိုကြီး-ဒေါ်ပိုင်တို့မှဖွားမြင်သောသားဖြစ်လေသည်။

ဆရာတော်ကြီးသည် ရဟန်းပြု၍ ၆-ဝါအရမှာပင် ဝိနည်း,ပဋိသမ္ဘိဒါမဂ်,နေတ္တိပါဠိတော်,စူဠနိဒ္ဒေသပါဠိတော်,မဟာနိဒ္ဒေသပါဠိတော်,ပေဋကောပဒေသပါဠိတော်များကိုနှုတ်ငုံဆောင်တော်မူနိုင်ခဲ့လေသည်။

---

* ၎င်းကျမ်းကို အရေးပိုင်မင်း ဦးကျော်ထွန်း (မြန်မာစာညွှန့်ပေါင်း)က နိဗ္ဗာနတ္ထဝိဘာဝနီနှင့် နိဗ္ဗာနတ္ထဝိသဇ္ဇနာဟူ၍ဖွင့်ဆိုရေးသားခဲ့ဘူးသည်။

ဆရာတော်ကြီးသည် ၁၂၆၇-ခုနှစ်မှစ၍ မင်းကွန်းဂူလေးချောင်အနီး အလယ်တောရကျောင်းတိုက်ကြီးတွင် တရားဟောကြားပြသ၍ ကျမ်းများကိုလည်းပြုစုလေသည်၊ တပည့်တပန်းများကိုလည်း နိုင်ငံတော်တဝှန်းသို့ သာသနာပြုစေလွှတ်တော်မူခဲ့လေသည်။

ဆရာတော်ကြီးသည် ၁၃၁၆-ခု တပေါင်းလပြည့်ကျော် ၁၀-ရက်နေ့တွင်ပျံလွန်တော်မူရာ ပြုစုမူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ မိလိန္ဒပဥှာအဋ္ဌကထာ။ (၁၃၀၃)
၂။ ဇင်း-နိသျ။
၃။ အရမ္မာဝိမိဝိသဇ္ဇနာ။
၄။ သဇ္ဇေတာဝိမိဝိသဇ္ဇနာ။
၅။ အာနာပါနအဖြေ။
၆။ ဝိနိစ္ဆယသမူဟ။
၇။ ဝိပဿနာဉာဏ်စဉ်။
၈။ ကထိန်ဝိနိစ္ဆယစကားအဖြေ။
၉။ နိဗ္ဗာနကထာ။
၁၀။ ပါဒပါဒါရဟကျမ်း။
၁၁။ *ပေဋကောပဒေသအဋ္ဌကထာ။ (၁၂၈၆)

---

## ၁၅၂။ ရှင်ဓမ္မိက (လေသာဆရာတော်)
(၁၂၃၂-၁၃၁၆)

အဂ္ဂမဟာပဏ္ဍိတ လေသာဆရာတော်ကြီးမှာ မြင်းခြံခရိုင် တောင်သာမြို့အပိုင်နွားခေါင်းရွာ၌ဦးလူပု-ဒေါ်ညိုသာတို့မှ ၁၂၃၂-နှစ် တန်ဆောင်မုန်းလဆန်း ၉-ရက် စနေနေ့တွင်ဖွားမြင်လေသည်။

---

*ဤပေဋကောပဒေသအဋ္ဌကထာကို ဆရာတော်သည် မန္တလေးတောင်ရသေ့ကြီးဦးခန္တီ၏တောင်းပန်ချက်အရ သက်တော် ၅၉-နှစ်တွင် ပြုစုခဲ့၍ ယင်းစာမူကို မန္တလေးတောင်ခြေစန္ဒာမုနိဘုရားပရဝုဏ်အတွင်း၌ ကျောက်ချပ် ၂၈-ချပ်ဖြင့် အက္ခရာတင်ထားလေသည်။

အသက် ၂၀-တွင် နွားခေါင်းရွာတောကျောင်း ဆရာတော်ထံတွင် ရဟန်းဘောင်သို့ဝင်၍ ဦးဓမ္မိက ဟူသောဘွဲ့တော်ကို ခံယူလေသည်၊ ပခုက္ကူမြို့ လေသာတောရတိုက်တွင် သီတင်းသုံးခဲ့ဘူးသဖြင့် လေသာဆရာတော်ဟုထင်ရှားလေသည်။

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်တွင် ဝိနယဝိနိစ္ဆယပုဂ္ဂိုလ်အဖြစ် ဆောင်ရွက်နေရာမှ သထုံမြို့ တလိုင်းကုန်းရွာမှ ပင့်ဆောင်ကိုးကွယ်သဖြင့် ကြွရောက်သီတင်းသုံးတော်မူလေသည်၊ ထိုနောက် ထားဝယ်ဟသ်ာတနှင့် ရန်ကုန်မြို့ သရက်တောကျောင်းတိုက် စကားဝါပင်ကျောင်းတွင်သီတင်းသုံးတော်မူခဲ့၍ ၁၂၉၅-ခုနယုန်လဆန်း ၁၁-ရက်နေ့တွင်အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကပ်လှူခြင်းခံရလေသည်။

ဆရာတော်ကြီးသည် ၁၃၁၆-ခုတန်ခူးလဆန်း ၁-ရက် ဗုဒ္ဓဟူးနေ့တွင် ပျံလွန်တော်မူရာ ကျမ်းပေါင်း ၁၀-ကျမ်းပြုစုတော်မူခဲ့သည်ဟု သိရှိရလေသည်။

---

## ၁၅၃။ ရှင်တိလောက (သေကျွတောင်ဆရာတော်)

(၁၂၃၃-၁၂၀+)

သေကျွတောင် ဆရာတော်ဟု ထင်ရှားသော ရှင်တိလောကကို ၁၂၃၃-ခုနှစ် တန်ဆောင်မုန်းလဆန်း ၉-ရက် စနေနေ့တွင် ချင်းတွင်းမြစ်အနောက်ဖက်ပန်းချီတိုက်ခေါ်သန္တိရွာတွင်ဖွားမြင်တော်မူလေသည်၊ အရွယ်ရောက်လျှင် ငှက်ပျောတောရွာ ပိဋကတ်သုံးပုံပြန်ရှင်ဇဝနထံတွင် သာမဏေပြု၍ စာပေကျမ်းဂန်များကို လေ့လာလေသည်၊ ထိုနောက် ရဟန်းအဖြစ်ဖြင့် မုံရွာမြို့ လယ်တီဆရာတော်ထံတွင် ပညာဆည်းပူးပြန်ရာ ပိဋကတ်ကျမ်းဂန်များတတ်မြောက်ပြီးနောက်-ကျိုက်ထိုမြို့အနီး သေကျွတောင်သို့ ကြွရောက်သီတင်းသုံးတော်မူလေသည်။

ဆရာတော်သည် မြစ်ဝကျွန်းပေါ် တလျှောက်သို့ ကြွချီတော်မူ၍ ဝိပဿနာတရားများကို ဟောကြားတော်မူလေသည်။

ဆရာတော်ရေးသားပြုစုခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ပဏ္ဍိတဝေဒနီယကျမ်း။ (၁၂၆၇)

၂။ သောဠသမြေပုံကျမ်း။

၃။ ပစ္စယုဒ္ဒေသပကာသနီ။ (၁၂၇၅-တပေါင်းလ)
၄။ နေက္ခမ္မဝိဓာနဒီပနီ။
၅။ အရိယာမဂ္ဂဒီပနီ။
၆။ မဟာပရိတ်တော်ပါဠိနိဿယ။
၇။ ဘုရားအနေကဇာတင်ပါဠိနိဿယ။
၈။ သုမေဓာသုမိတ္တာဗျာဒိတ်ခဏ်း။
၉။ ယသော်ဓရာဆုတောင်းခဏ်း။

---

## ၁၅၄။ ရှင်ရေဝတ (ညောင်ရမ်းဆရာတော်)

(၁၂၃၅-၁၃၁၆)

ညောင်ရမ်းဆရာတော်သည် ပြည်ထောင်စုခေတ် ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင် မဟာသံဃနာယက ဆရာတော်ကြီး ဖြစ်လေသည်၊ သက္ကရာဇ် ၁၂၃၅-ခုနှစ် တပို့တွဲလဆန်း ၄-ရက်ဗုဒ္ဓဟူးနေ့တွင် ညောင်ရမ်းမြို့ ဦးနိုင်-ဒေါ်ငြိမ်းတို့မှ ဖွားမြင်လေသည်။

ငယ်စဉ်က ညောင်ရမ်းမြို့ ပေါက်တောရကျောင်း ဦးဇမ္ဗုဒီပဆရာတော်ထံတွင် ပညာသင်ကြား၍ ထိုကျောင်း၌ပင် ၁၂၅၅-ခုနှစ်တွင် ရဟန်းဘောင်သို့ ဝင်ရောက်လေသည်၊ ဘွဲ့တော်မှာအရှင်ရေဝတဖြစ်လေသည်၊ထိုနောက်မန္တလေးစကုတိုက်မန္တလေးမိုးကောင်းတိုက်များတွင် ပိဋကတ်တော်များကို လေ့လာသင်ကြား၍ ၁၂၆၀-ခုနှစ်တွင် ဓမ္မာစရိယ စာချတန်း ပရိယတ္တိစာမေးပွဲအောင်မြင်တော်မူလေသည်။

သက္ကရာဇ် ၁၂၇၄-ခုနှစ်တွင် ရေဝတာဘိပဏ္ဍိတ ဓဇမဟာဓမ္မရာဇဂုရု ဘွဲ့တံဆိပ်တော်နှင့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်များ ကပ်လှူတော်မူခြင်းခံရ၍ သာသနာတော်ရေးအတွက် အထူးအားထုတ်ဆောင်ရွက်တော်မူခဲ့လေသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော်ခေတ်တွင် နိုင်ငံတော် အစိုးရက အဘိဓဇ မဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်ကို ကပ်လှူတော်မူလေသည်၊ ၁၃၁၆-ခုကဆုန်လပြည့်နေ့တွင် စတင်ကျင်းပသည့် ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီးတွင် မဟာသံဃနာယကအဖြစ် ဆောင်ရွက်တော်မူလေသည်။

ဆရာတော်ကြီးသည် သာသနာတော်ရေးကို ဆောင်ရွက်တော်မူခဲ့ သကရာဇ် ၁၃၁၆-ခုတပို့တွဲလပြည့် တနင်းလာနေ့မွန်းလွဲ ၂-နာရီ ၁၅-မိနစ်အချိန်တွင် ပျံလွန်တော်မူလေသည်။

ဆရာတော်ပြုစုခဲ့သော ကျမ်းပေါင်း ၁၃၀-အနက် အောက်ပါ ကျမ်းများ ပါဝင်လေသည်။

၁။ သီလက္ခန်ဋီကာသစ်နိဿယ။
၂။ သီလက္ခန်ဋီကာဟောင်းနိဿယ။
၃။ မဟာသမယသုတ်ပါဠိတော်နိဿယ။
၄။ ဓမ္မိကသုတ်ပါဠိတော်နိဿယ။
၅။ ဗြဟ္မနိမန္တနသုတ်ပါဠိတော်နိဿယ။
၆။ ဗုဒ္ဓဝံသပါဠိတော် ဓါတုဘာဇနိယကထာနိဿယ။
၇။ ပရမတ္ထဂန္ထိရပါဌ်နိဿယ။
၈။ ပေတသုတ်ပါဠိတော်နိဿယ။
၉။ ဟေမဝတသုတ်ပါဠိတော်နိဿယ။
၁၀။ ပါရာဇိကကဏ်အဋ္ဌကထာပဏာမ ၁၈-ဂါထာ သမ္ဗန် လေးပါးလှည့်နိဿယ။
၁၁။ ဝဏ္ဏာဗျက္ခပဒသံဝဏ္ဏနာဝိနိစ္ဆယပါဌ်။
၁၂။ သီဟဠဒဋ္ဌိကမ္မဝိနိစ္ဆယ ဝိသောဓနီပါဌ်။
၁၃။ သီဟဠကမ္မဝါစာ ပုစ္ဆာဝိသဇ္ဇနာပါဌ်။
၁၄။ ဗုဒ္ဓနဝဂုဏလောကီ ၂၄-ဂါထာနိဿယ။
၁၅။ သီဝလိ ၁၀-ဂါထာနှင့်လောကီ ၆-ဂါထာနိဿယ။
၁၆။ လောကီစမအဋ္ဌရာ ၁၅-ဂါထာနိဿယ။
၁၇။ နမက္ကာရဋီကာပါဌ်။
၁၈။ ဂါထာသံဝဏ္ဏနာပါဌ်။
၁၉။ သီဟဠပုစ္ဆာဝိသဇ္ဇနာပါဌ်။
၂၀။ ဇိဝိတပရိစာဂါဒိဝိနိစ္ဆယ။
၂၁။ ဥပါသကဂုဏပကာသနီ။
၂၂။ ကထိနဒါန ဝိနိစ္ဆယ။
၂၃။ ဥပါသကစက္ခုကျမ်း။
၂၄။ ဥပါသက စာရိတ္တကျမ်း။

၂၅။ လဋ္ဌဂဟဏာဒေါသဒီပနီ။
၂၆။ ပရပုတ္တာနုဂ္ဂဟ-သာသနဒါယာဒကျမ်း။
၂၇။ ဝဿုကစ္စုနဝဿုပနာယိက ဝိနိစ္ဆယ။
၂၈။ ကထိနဒါနဋ္ဌာနာဒိ ဝိနိစ္ဆယ။
၂၉။ သံဃိကဝိဟာရဋ္ဌိသန္တကရက္ခကဝိနိစ္ဆယ။
၃၀။ ဘတ္တုဒ္ဒေသဝိနိစ္ဆယ။
၃၁။ သာမဏေရသရဏာဒါနဝိနိစ္ဆယ။
၃၂။ ကထိနက္ခန္ဓကဝဏ္ဏနာရဟုဋ္ဌိဋီကာဝိနိစ္ဆယ။
၃၃။ ဝါကျဂဏ္ဌိပဒဝိနိစ္ဆယ။
၃၄။ ခေတ္တဒါနဝိနိစ္ဆယ။
၃၅။ ဝိဿာသဂါဟဝိနိစ္ဆယ။
၃၆။ စေတိယာဘိန္ဒနဝိနိစ္ဆယ။
၃၇။ ဗုဒ္ဓအဂါရဝါဒိဝိနိစ္ဆယ။
၃၈။ သံဃိကဝိဟာရသဥ္စရဏာဝိနိစ္ဆယ။
၃၉။ စတုပစ္စယဝိသဇ္ဇနာဝိနိစ္ဆယ။
၄၀။ ပဋ္ဌကပစ္စယဝိသဇ္ဇနာ။
၄၁။ နဝပဋ္ဌာဗျာကရဏာဝိနိစ္ဆယ။
၄၂။ ဂါမသောဇကဝိသုံဂါမဝိနိစ္ဆယ။
၄၃။ ကထိနာနိသံသနှင့် ပဋ္ဌကပစ္စယဝိသဇ္ဇနာ။
၄၄။ ပတ္တနိကုဇ္ဇနပတ္တုက္ကုဇ္ဇနကမ္မဝိနိစ္ဆယ။
၄၅။ ဂါမပရိက္ခဘာဏနဝိနိစ္ဆယ။
၄၆။ သာမဏေရသံဃဝိနိစ္ဆယ။
၄၇။ သံဃိကဝိဟာရသဥ္စရဏာဝိနိစ္ဆယ။
၄၈။ စတုဒိသာဇရပ်မှသည်တိုင်စသည့်ဝိနိစ္ဆယ။
၄၉။ ကထိနဒ္ဓါရအနတ္တရဏာဝိနိစ္ဆယ။
၅၀။ စတုပဋ္ဌဗျာကရဏာဝိနိစ္ဆယ။
၅၁။ ဇိဏ္ဏာဘိန္ဒနဝိနိစ္ဆယနှင့် လက်ဘက်ရည်သောက် ဝိကာလဘောဇနဝိနိစ္ဆယ၊ အာယတဂီတမေ့ဝိနိစ္ဆယ။
၅၂။ မိစ္ဆာသတိဝိနိစ္ဆယနှင့် ဒုဟောတုကဥဂ္ဂဟနိမိတ္တဝိနိစ္ဆယ။
၅၃။ ဘတ္တုဒ္ဒေသဝိနိစ္ဆယ။

၅၄။ ကပ္ပိယာကပ္ပိယနိဿဂ္ဂိယာဒိဝိနိစ္ဆယ။
၅၅။ မတသန္တကဒုဒိန္နာဒိဝိနိစ္ဆယ။
၅၆။ ပရမတ္ထဂမ္ဘီရဝိနိစ္ဆယ။
၅၇။ တရားစွဲဘဏ္ဍာဒေယျာဒိဝိနိစ္ဆယ။
၅၈။ ဥပဟနာရူဠှာဒိဝိနိစ္ဆယ။
၅၉။ သီလရှင်ပဗ္ဗဇ္ဇာဝိနိစ္ဆယနှင့် အရညဝိဟာရဝိနိစ္ဆယ။
၆၀။ အရညဓုတင်္ဂနာသနဂါမ ဝိနိစ္ဆယ။
၆၁။ ပရမတ္ထလက္ခဏာသဘာဝဝိသေသာ ဝိသေသဝိနိစ္ဆယ။
၆၂။ ဘဏ္ဍာဝိနာသက ဝိနိစ္ဆယနှင့် ဝဋ္ဋနဝုတ္တောဝါဒကဝတ္ထုဝိသေသ ဝိနိစ္ဆယ။
၆၃။ ပုဏ္ဏမာဝိနိစ္ဆယ။
၆၄။ ကုဋိသဋ္ဌရဏာဒိဝိနိစ္ဆယ။
၆၅။ ပတ္တကလ္လာဒိဝိနိစ္ဆယ၊ (ဂါမဘောဇကဝိနိစ္ဆယ၊လေဟရဇ္ဇုဝိနိစ္ဆယ၊ ဝိဟာရဘိန္နဂ္ဂါဟ- ဝိနိစ္ဆယ၊ အဝဟရဏဒါန ပဋိဂ္ဂါဟဝိနိစ္ဆယ၊ တိရစ္ဆာနဝိနိစ္ဆယ၊ အနေကွတ္တုံအဝဟ ရဏဝိနိစ္ဆယ)
၆၆။ သုဝဏ္ဏာဒိ ဒါမလေပနဝိနိစ္ဆယနှင့် သုဝဏ္ဏာဒိဋ္ဌာဒကပဋိဂ္ဂဟဏ ဝိနိစ္ဆယ။
၆၇။ တိသန္ဒိကပလ္လင်္ကဝိနိစ္ဆယ။
၆၈။ ဆက္ကပဉှာဝိသဇ္ဇနာ။
၆၉။ နဝပဉှာဝိသဇ္ဇနာ။
၇၀။ သီမသမူဟန ဝိနိစ္ဆယ။
၇၁။ ဘိက္ခုနီဝိနိစ္ဆယ။
၇၂။ ဗုဒ္ဓဝံသအဋ္ဌကထာပါဠိယုတ္တာယုတ္တဝိနိစ္ဆယ။
၇၃။ ပဝါရဏာပြုပါဠိပဒဝိနိစ္ဆယ။
၇၄။ ဗုဒ္ဓသန္တကဘုဉ္ဇနာရဟဝိနိစ္ဆယ။
၇၅။ ဧကဘိက္ခုဝဿုပနာယိက ကထိနတ္ထာရဝိနိစ္ဆယ။
၇၆။ မတ သန္တကကုက္ကုစ္စဝိနိစ္ဆယ။
၇၇။ ထေရဝိနိစ္ဆယ။
၇၈။ ဥပသမ္ပဒါကမ္မဝါစာနိသျှနှင့်ရွတ်နည်းဝိနိစ္ဆယ။

၇၉။ ပရာဘာဂပဋိဂ္ဂဟဏာဘုဉ္ဇနဝိနိစ္ဆယ။
၈၁။ မတသန္တကာဒိန္နဝိနိစ္ဆယ။
၈၁။ သာမဏေရပဗ္ဗဇ္ဇာဒိဝိနိစ္ဆယ။
၈၂။ ပလ္လင်္ကနိသီဒနပုဒ္ဓဗိမ္ဗ ဝိနိစ္ဆယနှင့် မကုဋ္ဌာလင်္ကာရ ပုဒ္ဓဗိမ္ဗ ဝိနိစ္ဆယ။
၈၃။ ဘုရားစံနစ်ဝိနိစ္ဆယ။
၈၄။ ပုထုဇ္ဇနရူပဝိဇ္ဇာနနဝိနိစ္ဆယ။
၈၅။ သင်္ဃေပကထိနုဒ္ဓါရအနတ္ထရဏဝိနိစ္ဆယ။
၈၆။ ဝိသုံဂါမကမ္မကရဏဝိနိစ္ဆယ။
၈၇။ မဟာဝါအဋ္ဌကထာသံဝဏ္ဏနာဝိနိစ္ဆယ။
၈၈။ နတ်သက် ရေသက်တွက်ပုံနှင့် နတ်ပြည်ရေပြည်၌နေလရှိ မရှိ ဝိနိစ္ဆယ။
၈၉။ တန်ဆောင်းဟောင်း ဖျက်သင့် မသင့်ဝိနိစ္ဆယ။
၉၀။ ဒုတိယဝါကပ်ရာကျောင်း၌ ကထိန်ထိုက်မထိုက် ဝိနိစ္ဆယ။
၉၁။ အနိက္ခိတ္တဝတ္တဝိဟာရနှင့် ဦနဂဏနမာနတ္တစာရဝိနိစ္ဆယ။
၉၂။ စေတနာကမ္မဝိနိစ္ဆယ။
၉၃။ နဒီအဗ္ဘန္တရဒီပက သီမဝိနိစ္ဆယ။
၉၄။ စေတိယာရာမဥပစာရသီမနှင့် ကထိနတ္ထာရလဗ္ဘနဝိနိစ္ဆယ။
၉၅။ လန်ဒန်ပုစ္ဆာဖြေသော- ဝိသောဓနေဝိသဇ္ဇနာဝိနိစ္ဆယ။
၉၆။ ဒွတ္တိံသဝိထိသရူပဝိသဇ္ဇနာနှင့်ရာဇာကဿစိဒေတိ၌ အဓိပ္ပေတရာဇာဝိနိစ္ဆယ။
၉၇။ ဝယဝုဍ္ဍာပစာယနဝိနိစ္ဆယ။
၉၈။ မဟာသန္တကပုစ္ဆာ ၃-ချက်ဝိသဇ္ဇနာ။
၉၉။ မဂဓဘာသာကထန ဝိနိစ္ဆယ။
၁၀၀။ သာရိပုတ္တမောဂ္ဂလာနဓာတုဝိနိစ္ဆယ။
၁၀၁။ သံဃိကဒွိသန္တကရက္ခကဝိနိစ္ဆယ။
၁၀၂။ နိဗ္ဗာနပတ္ထနာဝိနိစ္ဆယ။
၁၀၃။ ကထိနဒါနနိမန္တနဝိနိစ္ဆယ။
၁၀၄။ တာဝတိံသာဗုဒ္ဓါဘိဓမ္မဒေသနာဝိနိစ္ဆယ။
၁၀၅။ မိလိန္ဒပဉှာနေတ္တိပေဋကော-ပဒေသ-သင်္ဂီတိဝိနိစ္ဆယ။

၁၀၆။ မိလိန္ဒပဥှ၁၀ါဒေါ်တရကာကထာ။
၁၀၇။ အရိယဝါသ ၁၀-ပါး အဓိပ္ပါယ်။
၁၀၀။ သင်္ဂဟပဏ္ဏာမစုဒ်စောဒနာ။
၁၀၉။ မြစ်သာ ဒုတိယပါရာဇိကမှု။
၁၁၀။ အာလံဘဏ္ဍာဒေယျမှုဝိနိစ္ဆယ။
၁၁၁။ မိုးကောင်းဘဏ္ဍာဒေယျမှုဝိနိစ္ဆယ။
၁၁၂။ မကွေးပါရာဇိကမှုဝိနိစ္ဆယ။
၁၁၃။ ပုသိမ်ပါရာဇိကမှုဝိနိစ္ဆယ။
၁၁၄။ ပျော်ဘွယ် ပထမ ပါရာဇိကမှုဝိနိစ္ဆယ။
၁၁၅။ ရမည်းသင်းကျောင်းမှုဝိနိစ္ဆယ။
၁၁၆။ ညောင်ရွှေသံဃိကလယ်မြေဝိနိစ္ဆယ။
၁၁၇။ အနိစ္စ၊ဒုက္ခ၊အနတ္တ၊လက္ခဏာ ဝိနိစ္ဆယ။
၁၁၀။ လန်ဒန်ဝိသုံဂါမာဒိဝိနိစ္ဆယ။
၁၁၉။ ပရိတ္တဘာဏနယကျမ်း။
၁၂၀။ ရန်ကုန်ပိဋကတိုက်ကမ္ပည်းကျောက်စာမော်ကွန်း။
၁၂၁။ ဟသ်ာတသိမ်ကျောက်စာမော်ကွန်း။
၁၂၂။ ရခိုင်ချောင်သိမ်ကမ္ပည်းကျောက်စာမော်ကွန်း။
၁၂၃။ မအူပင်ဘုရားဂန္ဓကုဋိတိုက် ကျောက်စာမော်ကွန်း။
၁၂၄။ ငါးဆူတိုက်သိမ် ကမ္ပည်းကျောက်စာမော်ကွန်း။
၁၂၅။ ကော့ကရိတ်သိမ် ကမ္ပည်းကျောက်စာမော်ကွန်း။
၁၂၆။ ရွှေယင်ဆိုင်းဘုရားတိုက် ကမ္ပည်းကျောက်စာ မော်ကွန်း။
၁၂၇။ မလှိုင်သိမ် ကမ္ပည်းကျောက်စာမော်ကွန်း။
၁၂၀။ တောမစေတီဘုရား ကမ္ပည်းကျောက်စာမော်ကွန်း။
၁၂၉။ ညောင်လေးပင်ကျောင်းတိုက် ကမ္ပည်းကျောက်စာမော်ကွန်း။
၁၃၀။ စစ်ကိုင်းသိမ် ကမ္ပည်းကျောက်စာမော်ကွန်း။
၁၃၁။ ပိုဒ်စုံရတုလင်္ကာများ။
၁၃၂။ သြဘာစာများ။

---

## ၁၅၅။ ရှင်ဝါယမ (ရွှေဟသ်ာတောရစံကျောင်း ဆရာတော်)

(၁၂၃၅-၁၀၃၉)

စံကျောင်းဆရာတော်ကို ပဲခူးခရိုင် ကျောက်တန်းရွာ လှေသူကြီး ဦးအောင်လှ-ဒေါ်အောင်တို့မှ ၁၂၃၅-ခုနှစ်တပေါင်းလဆန်း ၁၀-ရက် ဗုဒ္ဓဟူးနေ့နံက်တွင် ဖွားမြင်လေသည်၊ ငယ်စဉ်အခါက ဘုန်းကြီး ကျောင်းတွင်စာပေသင်ကြား၍ ရန်ကုန်မြို့ပုဇွန်တောင် အစိုးရကျောင်း တွင်ခေတ်ပညာသင်ကြားကာ ၁၇-နှစ်အရွယ်၌သာမဏေပြုလေသည်၊ ထိုနောက်ရှင်ဝါယမဘွဲ့ဖြင့် စာပေ ဆက်လက် သင်ကြားပြီး ရဟန်း ဘောင်သို့ဝင်လေသည်၊ကျောင်းတော်ရာဆရာတော်ကြီး၏ တပည့်ယွန်း ကျောင်းဆရာတော်ထံ၌ စာပေသင်ကြား၍ ၃၉-ဝါအရတွင် ညောင် တုန်းမြို့ရွှေဟသ်ာတောရတိုက်၌ သီတင်းသုံးတော်မူလေသည်၊ အဂ္ဂ မဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကိုလည်း ခံယူရရှိသည်၊ ဆရာတော်ကြီး သည် ၁၃၀၉-ခုနှစ် ဝါခေါင်လပြည့်ကျော် ၁-ရက်နေ့တွင်ပျံလွန်တော် မူရာ ပြုစုခဲ့သော ကျမ်းများတွင် အောက်ပါ ကျမ်းများ ပါဝင် လေသည်။

၁။ သုဗောဓာလင်္ကာရအလင်္ကာနိဿယ (၁၂၉၄)။
၂။ အပရိဟာနိယအဖွင့်။
၃။ ကမ္မဋ္ဌာနဝိနိစ္ဆယ။
၄။ စေတိယဝိနိစ္ဆယ။
၅။ ပရိဝါသမာနတ္တာဒိဝိနိစ္ဆယ။
၆။ လောကနီတိဖွင့်အကျယ်လက်စွဲ။

---

## ၁၅၆။ ရှင်စန္ဒိမာ (မဟာအောင်မြေဘုံစံ ဆရာတော် ရန်ကုန်)

(၁၂၃၆-၁၂၉၇)

မဟာ အောင်မြေဘုံစံ ဆရာတော် ရှင်စန္ဒိမာကို မြန်အောင်မြို့ မြို့မရပ်ရွှေဘုံသာကုန်းတွင် ကုန်သည် ဦးကြီး-ဒေါ်ဆိုင်းတို့မှ ၁၂၃၆-ခု တန်ဆောင်မုန်းလပြည့်ကျော် ၈-ရက် အင်္ဂါနေ့တွင် ဖွားမြင်လေ သည်၊ငယ်မည်မှာ မောင်ညိုထွားဖြစ်၏၊ငယ်စဉ်က မြန်အောင်မြို့သင်္ဘော

ကျောင်းတိုက်ဆရာတော် ရှင်သီရိသဒ္ဓမ္မပါလထံတွင် စာပေသင်ကြား ကြား၍ သာမဏေပြုရာ ရှင်စန္ဒိမာဘွဲ့ကို ခံယူရလေသည်၊အရွယ်ရောက် လျှင်ပဋ္ဌင်းဘောင်သို့ တက်ရောက်ပြီးနောက် မန္တလေးမြို့ မြတောင်ဆရာ တော် ရှင်အာလောကထံတွင် စာပေပိဋကတ်သင်ကြား၍ ရန်ကုန်မြို့သို့ စုန်ဆင်းကာ အရှေ့တောရကြီးနယ် မြန်အောင်ဆရာတော်ရှင်ဩဘာသ ထံတွင် ဆက်လက်ပညာသင်ကြားလေသည်၊ ထိုနောက် ဒေါပုံကျောင်း တိုက်, သိမ်ဖြူလိပ်ပြာကန် ကျောင်းတိုက်များတွင် သီတင်းသုံးပြီး နောက် ဗဂ်လားဆရာတော်ကြီးထံတွင် သက္ကတဘာသာကို သင်ကြား လေသည်၊ ၁၂၆၇-ခုနှစ် နတ်တော်လတွင် ဗဟန်းအောင်မြေဘုံစံ ကျောင်းတိုက်ကို အလှူခံယူတော်မူလေသည်၊ ရှေးဦးတွင် မင်းကြီးတိုက် ဆရာတော်ဟုတွင်၍ နောင်သော် မဟာအောင်မြေဘုံစံဆရာတော်ဟူ၍ ထင်ရှားသည်၊ (မဟာအောင်မြေဘုံစံဟူသော အမည်မှာ ဆရာတော် ဦးဗုဓ်သီတင်းသုံးသည့် နန်းမတော်မယ်နု အုတ်ကျောင်းအမည်ဖြစ်၍ သံယုတ်ဆရာတော်ကြီးက ခေါ်သမုတ်သောအမည်ဖြစ်သည်။) ၁၂၇၇-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကိုခံယူရလေသည်။

ဆရာတော်သည် ၁၂၉၇-ခုနှစ်တော်သလင်းလဆန်း ၁၄-ရက်နေ့ တွင် ဖားကူးရွာ၌ ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သော ကျမ်းများ တွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ သဒ္ဒတ္ထဂါရဝစာတမ်း။
၂။ ဝိနိစ္ဆယစာတမ်း။
၃။ *သီဟဠအဋ္ဌသစာတမ်း။
၄။ သဒ္ဒနီတိသုတ္တတ္ထဒီပနီကျမ်း။
၅။ *သမ္မောဟဆေဒနီကျမ်း။
၆။ *သာရကန္တပဒ္ဒီပိကာကျမ်း။
၇။ *နိဗ္ဗာနဝီထိဒီပကကျမ်း။
၈။ *ဥပသဂ္ဂတ္ထဒီပကကျမ်း။
၉။ *ပဋ္ဌာဂ္ဂိဒါနဒီပကကျမ်း။
၁၀။ *မရဏာသတိဘာဝနာကျမ်း။

* ခရေပွင့်ပြကျမ်းများကိုစွယ်စုံကျမ်းအတွဲ ၄-ရှင်စန္ဒိမာအထ္ထုပ္ပတ္တိ၌ဖော်ပြခြင်း မပြုမိချေ။

၁၁။ ပရမတ္ထသရူပဝန္ဒနာကျမ်း။
၁၂။ *ဗျာကရဏကျမ်း။
၁၃။ နဝကမ္မပိနိစ္ဆယကျမ်း။
၁၄။ အရှင်ဗုဒ္ဓဃောသဝတ္ထုစကားပြေကျမ်း။
၁၅။ *သုပေါသထပကာသနီကျမ်း။
၁၆။ ခဲရာခဲဆစ်အမေးအဖြေကျမ်း။
၁၇။ စာဏကျနီတိ ဘာသာပြန်ကျမ်း။
၁၈။ ဓမ္မပဒဝတ္ထုတော်ကြီး ၅-တွဲ။
၁၉။ သဒ္ဒတ္ထဘေဒစိန္တာယောဇနာကျမ်း။
၂၀။ ဋီကာကျော်နိသျည်းချနက်ကျမ်း။
၂၁။ ဝိနည်းအဋ္ဌကထာနိသျည်းချနက်ကျမ်း။
၂၂။ *ဓမ္မပဒအဋ္ဌကထာနိသျ။
၂၃။ *မာဂဓဗျာကရုဏ်းကျမ်း။

---

## ၁၅၇။ ရှင်ဝါသဝ (ပန်းတောင်းဆရာတော်)

(၁၂၃၆-၁၃၂၀)

ပန်းတောင်းဆရာတော်ကြီးကိုပန်းတောင်းမြို့ကြခပ်ရပ်၌ ဦးမိုး-ဒေါ်ပန်းတို့မှ ၁၂၃၆-ခုနှစ် တော်သလင်းလဆန်း ၆-ရက်နေ့တွင် ဖွားမြင်တော်မူလေသည်၊ ၁၂၅၅-ခုနှစ်တွင် ရဟန်းဘောင်သို့တက်ရောက်၍ ရှင်ပိစိတ္တဘွဲ့ကိုခံယူလေသည်၊ သို့ရာတွင်လက်ပံလှသို့ စာသင်ကြွတော်မူရာ အင်ပူဆရာတော်နှင့်ဘွဲ့ချင်းတူနေသဖြင့် ရှင်ဝါသဝဘွဲ့ကိုပြောင်းလွှဲခံယူသည်၊လက်ပံလှရွာ၌ ၂-ဝါခန့်နေပြီးနောက် မုံရွာမြို့တွင်၁-ဝါသီတင်းသုံးတော်မူသည်၊ ၁၁-ဝါမြောက်မှစ၍ ကျောင်းထိုင်နာယကအဖြစ်ဆောင်ရွက်တော်မူလေသည်၊ဆရာတော်သည်၊ ၁၂၉၅-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကိုခံယူရလေသည်၊ဒွါရမဟာနိကာယ၏ ဆဋ္ဌမမြောက်သာသနာပိုင် ဆရာတော်ဖြစ်၍ နိုင်ငံတော်မဟာနာယက ဆဋ္ဌသံဂါယနာဩဝါဒါစရိယ သံဃမဟာနာယကအဖြစ်လည်း တင်မြှောက်ခြင်းခံရလေသည်၊ အုဂ်ဖိုရ်ဆရာတော်၏တပည့်ကြီးဖြစ်သည်။

ဆရာတော်သည် ၁၃၂၀-ပြည့်နှစ်ကဆုန်လဆန်း ၂-ရက်နေ့တွင် ပျံလွန်တော်မူရာအောက်ပါကျမ်းကို ပြုစုတော်မူခဲ့လေသည်။

၁။ ဝိနိစ္ဆယဆောင်းပါးများ။
၂။ ယုဝတ္တဒီပကာ။
၃။ သုပ္ပဋိကာ။
၄။ အဘိဓမ္မတ္ထသာရမေဒနီ။
၅။ ဝိပဿနာဉာဏသံဃီ ယီတိဝါ။
၆။ ယာထာဝဗောဓနေစာတမ်း။

## ၁၅၈။ ရှင်အဂ္ဂဝံသ (မြဝတီဆရာတော်)

(၁၂၃၈-၁၂+)

*မြဝတီဆရာတော်ဟု ထင်ရှားသော ဆရာတော် ရှင်အဂ္ဂဝံသမှာ ရွာထောင်မြို့တွင် ၁၂၃၈-ခုနှစ်တွင် ဖွားမြင်တော်မူ၍ ရွာထောင်မြို့ သိမ်ကုန်းဂိုဏ်းထောက်ဆရာတော် ဦးဇမ္ဗုဒီပထံတွင် ပညာဆည်းပူး သင်ကြားတော်မူခဲ့လေသည်၊ ရဟန်းဘောင်သို့ ဝင်ရောက်ပြီးနောက် ၁၂၇၆-ခုနှစ်တွင် အောင်လံမြို့မြဝတီကျောင်းတိုက်၌ သီတင်းသုံးတော်မူရာမှ မြဝတီဆရာတော်ဟူ၍ ထင်ရှားလာသည်။

ဆရာတော်သည် အောက်မြန်မာနိုင်ငံတော်တဝှမ်းဟု အနှံ့အပြား ကြွရောက်၍ တရားဟောကြားတော်မူရာ တပည့် တပန်းပေါများ လေသည်၊ သံဝိဂ်အသင်းများလည်း ပေါ်ပေါက် လာလေသည်၊ ဆရာတော်သည် တရားအပြအသ ထူးချွန်တော်မူ၍ ဝိပဿနာတရား တော်ကိုလည်း ရှင်းလင်းအောင် ဟောကြားတော် မူနိုင်လေသည်၊ ထိုနောက် စစ်ကိုင်းရှင်ဖြူရှင်လှချောင်အနီး နယားချောင်၌ သီတင်း သုံးနေတော်မူ၏။

ဆရာတော်၏ ရေးသားပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါ ကျမ်းများပါဝင်လေသည်။

၁။ မောဟတိမိရနာသနီကျမ်း။
၂။ မာတာပိတုဂုဏဝိကာသိနီကျမ်း။
၃။ ဇင္ဃာဇင္ဃဝိစ္ဆေဒနီကျမ်း။

* နောင်သော် လူဝတ်လဲ၍ မြဝတီဆရာကြီးဟု တွင်လေသည်။

၄။ သံမုဋ္ဌတ္တဝိနာသိနီကျမ်း။
၅။ သာမုန္ဒိကမေဒိနီကျမ်း။
၆။ ဓမ္မကကိကနယဒီပနီကျမ်း။
၇။ ဒိဋ္ဌိသတ်ခဏ်း ခေတ်ကမ္ဘဌာန်းကျမ်း။
၈။ သံသရာဖြတ်ခဏ်း ခေတ်ကမ္ဘဌာန်းကျမ်း။
၉။ သက္ကာယဒိဋ္ဌိဝိနောဒနီကျမ်း။
၁၀။ ဝဋ်မှထွက်လမ်း ခေတ်ကမ္ဘဌာန်းကျမ်း။(၁၂၇၀)
၁၁။ နိဗ္ဗာန်ပေါက်လမ်း ခေတ်ကမ္ဘဌာန်း။
၁၂။ တဏှာသတ်ခဏ်း ခေတ်ကမ္ဘဌာန်း။

---

## ၁၅၉။ ရှင်စက္ကပါလ (တောင်ပေါက်ဆရာတော်)

(၁၂၃၉-၁၃၁၅)

*တောင်ပေါက်ဆရာတော်ကြီးကိုတောင်တွင်းကြီးမြို့နယ်မြင်ကွန်းမြို့၌ ၁၂၃၉-ခုနှစ် တန်ဆောင်မုန်း လပြည့်ကျော်၁-ရက်နေ့တွင် စစ်ကဲတော်မင်းဦးယောနှင့် ဒေါ်သက်တို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ဘခင်ဖြစ်သည်၊ ငယ်စဉ်က မြို့လုလင်ခင်ကြီးဦးထိန်သီးထံမှစ၍ သင်္ဂဇာဆရာတော်, ဝဇီရာရာမဆရာတော်များထံတွင် ပညာဆည်းပူးခဲ့သည်၊ အရွယ်ရောက်၍ ရဟန်းပြုသော် ရှင်စက္ကပါလဘွဲ့ခံယူသည်၊ ဆရာတော်သည် စစ်ကိုင်းမြို့ရတနာဘုမ္မိချောင်၌ရှင်း, မန္တလေးမြို့မဟာဝေယန်ဘုံသာကျောင်းတိုက်တွင်ရှင်း သီတင်းသုံးတော်မူပြီးနောက် မော်လမြိုင်မြို့တောင်ပေါက်ကျောင်းတိုက်တွင်သီတင်းသုံးတော်မူသည်၊ ဗြိတိသျှအစိုးရလက်ထက်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို ခံယူတော်မူရ၍ ပဋ္ဌမပြန်ပါဠိပညာရေး နာယကဆရာတော်များ အဖွဲ့ ဥက္ကဋ္ဌ,ဝိနိစ္ဆယဋ္ဌာန,ဝိနည်းမှုံရှိဆရာတော်, ဆဋ္ဌသင်္ဂါယနာပြုဝါဒါစရိယသံဃနာယကစသည်ဖြင့်အသီးသီးချီးမြှောက်ပူဇော်ခြင်းခံရလေသည်။

ဆရာတော်သည် ၁၃၁၅-ခုနှစ်ဒုတိယဝါဆိုလပြည့်ကျော် ၃-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ သဒ္ဒတ္ထဘေဒစိန္တာ။
၂။ ဆန္ဒောမဉ္ဇရီ။

၃။ ရူပဗ္ဗမဝုနိသျ။
၄။ အနိရုဒ္ဓနိသျ။ (သင်္ခတဘာသာ)။
၅။ ဒိဋ္ဌန္တဂတကနိသျ။
၆။ ပဉ္စတန္တရနိသျ။
၇။ သဒ္ဓမ္မဝါကျောပဒေသနိသျ။
၈။ နာဍိပရိက္ခာနိသျ။
၉။ ရသဝါဟိနီဂါထာများနိသျ။
၁၀။ ကာဗျဒသနိသျ။
၁၁။ သီဟဠဘာသာသဒ္ဒါ။
၁၂။ ဗောဒ္ဓဂတကနိသျ။
၁၃။ ဗာလာဝတာရချနက်နိသျ။
၁၄။ ဗာလာဝတာရဂဏ္ဌိပဒတ္ထဝိနိစ္ဆယသာရ။
၁၅။ နာမပဒမာလာ, အာချာတပဒမာလာ။
၁၆။ ကစ္စာယနဓာတုမဉ္ဇူသာနိသျ။
၁၇။ သဒ္ဒသာရတ္ထဇာလိနီနိသျ။
၁၈။ ဂန္ထာဘရဏနိသျ။
၁၉။ ဝိဘတ္တိမာလာနိသျ။
၂၀။ ဗာလပ္ပဗောဓနနိသျ။
၂၁။ ပဒသာဓနပဉ္စယောဇနိကနိသျ။
၂၂။ ဝတာရဏနိသျ။
၂၃။ အလင်္ကာနိသျ။
၂၄။ ခုဒ္ဒသိက္ခာနိသျ။
၂၅။ သဂြိုဟ်နိသျ။
၂၆။ အဘိဓမ္မာဝတာရအဋ္ဌကထာနိသျ။
၂၇။ ယင်းဋီကာအဘိဓမ္မတ္ထဝိကာသိနီနိသျ။
၂၈။ အဘိနပ္ပဒီပိကာနိသျ။
၂၉။ မောဟဝိစ္ဆေဒနီကထာ။
၃၀။ ဗုဒ္ဓဗောဓဗျာကရဏနိသျ။

---

*၁-မှ ၁၀အထိကို မန္တလေး၌သီတင်းသုံးစဉ်ရေးသည်၊ အချို့ကျမ်းများကိုသီဟိုဠ်ကျွန်းတွင် သီတင်းသုံးစဉ်ရေးသည်။

၃၁။ ဝိဒဂ်နိသျ။
၃၂။ အမရကောသနိသျ။
၃၃။ ဟိတောပဒေသနိသျ။
၃၄။ ကြိဘာသာရတနကရနိသျ။
၃၅။ ဒဏ္ဍိကမ္မဝိနိစ္ဆယ။
၃၆။ ဇာတကစဏ္ဍိကာနိသျ။
၃၇။ ဗုဒ္ဓဘာသာ သာသနိက ပထဝိဝင်ကျမ်း။
၃၈။ ဝုတ္တောဒယဆန်းနိသျ။
၃၉။ သက္ကတ္ထဲခက္ကူနိသျ။
၄၀။ စုဒ္ဒစာဏကျနိသျ။
၄၁။ ဗုဒ္ဓဂချနိသျ။
၄၂။ နာမာဝိုကနိသျ
၄၃။ နလောဒယကာဗျနိသျ။
၄၄။ ဝုတ္တောဒယဂဏ္ဍိပဒတ္ထဝိနိစ္ဆယ။
၄၅။ နရောပကာရကျမ်း
၄၆။ ဝုတ္တိမောဂ္ဂလာန်နိသျ။
၄၇။ မဟာဗောဓိဝံသအဋ္ဌကထာနိသျ။
၄၈။ ဗာလာဝဗောဓနဗျာကရဏနိသျ။
၄၉။ ပါကတပကာသဗျာကရဏနိသျ။
၅၀။ ပါကတပိင်္ဂလဆန်း။
၅၁။ ဒေသီသဒ္ဒသင်္ဂဟကောသအဘိဓါန်နိသျ။
၅၂။ မဟာမြတ်မုနိဉယျာဉ်တော်ဒါနဝါထာပါဌ်နိသျ။
၅၃။ ဗျဥ္ဇနဗုဒ္ဓိဝိနိစ္ဆယ။
၅၄။ အာရက္ခနှင့်ပဗ္ဗာဇနိယကမ္မဝါစာနိသျ။
၅၅။ ထူလဒသာနှင့်အန္တဒသာ။

---

## ၁၆၀။ ရှင်ဇာဝန(ပခုက္ကူဆရာတော်)

(၁၂၃၉-၁၃၂၀)

ဆရာတော်ကြီးကို ၁၂၃၉-ခုနှစ်ဝါခေါင်လဆန်း ၅-ရက်အင်္ဂါနေ့ ညသန်းခေါင်ကျော်အချိန်တွင် မြင်းခြံခရိုင် ညောင်ဦးနယ်သရောက်

မြို့ ဆီးတောရွာတွင် ဦးပိန်ကျော်- ဒေါ်သောင်တို့မှ ဖွားမြင်သည်၊ ငယ်စဉ်က သေရောက်ရွှေမြင်တင် ဂိုဏ်းအုပ်ဆရာတော် *ရှင်စန္ဒိမာထံတွင်စာပေသင်ကြား၍ ၁၂၅၇-ခုနှစ်တွင် ရဟန်းပြုလေသည်၊ ထိုနောက် ပုခန်းကြီးမြို့ တေရော်ဆရာတော်, မန္တလေးမြို့ ဦးရန်ကုန့်ဆရာတော်, ဦးဇာဂရကြီး, မိုးထားသာသနာပိုင်နှင့် မင်းရွာဆရာတော်တို့ထံတွင် ဆက်လက်ပညာဆည်းပူးလေသည်၊ မဟာဝေယန် ဘုံကျော်မိုးကောင်းဆရာတော်ထံတွင် အဘိဓမ္မာညဝါသင်ကြားခိုက် ရဟန်းဝါ ၆-ဝါရတွင် ဆရာတော်အဖြစ်လွှဲအပ်ခံရလေသည်၊ ထိုနောက်ရေစကြိုဆရာတော် ဦးဂန္ဓထံတွင် နိကာယ်ငါးရပ် ပါဠိတော်များဆက်လက်သင်ကြား၍ ၁၂၇၁-ခု တန်ဆောင်မုန်းလပြည့်နေ့မှစ၍ ပခုက္ကူမဟာဝိဇယာရာမတိုက်သစ်ကြီးကို တည်ထောင် သီတင်းသုံးတော်မူခဲ့လေသည်။

ဗြိတိသျှလက်ထက် မန္တလေးတောင်ခွင် သာသနာပိုင်ဆရာတော်က ခရိုင်ဂိုဏ်းချုပ်အဖြစ် ခန့်အပ်ခြင်းခံရ၍ မကွေးတိုင်း သုဓမ္မာဝင်ဆရာတော်အဖြစ် ထပ်မံခန့်ထားခြင်းခံရလေသည်၊ ၁၂၇၉-ခုနှစ်သက်တော် ၅၀-တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော် ဆက်ကပ်ခြင်းခံရ၍ ဂျပန်ခေတ်တွင် နိုင်ငံတော်မဟာနာယကတင်မြှောက်ခြင်းခံရလေသည်၊ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရလက်ထက်တွင် နိုင်ငံတော်ဩဝါဒါစရိယနှင့် ဆဋ္ဌသံဂါယနာ ဩဝါဒါစရိယ သံဃနာယက အဖြစ်တင်မြှောက်ခြင်းခံရလေသည်။

ဆရာတော်ကြီးသည် ဆဋ္ဌသံဂါယနာတင်ပွဲတွင် အမေးအဖြေ ပြုလုပ်ရန်အကြံပေး၍ ကိုယ်တော်တိုင် ပုစ္ဆာများမေးမြန်းတော် မူခဲ့လေသည်၊ အဋ္ဌကထာများကို သံဂါယနာတင်ရာတွင်လည်း သံဃမဟာနာယကအဖြစ်ဆောင်ရွက်တော်မူလေသည်၊ ၁၃၁၇-ခု ကဆုန်လပြည့် ဆဋ္ဌသံဂါယနာအောင်ပွဲတွင် သံဃာတော်များအတွက် အမြင့်ဆုံးဖြစ်သော အဘိဓဇမဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်ကော် ဆက်ကပ်ခြင်းခံရလေ

*ရှင်စန္ဒိမာကား ရှင်ဉာဏိန္ဒဘွဲ့ကိုလည်းခံယူသည်၊ ၁၂၂၄-ခု နှစ်တွင် ရွှေပြည်ရန်အောင်မြင်နယ်အနောက်လက် တံတားရွာတွင် ဖွားမြင်သည်၊ဘုရားဖြူ ဆရာတော် ရှင်ရာဇိန္ဒ၏ဆရာလည်းဖြစ်သည်။

သည်၊ ဆရာတော်ကြီးသည် ပိဋကတ်နှံ့စပ်လှ၍ သက္ကတဘာသာကို လည်းတတ်ကျွမ်းလေသည်၊ သီလသမာဓိနှင့် အထူးပြည့်စုံတော်မူလေသည်။

ဆရာတော်ကြီးသည် ၁၃၂၀-ပြည့်နှစ် တပို့တွဲလပြည့်ကျော် ၇-ရက်နေ့တွင် ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သောကျမ်းများတွင်အောက်ပါကျမ်းများပါဝင်လေသည်။

၁။ အမရကောသနိသျသစ်။ (သက္ကတ)
၂။ ဝိနည်းငါးကျမ်းပါဠိတော်နိသျသစ်။
၃။ သုတ်၃-ကျမ်းပါဠိတော်နိသျသစ်။
၄။ အင်္ဂုတ္တိုရ်၁၁-ကျမ်းပါဠိတော်နိသျသစ်။
၅။ နေတ္တိပါဠိတော်နိသျသစ်။
၆။ ဝိသုဒ္ဓိမဂ်အဋ္ဌကထာနိသျသစ်။
၇။ စာဏကျနီတိနိသျသစ်။ (သက္ကတ)
၈။ ဝိနယဝိနိစ္ဆယကျမ်း။
၉။ သံဂီတိဝိနိစ္ဆယကျမ်း။
၁၀။ ဉာဏသံဝေဂကျမ်း။
၁၁။ ပုတီးစိတ်နည်းနိသျည်းကျမ်း။

---

## ၁၆၁။ ရှင်ကဝိ (စွန်းလွန်းဆရာတော်)
## (၁၂၃၉-၁၃၁၄)

စွန်းလွန်းဂူကျောင်းဆရာတော်ကို ၁၂၃၉-ခုနှစ် တပေါင်းလဆန်း ၂-ရက်နေ့တွင် မြင်းခြံမြို့အနီး စွန်းလွန်းရွာ ဦးသန့်-ဒေါ်တုတ်တို့မှ ဖွားမြင်တော်မူသည်၊ ငယ်မည်မှာ မောင်ကျော်ဒင်ဖြစ်သည်၊ငယ်စဉ်က မြင်းခြံမြို့ မင်းကျောင်းဆရာတော်ထံ၌ စာပေသင်ကြားရာ ဉာဏ်ပါရမီနည်းခိုက်ဖြစ်၍ တတ်မြောက်ခြင်းမရှိသဖြင့် မင်းစေအဖြစ်အမှုထမ်းခဲ့သည်၊ အရွယ်ရောက်သော် မရွှေရီနှင့် လက်ထပ်၍ သားသမီး ၅-ယောက်ထွန်းကားသည်၊ အသက် ၃၀-ကျော်လျှင် တရားအမြင်ရ၍ ဝိပဿနာဘာဝနာ ကမ္မဋ္ဌာန်းစီးဖြန်းသဖြင့် တရားထူး ရလေသည်။

၁၂၀၂-ခုနှစ်တွင် ရှင်ကဝိဘွဲ့ဖြင့် သာမဏေပြု၍ ဆက်လက်တရား အားထုတ်လေသည်၊ ထိုနောက် ထိုနှစ်တပေါင်းလတွင်ပင် မိတ္ထီလာမြို့ ရေလယ်ကျောင်းတိုက်၌ ဟင်းရန်ကန်ဆရာတော်အား ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင်သို့ တက်ရောက်ကာ ၁၂၀၄-ခုနှစ်တွင် စွန်းလွန်းရွာသို့ ပြန်လည်ကြွရောက် သီတင်းသုံးတော်မူလေသည်၊ ဆရာတော်သည် သထုံမြို့ နေမိန္ဒရတောင်၌ သိမ်သမုတ်တော်မူ၍ ၁၃၁၃-ခုနှစ်တွင် ရန်ကုန်မြို့ ကျိုက္ကစံစေတီတော်အလယ်၌တည်ရှိသော ဘောက်ထော် စွန်းလွန်းဂူကျောင်းတိုက်ခွဲ၌လည်း သိမ်သမုတ်တော်မူသည်။

ဆရာတော်ကြီးသည် ၁၃၁၄-ခုနှစ် ကဆုန်လပြည့်ကျော် ၉-ရက် နေ့တွင် ပျံလွန်တော်မူသည်၊ ဆရာတော်ကြီးသည် ပရိနိဗ္ဗာန်ပြုတော် မူသည်ဟု ယုံကြည်ကြသည်၊ ကြွင်းကျန်သောရုပ်ကလာပ်သည် ပကတိ အတိုင်းပင် တည်ရှိလေသည်၊ ဆရာတော်သည် ဝိပဿနာတရားများ ဟောပြောတော်မူခဲ့သော်လည်း ကျမ်းတစောင်တဖွဲ့အဖြစ် ပြုစုတော် မမူခဲ့ချေ။

---

## ၁၆၂။ ရှင်လောကဂုရု (စပါးကိုင်းဆရာတော်) (၁၂၄၀-၁၃၁+)

စပါးကိုင်းဆရာတော်ကို ဟသ်ာတမြို့အနီး ရွာကလေးရွာတွင် ၁၂၄၀-ပြည့်နှစ်တွင် ဖွားမြင်တော်မူသည်၊ ရဟန်းဘောင်သို့ တက် ရောက်ပြီးသော်-၁၂၇၂-ခုနှစ်မှစ၍ ဟသ်ာတမြို့ ရွာကလေးကျောင်း တွင် သီတင်းသုံးရာမှ အင်းစိန်ခရိုင် ဖလုံအနီး စပါးကိုင်းရွာ ပုဗ္ဗာရုံ ဇေတဝတီကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးတော်မူသည်။

ဆရာတော်သည် ၁၃၁၄-ခုနှစ်လွန်မှ ပျံလွန်တော်မူရာ အောက်ပါ ကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ ဗုဒ္ဓသာသနသြဝါဒကထာကျမ်း၊ ပ-ဒု။

၂။ ရာဇောသိပ္ပသတ္တ။

၃။ ဂဏသံဝါသပဋိက္ခေပဝိနိစ္ဆယ။

၄။ ပါရာဇိကပဌမသိက္ခာပဒဝိနိစ္ဆယ။

၅။ ဓုတင်္ဂဝိနိစ္ဆယ။

၆၊ ပရိယတ္တိသာသနာနုဂ္ဂဟပကာသနီ။
၇။ သာသနပစ္စေ္စာတဗုဒ္ဓမတညုဂဏာရက္ခိဘာအဖွဲ့ကျမ်း။
၈။ စက်ပရိတ်, ငရုံ့မင်းပရိတ်, ရှင်သူငယ်ပရိတ်နိသျများ။
၉။ ပရိမိတ္တဇာလသုတ်နိသျ။
၁၀။ ဆဒ္ဒိသာပါလသုတ်နိသျ။
၁၁။ ခာရဏပရိတ်ပါဠိနိသျ, အာရက္ခပရိတ်ပါဠိနိသျ။
၁၂။ ရှင်ဥပဂုတ်ပရိတ်ပါဠိနိသျ။
၁၃။ မဟာသမယသုတ်အဖွင့်။
၁၄။ သစ္စတ္တဒီပနီ။
၁၅။ ဝေါမိသမေတ္တာစာ။

---

## ၁၆၃။ ရှင်အဂ္ဂဓမ္မ (အဘယာရာမဆရာတော်)

(၁၂၄၀-၁၃၀၅)

အဘယာရာမဆရာတော်ကို မြင်းခြံမြို့မှ ၆-မိုင်ကွာ ဗလုံရွာကြီး၌ ၁၂၄၀-ပြည့်နှစ် တပေါင်းလဆန်း ၁၁-ရက်နေ့တွင် ဦးရွှေဇင်-ဒေါ်ရွှေမွဲတို့မှ ဖွားမြင်သည်၊ ငယ်စဉ်က ဦးရိုးတော် ရှင်မဥ္ဇူထံတွင် သုံးနှစ်သားအရွယ်မှစ၍ ဖိုးသူတော်ဘဝနှင့်နေခဲ့ပြီး၊ ဆယ်နှစ်အရွယ်တွင် သာမဏေ ဘောင်သို့ဝင်သည်၊ ဘွဲ့တော်မှာ ရှင်အဂ္ဂဖြစ်သည်၊ ဆရာတော်သည် ခင်မကန်တိုက်အုပ်ဆရာတော်ဦးလက္ခဏထံ၌ စာပေသင်ကြားသည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရေစကြိုဆရာတော် ရှင်ဂန္ဓသာရထံတွင် စာပေသင်ကြားပြန်သည်၊ ထိုနောက် ၃-ဝါအရတွင် မဟာဝိသုတာရာမတိုက်တွင် စာချဆရာတော်အဖြစ် ခန့်အပ်ခြင်းခံရ၍ စကုမြို့သက်တော်ရှည်တိုက် ဆရာတော်ရှင်ပဏ္ဍဝထံတွင် သက္ကဋစာပေကို ဆက်လက်ဆည်းပူးသည်၊ ထိုနောက်မန္တလေးမြို့ ခင်မကန်တိုက်, ရွှေရေးဆောင်တိုက်များတွင် သီတင်းသုံးနေစဉ် ပရိယတ္တိသာသနဟိတ စာမေးပွဲကိုဖြေဆို အောင်မြင်လေသည်။

ဆရာတော်သည် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံတွင် ပရိယတ္တိကို ဆက်လက်ဆည်းပူး၍ သကျသီဟဓမ္မာစရိယစာချတန်းကို အောင်မြင်တော်မူလေသည်၊ ဆရာတော်သည် စာပေသင်ကြားပို့ချခြင်း,ကျမ်းဂန်

ပြုစုခြင်းတို့ဖြင့် မွေ့လျော်တော်မူသည်၊ ဆရာတော်သည် အိန္ဒိယပြည်သို့ ကြွရောက်၍ သက္ကတဘာသာကို ဆည်းပူးလေ့လာတော်မူလေသည်၊ မဟာဝိသုဒ္ဓါရုံတိုက် သုဝဏ္ဏဝတီအုတ်ကျောင်းကို အလှူခံတော်မူသည်၊ ၁၂၉၁-ခုနှစ်တွင် အဘယာရာမ ကျောက်တိုက်ကြီးကို အပ်နှံခြင်း ခံတော်မူရသည်၊ ဆရာတော်သည် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကို လည်း ချီးမြှင့်ခြင်းခံရသည်၊ ၁၂၉၄-ခုနှစ်တွင် ရွှေကျင်ဂိုဏ်းသာသနာ ပိုင် ဥက္ကဋ္ဌမဟာနာယက အဂ္ဂသေနာပတိအဖြစ် တင်မြှောက်ခြင်းခံရ သည်၊၁၃၀၂-ခုနှစ်တွင် မော်လမြိုင်မြို့ အဘယာရာမကျောင်းတိုက်တွင် သီတင်းသုံးတော်မူလေသည်။

ဆရာတော်သည် စစ်ကိုင်းတောင်ရိုး ဥမင် ၉၀-ချောင်၌၁၃၀၅-ခုနှစ် ပြာသိုလဆန်း ၃-ရက်နေ့တွင် ပျံလွန်တော်မူလေသည်။

ဆရာတော်ပြုစုတော်မူသော ကျမ်းများတွင် အောက်ပါ ကျမ်းများ ပါဝင်လေသည်။

၁။ အဘိဓာန်နိသျသစ်။
၂။ *မောဂ္ဂလာနဗျာကရဏနိသျ။
၃။ *မောဂ္ဂလာနပဉ္စိကာနိသျ။
၄။ *သမ္ဗန္ဓစိန္တာစာကိုယ်ငိုကာနိသျ။
၅။ ဏွာဒိဝုတ္တိနိသျ။
၆။ မုဒ္ဓဗောဓနိသျ။
၇။ အမရကောသနိသျ။
၈။ ဟိတောပဒေသ။
၉။ သာရတ္ထဝိလာသိနီနိသျ။
၁၀။ ကာတန္တနိသျ။
၁၁။ ကာဗျဒဿဒဏ္ဍီနိသျ။
၁၂။ ရဃုဝံသကာဗျ။
၁၃။ မေဃဒူတနိသျ။

---

*၂-၃-၄။ ကျမ်းများကိုဆရာတော်တည်းဖြတ်၏။

## ၁၆၄။ ရှင်ပညာ (မဟာဝိသုတာရာမဆရာတော်)
(၁၂၄၀-၁၂၇၆)

ရှင်ပညာကို သရေခေတ်နယ်ခွေးတောက်ပြတ်ရွာ ဦးပြော့-ဒေါ်မင်းဂုဏ်တို့မှ ၁၂၄၀-ပြည့်နှစ် ကဆုန်လဆန်း ၂-ရက်နေ့တွင် ဖွားမြင်တော်မူသည်၊ ငယ်စဉ်က ရှင်နန္ဒမာလာထံတွင်၎င်း, ရှင်ဉာဏထံတွင်၎င်း စာပေလေ့လာသင်ကြားလေသည်၊ ဆင်ဖြူကျွန်းစေတီလှကျောင်းတွင် ပညာဆည်းပူးပြန်၍ ပခုက္ကူမြို့ ရေစကြိုဆရာတော်ထံသို့ ချဉ်းကပ်တော်မူလေသည်၊ ရွှေရေးဆောင်ဆရာတော်ကြီးထံ၌လည်း ပညာဆည်းပူးလေသေးသည်၊ဆရာတော်သည် ၁၂၇၆-ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၂-ရက်နေ့တွင် ပျံလွန်တော်မူရာ ပြုစုတော်မူသောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ပါရာဇိကဏ်ပါဠိတော်နိသျ။
၂။ သမ္မောဟဝိနောဒနီအဋ္ဌကထာနိသျ။
၃။ အဘိဓမ္မတ္ထဝိဘာဝနီဋီကာနိသျ။
၄။ မင်္ဂလာဒီပနီနိဿယ။

---

## ၁၆၅။ ရှင်++(မန်ကျည်းချိုဆရာတော်)
(၁၂၄၃-၁၃၁၄)

မန်ကျည်းချိုဆရာတော်ကို ၁၂၄၃-ခုနှစ် တော်သလင်း လဆန်း ၄-ရက်နေ့၌ မန္တလေးမြို့ ရွှေပြည်ရန်အောင် အနောက်လက်ကျောက်ဆောက်မြို့အဝင်အပေါ် မန်ကျည်းချိုရွာတွင် ဦးရွက်-ဒေါ်ငြိမ်းတင်တို့မှ ဖွားမြင်တော်မူလေသည်၊ ဆရာတော်၏ဆရာအစဉ်အဆက်မှာ စန္ဒမဏ္ဍူသာလင်္ကာရ တိပိဋကဓရ မဟာဓမ္မရာဇာဓိ ရာဇဂုရုရှဥ်ပြုဂ္ဂ ပဌမဘုံ့ဘာ ဆရာတော်မှ ကိုးဆက်မြောက်ဖြစ်သော ရွှေရေးဆောင် ဆရာတော်ဖြစ်လေသည်။

ဆရာတော်သည် ၁၃၁၄-ခုနှစ် တပို့တွဲလဆုတ် ၁၄-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ သိင်္ဂါလောဝါဒသုတ်ဘာသာပြန်။
၂။ လူတို့ကျင့်စဉ် အလင်းရောင်ကျမ်း။

---

## ၁၆၆။ ရှင်ရာဇိန္ဒ(ဘုရားဖြူဆရာတော်)
(၁၂၄၆–၁၃၀၂)

ဘုရားဖြူဆရာတော်မှာ မြင်းခြံခရိုင်ပုဂံမြို့အရှေ့လက်သရောက်နယ် နွားပင်တွင်းရွာနေ ဦးညွန့်-ဒေါ်ညိုအေးတို့မှ ၁၂၄၆-ခုနှစ် သီတင်းကျွတ်လဆန်း ၄-ရက်နေ့တွင် ဖွားမြင်သည်၊ ငယ်စဉ်ကရွှေမြင်တင်ကျောင်းတိုက် ဆရာတော် ရှင်စန္ဒိမာထံတွင် ပညာသင်ကြား၍ မန္တလေးမြို့မိုးကောင်းတိုက် မဟာဝေယန်ဘုံကျော် မိုးကောင်းဆရာတော်ထံတွင် သာမဏေပြုသည်၊ ထိုနောက်သရောက်၌ ရှင်ရာဇိန္ဒဘွဲ့ဖြင့် ရဟန်းပြုသည်၊ ရဟန်းပြုပြီးသော် မန္တလေးမြို့ မိုးကောင်းတိုက်တွင် စာပေသင်ကြားပြီး မြင်းဝန်တိုက်စာချဆရာတော် ရှင်ပညာရံသီနှင့် အတူ ဟင်္သာတမြို့ မြစ်ကွေးတိုက်သို့ ကြွရောက်၍ ပညာဆက်လက်သင်ကြားသည်၊ ပခုက္ကူမြို့မဟာဝိဇယာရာမတိုက် အရှင်ဇဝနထံ၌ရင်း, ရန်ကုန်မြို့ဘုရားဖြူကျောင်းတိုက်၌ရင်း ဝိနည်းကတ်တော်များ သင်ကြား၍ မန္တလေး မစိုးရိမ်တိုက်တွင် စာချတော်မူသည်၊ ၁၂၇၅-ခုနှစ်မှစ၍ ရန်ကုန်မြို့ ဘုရားဖြူတိုက်တွင် ပရိယတ်ပို့ချတော်မူလေသည်။

၁၂၉၉-ခုနှစ်တွင် ရာဇိန္ဒာဘိကဝိဓဇာလင်္ကာရ သာသနကရဟုသော သံဃာဒတ္တိယဘွဲ့နှင့် ၁၃၀၀-ပြည့်နှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်များကို ခံယူတော်မူရသည်၊ ဆရာတော်သည် ၁၃၀၂-ခုနှစ်နတ်တော်လဆုတ် ၁၀-ရက်နေ့တွင် ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ သဒ္ဒတ္ထရတနာဝလိမဟာပါဠိအဘိဓာန်။ (စတုတ္ထဘာဂ။)
၂။ သာသနဗဟုဿုတပ္ပကာသနီကျမ်း။
၃။ လောကာယတာဒိဝိနိစ္ဆယ။
၄။ ဝိနည်းကွန်ချာကျမ်း။
၅။ မဟာမင်္ဂလဒီပနီ။
၆။ ဝိဝဋ္ဋနယဒီပနီ။
၇။ ဗြဟ္မဝိဟာရဒီပနီ။
၈။ နဝင်္ဂပေါသထဒီပနီ။

၉။ ကိုယ်ရေးတရားကျင့်စဉ်။
၁၀။ မာတာပိတု ဂုဏာဒီပနီ။ (မိဘဂုဏ်ရည်။)
၁၁။ အာစရိယဂုဏာဒီပနီ။
၁၂။ သာသနဂုဏာဒီပနီ။
၁၃။ ကဝိဝိယဒီပနီနိသျ။
၁၄။ ကျောက်စာပါဠိနိသျ။
၁၅။ နိဗ္ဗာနတ္ထပ္ပကာသနီ။
၁၆။ ဝိနယဓရ အတ္ထုပ္ပတ္တိ။
၁၇။ ဝိနယဓရချိန်ခွင်။
၁၈။ ဘိက္ခုနီအဆုံးအဖြတ်။
၁၉။ အာပတ္တာဓိကရဏ အနုယုဉ္ဇနာဒိဝိနိစ္ဆယ။
၂၀။ ကာလာမသုတ်နိသျ။
၂၁။ စေတိယပဋိသံ်ရဏာပ္ပဒိပိကာစာတမ်း။
၂၂။ ကလျာဏီကျောက်စာပါဠိ နိသျ။
၂၃။ ဝိနိစ္ဆယစာစောင်များ။

---

## ၁၆၇။ ရှင်ပုညဇ (ကန်သာယာဆရာတော်)
## (၁၂၄၆–၁၃၁၄)

ကန်သာယာဆရာတော်ကို သရက်ခရိုင်ဆင်ပေါင်ဝဲမြို့နယ် ကျောက်ဆောင်စမ်းရွာတွင် ၁၂၄၆-ခုနှစ် ကဆုန်လဆန်း ၁၄-ရက် ကြာသပတေးနေ့၌ ဘိုးလှပေါ်-ရှင်ပိုးခေါင်တို့မှဖွါးမြင်၍ ငယ်မည်မှာ မောင်ဘိုးအို့ဖြစ်သည်၊ မိဘများသည် ကျောက်ဆောင်စမ်းရွာမှပြည်ခရိုင်မှော်ဇာမြို့အနီး ကင်ပွန်းခြံရွာသို့ပြောင်းရွှေ့အခြေစိုက်ကြသည်၊ မောင်ဘိုးအို့သည် ငယ်စဉ်က မင်းတုန်းမင်းလက်ထက် ဝိမလာလင်္ကာရ ကဝိဓဇရာဇဂုရုတံဆိပ်တော်၊သီပေါမင်းလက်ထက် ဝိမလာလင်္ကာရကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်နှင့်ဗြိတိသျှလက်ထက် အဂ္ဂမဟာပဏ္ဍိတတံဆိပ်တော်များကို ခံယူရသည့်ဆင်တဲဆရာတော် ရှင်ဝိမလသီတင်းသုံးရာ မှော်ဇာမြို့ ကျောက်ကာ သိမ်ကုန်း ကျောင်းတိုက်တွင် သာမဏေဝတ်ရရှင်ပုညဘွဲ့ကိုခံယူရသည်၊ အရွယ်ရောက်သော်ဆင်တဲ

ဆရာတော်၏ တပည့်ကြီးသဲကုန်း ဆရာတော်ရှင်ပဏ္ဍိကိုဥပဇ္ဈာယ်ပြု၍ မိဘများပင်ဒါယကာခံသဖြင့် ရှင်ပုညဇော့ဘွဲ့ဖြင့် ပဉ္စင်းဘောင်သို့ဝင် ရသည်။

ထိုနောက်ဆင်တဲဆရာတော်၏ အလုပ်အကျွေးပဋ္ဌာသမဏအဖြစ် ဖြင့်ဝတ်ကြီး၊ ဝတ်ငယ်ကိုပြုစုကာ ဆင်တဲဆရာတော်အပြင် ရှင်ရေဝတ၊ ရှင်ဇမ္ဗုဓဇစသော စာချဘုန်းတော်ကြီးများထံတွင်လည်း ပညာဆက် လက်ဆည်းပူးသည်၊ ထိုနောက်မန္တလေးမြို့ မိုးကောင်းတိုက်ဆရာတော် ရှင်မုနိန္ဒထံ၌ ပညာဆက်လက်ဆည်းပူး၍ ရဟန်း ၇-ဝါအရ ဇင်းတိုက် လှထောင်ကျောင်း၌စာပေပို့ချရသည်၊ နောင်ပြည်ခရိုင်ပေါင်းတလည် အပိုင် ဘမြင်ရွာ၊ မှော်ဇာမြို့စသည်တို့၌ တပည့်များကိုပရိယတ္တိပို့ချခဲ့ သည်၊ ပြည်မြို့ကန်ဦးတိုက်အဂ္ဂမဟာပဏ္ဍိတကန်ဦးဆရာတော်က စာချ အဖြစ်ပင့်သော်လည်း ကျန်းမာမှုချို့ယွင်းသဖြင့်မကြွနိုင်တော့ဘဲ မှော် ဇာမြို့အနောက်ကန်သာယာတောရမှာပင် ဆက်လက်သီတင်းသုံးတော် မူလေသည်၊ ဝိနည်းသိက္ခာပုဒ်များကို အထူးစောင့်ရှောက်သည့် ဆရာ တော်ဟုကျော်ကြားလေသည်၊ ဆရာတော်သည် ၁၃၁၄-ခုနှစ်တပို့တွဲ လဆန်း ၉-ရက်နေ့တွင် ပျံလွန်တော်မူသည်။

ဆရာတော်ပြုစုခဲ့သော ကျမ်းများတွင်အောက်ပါကျမ်းစုများပါဝင် လေသည်။

၁။ *အဘိဓမ္မတ္ထသင်္ဂဟဂဋ္ဌုန်ပုံပါဌ်။
၂။ သိမာဗန္ဓနစာတမ်း။
၃။ သံဒိဋ္ဌလက်ာစကားပြေ။
၄။ ဝါစ္စဝါစကဋီကာနိသျ။

---

## ၁၆၈။ ရှင်ပဒုမ(မဟာပဒုမာရုံဆရာတော်)
(၁၂၄၇–၁၃၁၄)

မဟာပဒုမာရုံဆရာတော်ကို ၁၂၄၇-ခုနှစ်ပြာသိုလဆန်း ၃-ရက် နေ့တွင် ရွှေဘိုခရိုင် တန့်ဆည်နယ် ကုလသင်ရွာ၌ ဦးမိတ်-ဒေါ်သင်းထို

* မြင်းခြံမြို့ ဘုရားလှ ဇက်တောမြောက်ကျောင်း တလိုင်းကုန်းဆရာတော် ၏တပည့်ရင်း ရှင်ဝိသုဒ္ဓပြုစုသော အဘိဓမ္မတ္ထသင်္ဂဟ ဂဋ္ဌုန်ပုံပါဌ်လည်း ရှိသေးသည်။

တို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ပိန်ဖြစ်သည်၊ ငယ်စဉ်က ရေဦးမြို့မြောက်မုံတိုင်ပင်နယ် ရွာရှည်ရွာကျောင်းတွင် ပညာသင်ကြား၍ ရှင်ပလ္လိုစွတ္တဲ့ဖြင့် သာမဏေပြုသည်၊ ထိုနောက်သိမ်းဆည်းဆရာတော်ထံ၌လည်း ပညာဆည်းပူးသည်၊ ဖန်ခါးစဉ်ဆရာတော်ထံ၌လည်း ဗေဒင်ပညာသင်ကြားသည်၊ ၁၂၆၆-ခုနှစ်တွင် မုံတိုင်ပင်ကျောင်း၌ ရဟန်းပြုတော်မူရာ ရှင်ပဒုမာဘွဲ့ခံယူသည်၊ ထိုနောက် ကြို့တိန်း ရွာ၌ သီတင်းသုံးတော်မူသည်၊ ၁၂၇၁-ခုနှစ်တွင် မဟာပဒုမာရုံတိုက်သစ်ကို တည်ထောင်တော်မူလေသည်၊ ဆရာတော်သည် ၁၃၁၄-ခုနှစ်တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ သံဒိဋ္ဌလက်ရိုးကျမ်း။
၂။ အမြန်ဖွဲ့ထုံးအကောင်းဆုံး။
၃။ အခါပေးထုံးအကောင်းဆုံး။
၄။ သကြြန်တွက်ထုံးအကောင်းဆုံး။
၅။ နက္ခတ်ဟောပုံနည်းမျိုးစုံ။
၆။ လောကသိပ္ပရာသီ။
၇။ အဟောထိပ်သီးနိသျည်း။
၈။ မော်ကွန်းကျောက်စာလက်ာ။
၉။ ကေပိဒ်လက်ာရတုများ။
၁၀။ ဆယ်လီမူးလက်ာသုံးပုံတွက်နည်းကဗျာ။

---

## ၁၆၉။ ရှင်အရိယ (တတိယညောင်လေးပင် ဆရာတော်)

(၁၂၄၈-၁၃၁၄)

တတိယညောင်လေးပင်တောရဆရာတော်ကို ၁၂၄၈-ခုနှစ် ပြာသိုလဆန်း ၂-ရက်နေ့တွင် ညောင်လေးပင်မြို့နယ် ပုဇွန်မြောင်းအရပ်၌ ကျောင်းဆရာကြီးဆရာခေါင်-ဒေါ်ဒေါ်ခက်တို့မှ ဖွားမြင်လေသည်၊ ငယ်စဉ်က ညောင်လေးပင်တောရ ပဉ္စမ ဆရာတော်ကြီးထံတွင် သာမဏေပြု၍ ရှင်အရိယဘွဲ့ခံယူလေသည်၊ စာပေလေ့လာဆည်းပူး၍ အရွယ်ရောက်လျှင် ရဟန်းဘောင်သို့ ဝင်ပြန်ရာ ရှင်အရိယဘွဲ့ကိုပင်ခံယူလေသည်၊ဥပဇ္ဈာယ် ဆရာမှာ တောရဘုန်းတော်ကြီး ရှင်သီလဖြစ်လေသည်၊

ဒုတိယညောင်လေးပင် တောရဆရာတော်ရှင်ဥက္ကံ့ ယျထံ၌ပိဋကတ်ကျမ်း ဂန်သင်ကြား၍ မန္တလေးမြို့ မဟာဝိသုဒ္ဓါရာမ ဆရာတော်ကြီးထံတွင် လည်း ဆက်လက်သင်ကြားပြန်လေသည်၊ ဆရာတော်သည် ပရိယတ္တိ သာသနာဟိတဓမ္မာစရိယဘွဲ့တံဆိပ်များနှင့်အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် များကိုခံယူရလေသည်၊ ဆင္ဃသံဂါယနာ ဩဝါဒစရိယ ဆရာတော် အဖြစ်ဖြင့်လည်း တင်မြှောက်ခြင်း ခံရလေသည်။

ဆရာတော်သည် ၁၃၁၄-ခုနှစ် ဝါခေါင်လဆန်း ၁၄-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ ဓမ္မပဒဘာသာပြန်။
၂။ ကထိန်အရသာ။
၃။ ဓမ္မစကြာအရသာ။
၄။ ဘာဝနာအရသာ။
၅။ သတိပဋ္ဌာန်အရသာ။
၆။ ရှင်သာမဏေဝိနည်း။
၇။ ဦးသီလထေရုပ္ပတ္တိ။
၈။ ဂုဏ်တော်အရသာနှင့် လက္ခဏာအရသာ။
၉။ ပဋိစ္စသမုပ္ပါဒ်အခြေပြု။
၁၀။ ပဋိစ္စသမုပ္ပါဒ်အရသာ။
၁၂။ ဓမ္မာတိကာအရသာ။
၁၃။ ဥပါသကာလက်သုံး။
၁၄။ ဝိသုဒ္ဓိမဂ်အရသာ။
၁၅။ သင်္ဂြိုဟ်အရသာ။
၁၆။ ကမ္မဝါကျံဆောင် အခန်း ၂၀။
၁၇။ သိဿကောဝါဒစကားပုံ။
၁၈။ ဆန်းအရသာနှင့် ဆန္ဒောမဉ္ဇရီအရသာ။
၁၉။ ဝိနည်းငါးကျမ်းဘာသာပြန်နှင့် ဝိနည်းငါးကျမ်းအရသာ။
၂၀။ ကဆုန်လပြည့်အရသာ။

---

## ၁၇၀။ ရှင်သုဘာသိတ (ကန်တွင်းဆရာတော်)
(၁၂၄၉-၁၃၂၀)

ပြည် ကန်တွင်းဆရာတော်ကို ၁၂၄၉-ခုနှစ်တွင် ဟသ်ာတခရိုင် အင်ပူမြို့နယ် သမ္ဘရာတိုင်းရွာ၌ ကုန်သည် ဦးသာဒွန်းအောင်-ဒေါ်ပု စွန့်တို့မှဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်ဖိုးနှံဖြစ်လေသည်၊ငယ်စဉ် က ပဌမ အုဂ်ဖိုရ် ဆရာတော်ကြီးထံတွင်၎င်း, အင်ပူ ကန်ကုန်း ကျောင်းဆရာတော် ရှင် ဝိစိတ္တထံတွင်၎င်း, ပန်းတောင်းမြို့ပန်းတောင်း ဆရာတော်ထံတွင်၎င်း စာပေသင်ကြားရာ အရွယ်ရောက်လျှင် ရဟန်းပြု တော်မူသည်၊ ဆရာတော်သည် ၁၂၇၅-ခုနှစ်မှစ၍ ကံတွင်းဆုတောင်း ပြည့် ကျောင်းတိုက်ကို လက်ခံတော်မူ၍ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကို လည်း ခံယူရလေသည်၊ဆင္ဃသံဂါယနာတွင် ဩဝါဒါစရိယဆရာတော် တပါးဖြစ်၍ ဒွါရဂိုဏ်း မဟာယနာကလည်းဖြစ်တော်မူသည်။

ဆရာတော်သည် ၁၃၂၀-ပြည့်နှစ်တန်ခူးလဆန်း ၁၀-ရက်နေ့တွင် ပျံလွန်တော်မူရာ ကျမ်းပေါင်း ၅၀-ပြုစုခဲ့သည့်အနက် အောက်ပါ ကျမ်းများမှာထင်ရှားလေသည်။

၁။ ဝုတ္တောဒယတ္တမဉ္ဇူရီ။
၂။ မရဏာသတိဒီပက။
၃။ ကာယောဝါဒဒီပက။
၄။ လောကဝိနိစ္ဆယ။
၅။ ဩပပါတိကဝိနိစ္ဆယ။
၆။ အင်ပူထေရုပ္ပတ္တိ။

---

## ၁၇၁။ ရှင်ပညာဝံသ (စတုတ္ထမြစ်ကွေးဆရာတော်)
(၁၂၅၁-၁၃၀၆)

*စတုတ္ထမြစ်ကွေးဆရာတော်ကို ၁၂၅၁-ခုနှစ်တပို့တွဲလဆန်း၄-ရက် နေ့တွင် ဟသ်ာတခရိုင် ကနောင်မြို့အိုးဖိုတိုက် ပက်ထော်ကြီးခေါ် ချောင်းရိုးကုန်းရွာ၌ ဦးမှန်-ဒေါ်ရင်မင်းတို့မှ ဖွားမြင်သည်၊ ငယ်စဉ်က

* ပဌမ မြစ်ကွေးဆရာတော်ရှင်သဒ္ဓမ္မ, ဒုတိယမြစ်ကွေးဆရာတော်ရှင်ပညာ ရံသီ, တတိယ မြစ်ကွေးဆရာတော် ရှင်ဝိမလဗုဒ္ဓိ, (၁၂၃၉-၁၂၉၂) စတုတ္ထ မြစ်ကွေးဆရာတော် ရှင်ပညာဝံသ, ပဉ္စမမြစ်ကွေးဆရာတော်ရှင်နန္ဒဓဇဖြစ်သည်။

ကနောင်မြို့နယ် ဘုရားတောင်ဆရာတော်ထံတွင် စာပေသင်ကြား၍ သာမဏေပြုသည်၊ ဘွဲ့တော်မှာ ရှင်ပညာဝံသဖြစ်သည်၊ ဟသ်ာတ တတိယမြစ်ကွေးဆရာတော်ထံ၌ ပညာဆက်လက်ဆည်းပူး၍ ရဟန်း ဘောင်သို့ တက်ရောက်သည်၊ ရှင်ပညာဝံသ ဘွဲ့ကိုပင် ခံယူသည်၊ ထိုနောက်မန္တလေးမြို့ ခင်မကနန်တိုက်သို့ကြွရောက်လျက် ပညာဆည်းပူး တော်မူ၍ မနုဖြူမြို့ ခင်မကန်ကျောင်းတိုက်တွင် စာချဆရာတော်အဖြစ် ချီးမြှောက်ခြင်းခံရသည်၊ ထိုနောက် ဟသ်ာတ မြစ်ကွေးကျောင်း တိုက်တွင် တိုက်အုပ်စာချ ဆရာတော်အဖြစ် ဆောင်ရွက်ရသည်၊ တတိယမြစ်ကွေးဆရာတော် ပျံလွန်တော်မူသော ၁၂၆၂-ခုနှစ်မှစ၍ ကျောင်းတိုက်ကြီး၏ဦးစီးနာယကဖြစ်လာလေသည်။

ဆရာတော်သည် စာပေအစုအဆောင်းများ၍ ဗဟုသုတပြည့်စုံ တော်မူသည်၊ စာပေကျမ်းဂန်ပေါက်မြောက်တော်မူသည်၊ ရှေးဟောင်း ပေစာအများကို ထိန်းသိမ်းထားတော်မူခဲ့သည်၊ ဆရာတော်သည် ကွင်းကောက်မြို့ ရွှေကျောင်းတိုက်၌ ၁၃၀၆-ခုနှစ် ပြာသိုလပြည့်ကျော် ၃-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော် မူခဲ့လေသည်။

၁။ အဂ်ပုရဝိနိစ္ဆယ။(၁၃၀၂-ခုနှစ်ပြီး)
၂။ ပိဋကသမိုင်း။

# နောက်ဆက်တွဲ (က)

ဤနောက်ဆက်တွဲပါ ဆရာတော်များ၏ ထေရုပ္ပတ္တိများကိုရိုက်နှိပ်ဆဲထပ်မံစုဆောင်းရရှိသဖြင့် သက္ကရာဇ်စဉ်အတိုင်း ကြားညှပ်ထည့်သွင်းနိုင်ခြင်းမရှိပါ၊ ထို့ကြောင့် သက္ကရာဇ်အလိုအားဖြင့် ဆိုင်ရာတွင်ညှပ်သွင်းမှတ်ယူကြစေလိုပါသည်။

## ၁၇၂။ ရှင်ဝိနယာလင်္ကာရ (ဒုတိယနံ့မော်ဆရာတော်)

(၁၁၃၈–၁၂ × ×)

*နံ့မော်ဆရာတော်မှာ သာယာဝတီမင်းလက်ထက်တွင် ထင်ရှားသောဆရာတော်ဖြစ်သည်၊ ၁၁၃၈-ခုနှစ်တွင် ဖွားမြင်၍ ငယ်စဉ်က သာမဏေပြုကာ ပျို့အများရေးသည်၊ ထိုနောက် ဉာဏာဘိဝံသဗိုလ်ပြန် အရှင်အာသဘာလောကကို ဥပဇ္ဈာယ်ပြု၍ ရဟန်းပြုသည်၊ ဆရာတော်သည် မင်းကြီးမဟာသက်တော်ရှည်တိုက်တွင်၎င်း, ဆင်တဲဆရာတော်အစရှိသောကျမ်းတတ်ပုဂ္ဂိုလ်အများထံတွင်၎င်း ပိဋကတ်သင်ယူသည်၊ ဝိနည်းတော်ကို အထူးလေးစားတော်မူသည်၊ ဆရာတော်သည် မန်းကျည်းချောင်းရွာကျောင်း,မြစ်သားမြို့နယ်ခြံကြီးကွေ့ရွာ အုတ်ပြာသာဒ်ကျောင်းများ၌သီတင်းသုံးတော်မူသည်၊ရှမ်းပြည် ရပ်စောက်မြို့ ရွှေအင်တောင် အနောက်ခင်ရိုးရွာတိရွာ ပန်တင်ဂူ (ပဏ္ဏဂူ)အနီး နံ့မော်ရွာကျောင်းတွင် သီတင်းသုံးတော်မူသည်၊ ဒုတိယ နံ့မော်ဆရာတော်၏ တပည့်လည်းဖြစ်သည်၊ ဆရာတော်သည် အောက်ပါကျမ်းများကိုပြုစုတော်မူခဲ့သည်။

၁။ သီလဝိသောဓနီ(၁၁၉၄)။
၂။ ကထိနဝိနိစ္ဆယ။
၃။ သီမဝိနိစ္ဆယ။
၄။ ဒေသနာကံ,ဝုဋ္ဌာနကံအစီအရင်။
၅။ လောကဓမ္မပျို့(၁၁၅၃)(နာထာနာထပျို့)။
၆။ ပရာဘဝပျို့(ဌာနာဌာနပျို့)။

---

* ပဌမ နံ့မော်ဆရာတော်ကား ဆိုထားဆရာတော်၏တပည့်ရှင်သာရမဉ္ဇူ ဖြစ်၍ ဒုတိယနံ့မော်ဆရာတော်ကား ရှင်ဓမ္မပါလဖြစ်သည်။

၇။ သာရတ္ထစာရီပျို့(နရာနရချီ)။
၈။ သက်ပွပျို့(မဟာဝံသချီ)။
၉။ *မဃဒေဝပျို့(အနောပမချီ)။

---

## ၁၇၃။ ရှင်သီရိဓမ္မ (မဟာနာဂဝံသဆရာတော်)

(၁၁၉၂-၁၂၆၀)

မဟာနာဂဝံသဆရာတော်ကို ၁၁၉၂-ခုနှစ် ဝါဆိုလဆုတ် ၅-ရက်နေ့တွင် အုဂ်ဖိုရ်မြို့၌ ဦးမိုးညို-ဒေါ်နှောင်းတို့မှဖွားမြင်သည်၊ ငယ်မည်မှာ မောင်သာရွှေဖြစ်သည်၊ အရွယ်သို့ရောက်သော် ဦးစလင်းတွင်သည်၊ ဇလွန်မြို့ဆရာတော် ရှင်နန္ဒမာလာထံတွင် ပညာသင်ကြား၍ သာမဏေပြုရာရှင်သီရိဘွဲ့ခံသည်၊ အမရပုရမြို့သို့သွား၍ စံကျောင်းဆရာတော်ထံ၌ပညာသင်ကြားကာ မြင်ကွန်းမြို့တောရဆရာတော် ရှင်မေဓာထံတွင်ရဟန်းပြုသည်၊ ရှင်သီရိဓမ္မဘွဲ့ခံယူသည်၊ ထိုနောက် ဆင်တဲဆရာတော် ရှင်ဉာဏထံ၌၎င်း၊ မြင်းခြံမြို့ကိုးဆောင်တိုက်၌၎င်း စာပေသင်ကြားပြီးလျှင် ဇလွန်မြို့သို့ပြန်ကြွလာသည်၊ အုဂ်ဖိုရ်ဆရာတော်ကြီးထံတွင် ပိဋကတ်တော်များသင်ယူတော်မူသည်၊ ဆရာတော်သည် မော်လမြိုင်မြို့ မဟာနာဂဝံသကျောင်း၊ မေဓာဝီကျောင်း၊ ပြည်တောရကြီး၊ ငွေလေးတောင်ကျောင်း၊ ရွှေဟင်္သာတောရကျောင်း၊ ကြည့်မြင်တိုင်ကျွန်းတောကျောင်းစသည်တို့၌ လှည့်လည်သီတင်းသုံးသည်။

ဆရာတော်သည် ၁၂၆၀-ခုနှစ် တပို့တွဲလဆုတ် ၁၁-ရက်နေ့တွင် ဇလွန်မြို့ ဒုတိယမဟာနာဂဝံသကျောင်း၌ပင်ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ သီလသံယမဝိနိစ္ဆယ။
၂။ မင်္ဂလာသာရဒီပနီ။
၃။ ဝိနယဝိနိစ္ဆယ။
၄။ ကလျာဏောဝါဒဓမ္မစရိယ။
၅။ ပုညာနုဘာဝပကာသနီ။
၆။ အနေကဇာတင်အဆုံးအဖြတ်။

---

* မန်လည်ဆရာတော်၏ မဃဒေဝလင်္ကာကား-ပျို့သစ်တည်း။

၇။ သိက္ခာပဒဝိနိစ္ဆယ။
၈။ အဗြဟ္မစရိယဝိနိစ္ဆယ။
၉။ ပဒဝိသောဓနီ။
၁၀။ ကဝိပုစ္ဆာ။
၁၁။ ဗောဓိမဂ္ဂစာတမ်း။
၁၂။ ကမ္မဝိနိစ္ဆယဒုစရိုက်ခွဲ။

---

## ၁၇၄။ ရှင်စန္ဒိမာ (ဟသ်ာတပဌမလယ်တီဆရာတော်)

(၁၁၉၃-၁၂၆၈)

ရှင်စန္ဒိမာကို ၁၁၉၃-ခုနှစ် ဝါခေါင်လဆုတ် ၃-ရက်နေ့တွင် သာရဝေါတိုက်နယ် လုလင်ကျော်ရွာ၌ ဦးရွှေကူး-ဒေါ်ရွှေနုတို့မှ ဖွားမြင်သည်၊ငယ်မည်မှာ မောင်ပုနောင်ဖြစ်၍ ငယ်စဉ်ကကြံခင်းကျောင်းတိုက်ဆရာတော်ထံတွင် ပညာသင်ကြားသည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်စန္ဒိမာဘွဲ့ခံယူသည်၊ ဆရာတော်သည် မြင်းခြံမြို့ပြောင်းပြဲတိုက်၊ မန္တလေးခင်မကန်တိုက်တို့တွင် ပညာသင်ကြား၍ အုဂ်ဖိုရ်ဆရာတော်ကြီးထံ၌ဆည်းကပ်သည်၊ဟသ်ာတနယ်၌ဒွါဒဂိုဏ်း သာသနာတော်ကို ခက်ခဲစွာထူထောင်တော်မူသည်၊ ဘုရားကြီးဆရာတော် ရှင်သာဂရဗုဒ္ဓိ, ဓနုဖြူဆရာတော်ရှင်နရိန္ဒတို့ကား ဆရာတော်၏တပည့်များဖြစ်သည်။

ဆရာတော်သည် ၁၂၆၈-ခုနှစ် ဝါခေါင်လဆန်း ၃-ရက်နေ့တွင် ပျံလွန်တော်မူသည်၊ ပြုစုတော်မူသောကျမ်းကား ဝိဝါဒပဟာနကျမ်း သာထင်ရှားသည်။

---

## ၁၇၅။ ရှင်သုဇာတ (ရွှေလှံဆရာတော်)

(၁၂၀၈-၁၂၉၀)

ရွှေလှံဆရာတော်ကို တန့်ဆည်မြို့နယ် လက်တောအုပ်စု ရွှေလှံရွာ၌ ဦးအုန်း-ဒေါ်ချိတို့မှ ၁၂၀၈-ခု ဝါဆိုလပြည့်ကျော် ၂-ရက်နေ့တွင် ဖွားမြင်သည်၊ ငယ်မည် မောင်ပြန့်ဖြစ်သည်၊ ငယ်စဉ်က မင်းကုန်းရွှေကျောင်းဆရာတော် ရှင်စန္ဒာဘိလင်္ကာရထံ၌ ပညာသင်ကြားတော်မူ၍ အရွယ်ရောက်လျှင် ရှင်ဂန္ဓမာကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင်သို့

တက်ရောက်သည်၊ ဘွဲ့တော်မှာ ရှင်သုဇာတဖြစ်သည်၊ ဆရာတော်သည် သင်္ဂဇာဆရာတော်၏တပည့် ပုလဲတောရတိုက်နေရှင်ဥတ္တမာဘိလင်္ကာရ ထံတွင်လည်း ပိဋကတ်တော်များဆည်းပူး၍ ထန်းတပင်မြို့နယ် မှန်သာ တိုက်၌ သီတင်းသုံးတော်မူသည်၊ ၁၂၅၀-ပြည့်နှစ်တွင် ရွှေလှံ့ရွာသို့ ကြွရောက်သီတင်းသုံးတော်မူသည်၊ ဆရာတော်သည် ၁၂၈၀-ပြည့်နှစ် သီတင်းကျွတ်လဆုတ် ၄-ရက်နေ့တွင် ပျံလွန်တော်မူသည်။

## ၁၇၆။ ရှင်ဇေယျသင်္ခ (မိုးနံ့ကုန်းဆရာတော်)
### (၁၂၀၉-၁၂၇၄)

မိုးနံ့ကုန်းဆရာတော်ကို ၁၂၀၉-ခုနှစ်တွင် ရမည်းသင်းမြို့ ရွှေဒါး ဘူတာအနောက်ပေတောကုန်းရွာ၌ အဘဦး+- ဒေါ်ဘုံကြီးတို့မှ ဖွား မြင်သည် ငယ်မည်မှာဦးမှုန်ဖြစ်သည်၊ငယ်စဉ်က ပေတောကုန်းကျောင်း တိုက် ရှင်ဉာဏထံတွင် ပညာသင်ကြား၍ အရွယ် ရောက်သော် သာမဏေပြုသည်၊ ထိုနောက်မန္တလေးမြို့တောင်ပြင်ဘုရားကြီးကျောင်း တိုက်တွင် ရဟန်းဘောင်သို့ တက်ရောက်တော်မူလေသည်၊ ထိုနောက် စလင်းဆရာတော် ရှင်ကေတုထံ၌ ပညာဆည်းပူးသည်၊ မင်းတုန်းမင်း ကြီးက ပဌမစာချတန်းဂုဏ်ထူးဘွဲ့ဆက်ကပ်ပူဇော်တော်မူသည်၊ စကြာ ဒေဝီမိဖုရားကြီးကိုးကွယ်တော်မူသည်၊သီပေါမင်းလက်ထက် ပေတော ကုန်းကျောင်းတိုက်သို့ ပြန်ကြွ၍ပျော်ရွှာ, ဝိတောက်ကုန်း ရွာများ၌ သီတင်းသုံးတော်မူသည်၊ တောင်ခွင် သာသနာပိုင် ဆရာတော်က ရန်အောင်ဂိုဏ်းအုပ်ဆရာတော်အဖြစ်ခန့်အပ်တော်မူသည်၊ ဆရာတော် သည် ၁၂၇၄-ခုနှစ် တပေါင်းလဆန်း ၈-ရက်နေ့တွင် ပျံလွန်တော် မူသည်၊ဆရာတော်သည် မိုးနံ့ကုန်းအဆုံးအဖြတ် စသောကျမ်းများကို ပြုစုခဲ့လေသည်။

## ၁၇၇။ ရှင်သာဂရဗုဒ္ဓိ
### (ပဌမဘုရားကြီးဆရာတော်-ဟင်္သာတ)
### (၁၂၁၀-၁၂၇၃)

ရှင်သာဂရကို ၁၂၁၀-ပြည့်နှစ်တပေါင်းလဆန်း ၉-ရက်နေ့တွင် ဟင်္သာတမြို့ တာငါးဆယ်ရပ်၌ ဦးမှုန်-ဒေါ်ပုတို့မှ ဖွားမြင်သည်၊

ယေမည်မှာ မောင်ဖဲဖြစ်သည်၊ ငယ်စဉ်ကညောင်ကုန်းဘုန်းတော်ကြီးထံ စာပေသင်ကြား၍ သာမဏေပြုသည်၊ ဘွဲ့တော်မှာရှင်သာဂရဖြစ်သည်၊ အရွယ်ရောက်လျှင် ဟသ်ာတလယ်တီဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရှင်သာဂရဘွဲ့ဖြင့်ရဟန်းပြုသည်၊ မန္တလေးမြို့သင်္ဂဇာတိုက်, စကုတိုက်, မဏ္ဍလာရာမတိုက်, သစ်ဆိမ့်တိုက်များတွင် ပညာသင်ကြားသည်၊ အုဂ်ဖိုရ်ဆရာတော်ကြီးထံ၌လည်းဆည်းကပ်သည်၊ ၁၂၄၆-ခုနှစ်တွင် ဓနုဖြူမြို့ ဇောတိကာရာမတိုက်ကို တည်ထောင်ပြီးနောင်သော် တောရ ဆောက်တည်သည်၊ ၂-နှစ်ခန့်ကြာမှ ဟသ်ာတမြို့ ဘုရားကြီးတိုက်၌ သီတင်းသုံးသည်၊ ဆရာတော်သည် ၁၂၇၃-ခုနှစ် နယုန်လဆုတ် ၁-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော် မူခဲ့လေသည်။

၁။ ပသင်္ဂဝိနောဒနီ။
၂။ ပတ္တနိကုဇ္ဇနဒီပနီ။
၃။ ယာနဒီပနီ။
၄။ ကာလိကဒီပနီ။
၅။ အက္ခရတ္ထဒီပနီ။
၆။ ပဏ္ဏာမဒီပနီ။
၇။ မရဏာသန္နဝီထိဝိဘာဝနီ။
၈။ အနုသရဝိဘာဝနီ။
၉။ ကာယာနုပဿနာဒီပနီ။
၁၀။ မင်္ဂါဠဂမဒီပနီ။

---

## ၁၇၈။ ရှင်ရာဇည
## (ဒုတိယဘုရားကြီးဆရာတော်-ဟသ်ာတ)
## (၁၂၂၃-၁၂၇၉)

ရှင်ရာဇညကို ၁၂၂၃-ခုနှစ်နှောင်းတန်ခူးလဆန်း ၄-ရက်နေ့တွင် ဟသ်ာတမြို့ ရုံးကြီးရပ်၌ ဦးလူကလေး-ဒေါ်ဖြူတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ရွှေအောင်ဖြစ်သည်၊ ငယ်စဉ်ကဦးအုဂ်ဖိုရ်ကျောင်း၌ ပညာသင်ကြား၍ ဟသ်ာတလယ်တီဆရာတော်ထံ၌ ပညာဆက်လက် သင်ကြားလျက် သာမဏေပြုသည်၊ ဘုရားကြီးဆရာတော်ရှင်သာဂရဗုဒ္ဓ

နှင့်မနုဖြူဆရာတော်ရှင်နရိန္ဒတို့ထံတွင် စာပေသင်ကြား၍ ၁၂၄၂-ခုနှစ်၌ရဟန်းဘောင်သို့တက်ရောက်ရာ ရှင်ရာဇဉ္ဇဘွဲ့ခံသည်၊ မန္တလေးမြို့ထီးလင်းတိုက်၌သီတင်းသုံး၍ မိုးထားဆရာတော်,မိုင်းခိုင်းဆရာတော်, ဆူးခါးဆရာတော်တို့ထံ၌ ပညာဆက်လက်ဆည်းပူးသည်၊ ၁၂၆၀-ပြည့်နှစ်တွင် ဟသ်ာတမြို့သို့ ပြန်လည်ကြွရောက် သီတင်းသုံးသည်၊ ဆရာတော်သည် ၁၂၇၉-ခုနှစ်နယုန်လဆန်း ၃-ရက်နေ့တွင် ပျံလွန်တော်မူသည်၊ သဂ္ဂဟေပဟိန္ဒိဘာသာများကိုလည်း တတ်ကျွမ်းတော်မူသည်၊ ပြုစုတော်မူသောကျမ်းများမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ ဒွိရာသဥ္ဇဝိနိစ္ဆယစာတမ်း။
၂။ သလ္လေခပဋိပတ္တိကျမ်း။
၃။ ဆက္ကပဥ္စာဝိသဇ္ဇနာကျမ်း။

---

## ၁၇၉။ ရှင်ဂုဏဝံသ
## (ဒုတိယသဒ္ဓမ္မဇောတိကာရာမဆရာတော်)
## (၁၂၂၃-၁၂၉၇)

ရှင်ဂုဏဝံသကို ၁၂၂၃-ခုနှစ် တပို့တွဲလဆုတ် ၁၁-ရက်နေ့တွင် ညောင်တုန်းမြို့နယ်သံကြိုးရွာ၌ ဦးထွန်းဦး-ဒေါ်သဲကြာတို့မှ ဖွားမြင်လေသည်၊ ငယ်စဉ်ကညောင်ချောင်းရွာ ခါးပန်းနီဘုန်းတော်ကြီးထံ၌ ၎င်း, ကလျာဏီဘုန်းတော်ကြီးထံ၌၎င်း စာပေသင်ကြားသည်၊ အရွယ်ရောက်လျှင် ရဟန်းပြု၍ ဆကာကြီးရွာလယ်ပြင်ကျောင်း၌ စာပေသင်ကြားပြန်ကာ ဓနုဖြူမြို့ သဒ္ဓမ္မဇောတိကာရာမတိုက်သို့ မွေ့ပြောင်းကာ ပိဋကတ်တော်များ သင်ယူလေသည်၊ စစ်ကိုင်းခရိုင် ခင်မွန်ရွာ မဟာဗောဓိတောရဆရာတော်ထံ၌လည်း ဆည်းကပ်ဘူးလေသည်၊ ၁၂၀၀-ပြည့်နှစ်တွင် သံဃဒတ္တိယ အနုနာယက ဘွဲ့ကိုခံယူ၍ ၁၂၀၂-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကို ရရှိတော်မူလေသည်၊ ဆရာတော်သည် ၁၂၉၇-ခုနှစ်ပြာသိုလဆုတ် ၃-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ သာရုပသာဒက။

၂။ စာဏကျနီတိနိသျ။
၃။ သာရသင်္ဂဟာရ။
၄။ ဝါဒါနုဝါဒအနုဋီကာ။
၅။ သာရတ္ထပ္ပကာသိနီ၊ နိသျ။
၆။ ကမ္မဝိဘင်္ဂ၊ ဒီပနီ၊ နိသျ။
၇။ ရူပိယဒါနဒီပနီ၊ နိဿယ။
၈။ မင်္ဂလပကာသနီကျမ်း။
၉။ ပဋိပတ္တိပကာသနီ။
၁၀။ ပဌာနပဌာဝါရပါဠိနိသျ။
၁၁။ ပစ္စဝေက္ခဏသုတ်နိသျ။
၁၂။ ဒေဝဒူတသံဝေဇနီယ။
၁၃။ အာမဂန္ဓသုတ်နိသျ။
၁၄။ ဒွါရဂိုဏ်းစည်းမျဉ်း။
၁၅။ ကမ္မာကမ္မဝိနိစ္ဆယ။
၁၆။ အာသန္နဒါနဒီပနီနိဿယ။
၁၇။ ပုဗ္ဗကောဋ္ဌဝိနိစ္ဆယ။
၁၈။ စတုဘာဏဝါရမဟာပရိတ္တနိသျ။
၁၉။ ဝုဋ္ဌာပစာယနဝိနိစ္ဆယ။
၂၀။ နဝင်္ဂသီလဝိနိစ္ဆယ။
၂၁။ ပဋိသမ္ဘိဒါပတ္တဝိနိစ္ဆယ။

---

## ၁၈၀။ ရှင်ကေသရ
## (ဒက္ခိဏာရာမဆရာတော် ကျောင်းကုန်း)
## (၁၂၂၄–၁၃၀၀)

ဒက္ခိဏာရာမဆရာတော်ကို မုံရွာမြို့ မြောက်ဖက် ကြည့်ပါယုန်ရွာ ဦးမှော်-ဒေါ်နှင်းငုံတို့မှ ၁၂၂၄-ခုနှစ် တန်ဆောင်မုန်း လဆုတ် ၁၂-ရက်နေ့တွင်ဖွားမြင်တော်မူသည်၊ ငယ်စဉ်က ပုဗ္ဗာရုံဆရာတော်နှင့် အမရပုရမြို့ ဘုံပျံတောရ ဆရာတော်ကြီးထံတွင်စာပေသင်ကြားတော်မူသည်၊ ထိုနောက် စစ်ကိုင်းမြို့ သင်္ဂဇာဆရာတော်ထံ၌လည်း ဆည်းပူး သင်ကြား၍ ရဟန်းဘောင်သို့ တက်ရောက်တော်မူသည်၊ ထိုနောက်

အမရပူရမြို့ဘုံပျံတောရကျောင်းတွင် သီတင်းသုံးတော်မူလေသည်၊ ထို နောက် မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံ၌ ပညာဆက် လက်သင်ယူပြီးနောက် ၁၂၅၃-ခုနှစ်တွင် ပုသိမ်ခရိုင် ခြောက်အိမ် တန်းရွာသို့ ကြွရောက်သီတင်းသုံးလေသည်၊ ဆရာတော်သည် ၁၃၀၈- ခုနှစ် ကဆုန်လဆန်း ၃-ရက်နေ့တွင်ပျံလွန်တော်မူသည်၊ ကျမ်းပြုတော် မူသည်ဟုမထင်ရှားချေ၊ ရွှေကျင်ဂိုဏ်းအုပ် ဆရာတော်အဖြစ် ထင်ရှား တော်မူသည်။

---

## ၁၈၁။ ရှင်ဥာဏ (မစိုးရိမ်ဆရာတော်)

(၁၂၄၅-၁၂၉၉)

ရှင်ဥာဏကို ရန်ကုန်မြို့ ၂၆-လမ်းတွင် ဦးရှမ်း- ဒေါ်အုံသီတို့မှ ၁၂၄၅-ခုနှစ်တန်ဆောင်မုန်းလဆန်း ၁၄-ရက်နေ့တွင် ဖွားမြင်သည်၊ ငယ်မည်မှာမောင်ဘငြိမ်းဖြစ်သည်၊ ငယ်စဉ်က ပြည်မြို့သို့ပြောင်းရွှေ့၍ အင်္ဂလိပ်စာသင်ကျောင်းနှင့် ဆရာကြီးဦးရာကျော် ကျောင်းတို့တွင် ပညာသင်ကြားကာ ရန်ကုန်မြို့သို့ပြောင်းရွှေ့၍ သာမဏေပြုလေသည်၊ ဘွဲ့တော်ကို ရှင်ဉာဏဟူ၍ ခံယူသည်၊ ထိုနောက် အရွယ်ရောက်လျှင် လောကီမှုကိုစက်ဆုပ်၍ ရဟန်းဘောင်သို့တက်ရောက်သည်၊ ဥပဇ္ဈာယ် ဆရာတော်ကား ရွှေခုံတိုင်ဆရာတော်ကြီးဖြစ်သည်၊ ၁၂၆၈-ခုနှစ်တွင် ပခုက္ကူမြို့ရေစကြိုဆရာတော်ရှင်ဂန္ဓထံတွင် ပညာဆက်လက် သင်ကြား ရာ ၈-ဝါအရတွင် ပဌမကျော်အောင်ပန်းဆွတ်လှမ်းနိုင်လေသည်။

ရှင်ဉာဏသည် မစိုးရိမ်ကျောင်းတိုက်တွင် ဆက်လက်သီတင်းသုံး၍ စာချစာသင်အဖြစ် ဆောင်ရွက်တော် မူလေသည်၊ ဆရာတော်သည် ပါယာသိရာဇညသုတ်ကိုမြန်မာဘာသာပြန်ဆို၍ လယ်တီဆရာတော်၏ နိယာမဒီပနီ, ဝိပဿနာဒီပနီ,ပဋ္ဌာနုဒ္ဒေသဒီပနီကျမ်းများကို အင်္ဂလိပ် ဘာသာသို့ပြန်ဆိုတော်မူလေသည်၊ အင်္ဂလန်ပြည်ဗုဒ္ဓဘာသာအသင်းမှ မေးမြန်းသော ဗုဒ္ဓဘာသာဆိုင်ရာပုစ္ဆာတို့ကိုလည်း အင်္ဂလိပ်ဘာသာ ဖြင့် ပြန်ဆိုတော်မူသည်၊၁၂၉၃-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် တော်ကိုရရှိလေသည်။

ဆရာတော်သည် ၁၂၉၄-ခုနှစ် သီတင်းကျွတ်လဆုတ် ၃-ရက်နေ့တွင် ပျံလွန်တော်မူရာ အောက်ပါကျမ်းများကို ပြုစုတော်မူခဲ့လေသည်။

၁။ ပါယာသိရာဇညသုတ်မြန်မာပြန်။

၂။ သဒ္ဒတ္ထရတနာဝလိ။(ပါဠိအဘိဓာန်)

---

## ၁၈၂။ ရှင်ကဝိဓဇ (ဗဟန်းကျောင်းဆရာတော်)

(၁၂၅၁-၁၃၂၀)

ရှင်ကဝိဓဇကို ရခိုင်ပြည် ရမ်းဗြဲမြို့ မြောက်ဖက် လက်ပံရွာကြီး၌ ဦးမောင်သာဖြူ-ဒေါ်အောင်သာဖြူတို့မှ ၁၂၅၁-ခုနှစ်တန်ဆောင်မုန်းလဆုတ် ၆-ရက်နေ့တွင်ဖွားမြင်တော်မူသည်၊ ငယ်စဉ်ကလက်ပံရွာကျောင်း၌ စာပေသင်ကြားလေသည်၊ ထိုနောက် ရှင်တိလောကဂုရုဆရာတော်ထံ၌ စာပေသင်ကြား၍ သာမဏေပြုသော် ရှင်ကဝိဓဇဘွဲ့ခံယူလေသည်၊ ထိုနောက် ပုသိမ်မြို့,ဝါးခယ်မမြို့တို့၌ ပညာသင်ကြားပြန်၍ ကွမ်းခြံကုန်းဆရာတော်ထံတွင် ရဟန်းဘောင်သို့တက်ရောက်လေသည်၊ ထိုနောက် မန္တလေးမြို့သို့ကြွရောက်၍ ကိုးဆောင်ဆရာတော်ထံတွင် စာပေသင်ကြားသည်၊ ၂-ဝါရသောအခါပဲခူးမြို့မင်းကျောင်းဆရာတော်ထံ၌၎င်း, မြင်းခြံမြို့စမ်းကျွဆရာတော်ထံ၌၎င်း, ပြည်မြို့ရှင်အရိယဝံသာလင်္ကာရထံ၌၎င်း ပညာဆည်းပူးတော်မူ၍ ကျမ်းဂန်နှံ့စပ်တော်မူသည်၊ ရဟန်း ၉-ဝါအရတွင် ရခိုင်ပြည်သို့ပြန်ကြွ၍ ရမ်းဗြဲမြို့ဗဟန်းကျောင်းတိုက်ကြီးတွင် သီတင်းသုံးတော်မူလေသည်၊ ဆရာတော်သည် ဆဋ္ဌသင်္ဂီတိကာရကဆရာတော်အဖြစ်လည်း ဆောင်ရွက်ခဲ့လေသည်။

ဆရာတော်သည် ၁၃၂၀-ခုနှစ်ဝါခေါင်လပြည့်နေ့တွင် ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ အတိသမ္ဘုဋ္ဌဒီပက။

၂။ ဒါနဘေဒပကာသနီ။

၃။ ဥပေါသထိကလက်စွဲ။

၄။ သီလဘေဒပကာသနီ။

၅။ ကထိနဝိဝါဒဝိနိစ္ဆယ။

၆။ ပတ္တနိကုဇ္ဇနည်ဝါဒကထာ။
၇။ တာဝကာလိကခဏိကဒိန္နဝိနိစ္ဆယ။
၈။ ယထာဓမ္မဝိနယဝိနိစ္ဆယ။
၉။ တိကပဥ္စဝိသဇ္ဇနာ။
၁၀။ ဥဒကုက္ခေပသီမဝိနိစ္ဆယ။
၁၁။ ဓာတုမနသိကာရရှုဖွယ်။
၁၂။ ဝိဟာရဝိနိစ္ဆယ။
၁၃။ ပဗ္ဗဇ္ဇဝိနိစ္ဆယ။
၁၄။ ပရိဏာတဒါနဝိနိစ္ဆယ။
၁၅။ ပဥ္စဗျာကရဏ။
၁၆။ ဗုဒ္ဓဝင်သံပေါက်လက်ာ။
၁၇။ မဟာသုပိနဇာတ်ဘာသာပြန်။
၁၈။ ဓာတ်ကျမ်းသံပေါက်။
၁၉။ ရသဓာတုကျမ်း။
၂၀။ ဓာတုပကာသနီကျမ်းနောက်ဆက်တွဲ။
၂၁။ ကုထုံးဥပဒေသအစာပေးဆေးကျမ်း။
၂၂။ ရမ်းဗြိကျွန်းအတ္တုပ္ပတ္တိနှင့် ဗဟန္တပဗ္ဗတနိကာယထေရဝံသပ္ပ ရမ္မရကထာ။

---

## ၁၈၃။ ရှင်ပညာသာမိ
## (တတိယမောင်းထောင်ဆရာတော်)
## (၁၁၇၇-၁၂၃၀)

တတိယမောင်းထောင်ဆရာတော်မှာ ဒုတိယ မောင်းထောင်ဆရာတော်ရှင်ဥေ ယျ၏တပည့်ပင်ဖြစ်၍မင်းတုန်းမင်းလက်ထက်တွင် ပညာသာမိ သီရိကဝိဓဇမဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်တော်ကို ရရှိတော်မူသည်၊ ဆရာတော်ကို ၁၁၇၇-ခုနှစ် ဝါဆိုလဆန်း ၈-ရက်ကြာသပတေးနေ့တွင် မုံရွာခရိုင်ဘုတလင်နယ်မောင်းထောင်မှိုင်းသာရပ်၌ ဖွားမြင်သည်၊ငယ်မည်မှာ မောင်သော်ဖြစ်သည်။

အရွယ်ရောက်သော် မောင်းထောင်ကုန်းသာတိုက်တွင် ပညာသင်ကြား၍ အင်း၀အမရပူရမြို့တော်များတွင် ပညာဆက်လက်သင်ကြားသည်၊ ဆရာတော်ရှင်ဥေ ယျ၏ လက်ရုံးတပည့်ကြီးလည်း ဖြစ်တော်မူသည်။

ဆရာတော်သည် ၁၂၃၀-ပြည့်နှစ် တပို့တွဲလတွင် မန္တလေးမြို့ အရှေ့ပြင်မင်္ဂလာရာမတိုက်၌ ပျံလွန်တော်မူရာ ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ နိရယကထာဒီပက။
၂။ ရာဇသေ၀ကဒီပနီ။
၃။ ၀ိ၀ါဒ၀ိနိစ္ဆယ။
၄။ အာပတ္တိ၀ိနိစ္ဆယ။
၅။ နာဂရာဇုပ္ပတ္တိကထာ။
၆။ ဝေါဟာရတ္ထဘေဒ။
၇။ ဥပေါသထ၀ိနိစ္ဆယ။
၈။ သဒ္ဒနီတိဋီကာပါဌ်။
၉။ သီလကထာ။
၁၀။ အက္ခရ၀ိသောဓနီ။
၁၁။ သာသနဝံသပ္ပဒီပိကာပါဌ်။
၁၂။ ဇာတတ္ထကီဋီကာသစ်ပါဌ်။
၁၃။ ငါးရာ့ငါးဆယ်ဋီကာ။
၁၄။ ၀ိ၀ိဓ၀ိနိစ္ဆယကျမ်း။
၁၅။ ဥပါယကထာ။
၁၆။ ဒေါသကထာ။
၁၇။ နဝဗုဒ္ဓပူဇာနကျမ်း။
၁၈။ အဘိဓာန်ဋီကာနိသျသစ်။(၁၂၁၁)
၁၉။ ပေါရာဏကထာကျမ်း။

# အဋ္ဌကထာပွဲတွင်ကောင်အပြည့်အစုံစုံစုံမဏိရာဘော ကျမ်းပြုဆရာတော်အချို့

၁။ **ကရဝိကရှင်**။ ။ပထမ ကျော်အောင်စံထား ဆရာတော် တပည့်။

မင်းလှယဉ်နုပျို၊မင်းရဲ ကျော်စွာလေးထပ်ကျောင်း တည်မေ်ကွန်း။

၂။ **ကဝိန္ဒ၊ ရှင်။** (ငါးစီးတိုက် ဆရာတော်)။ (မင်းတုန်းမင်း လက်ထက်။)

ကထာဝတ္ထုပါဠိတော်အဋ္ဌကထာနိသျ။

၃။ **ခေမာစာရ၊ ရှင်**။ ။ ပုပ္ပါး အနီး မဲထီးရွာ ဇာတိ ပထမ ကျော်အောင်စံထား တပည့် (ဟံသာဝတီပါမင်း လက်ထက်)

ဝိနိစ္ဆယရာသီဓမ္မသတ်ကြီး။

၄။ **ဂုဏာဝန္ဒသက၊ ရှင်**။ ။ပုဂံမြို့(စောမွန်နှစ်မင်း လက်ထက်)။

သုတ်သီလက္ခန်ပါဠိတော်နိသျ ဟောင်း၊ ၎င်းအဋ္ဌကထာနိသျဟောင်း၊ သုတ်မဟာဝါ ပါဠိတော် နိသျ ဟောင်း၊ ၎င်းအဋ္ဌကထာနိသျဟောင်း၊ သုတ်ပါထေယျ ပါဠိတော်နိသျဟောင်း၊ ၎င်းအဋ္ဌကထာ နိသျဟောင်း၊ ကဝိသာရ ဋီကာသစ်နိသျ၊ မုခမတ္တဒီပနီနိသျဟောင်း။

၅။ **ဂုဏာသာဂရ၊ ရှင်**။ ။ပုဂံမြို့။

မုခမတ္တသာရဒီပနီ၊၎င်းဋီကာ။

၆။ **ဂုဏာလင်္ကာရ၊ ရှင်၊(ဒန့်တိုင်ဆရာတော်)**။ ။ပင်းတလဲမြို့ လှည်း ကူးမရွာဇာတိ၊ (ဆင်ဖြူရှင်လက်ထက်)။

ခုဒ္ဒကပါဌ ပါဠိတော်နိသျ၊ စရိယာပိဋက ပါဠိ တော်နိသျ၊ မိလိန္ဒပဉှာပါဠိတော်နိသျ၊ ခုဒ္ဒကပါဌအဋ္ဌ ကထာနိသျ၊သုတ္တနိပါတ်အဋ္ဌကထာနိသျ၊ ဇာတ်တော် ကြီးဆယ်စောင် အဋ္ဌကထာနိသျသစ်၊ သုတ္တသင်္ဂဟ အဋ္ဌကထာနိသျ။

၇။ **ဂေါဓာဝရ၊ရှင်။** ။ပုဂံမြို့၊ ငှက်ပစ်တောင် ဆရာတော်။
ပုဂံမဟာရာဇဝင်ပေါင်း။

၈။ **ဝေတရော်ဆရာတော်။** ။စစ်ကိုင်း စီရင်စု ဝေတရော်ရွာ ဇာတိ၊
နေတ္တိပါဠိတော်နိသျှဟောင်း။

၉။ **စန္ဒဝံသ၊ရှင်၊(မြို့ပြင်ကြီးဆရာတော်)။** ။၁၂၆၃-ခုနှစ်တွင်ပျံလွန်
တော်မူသည်။
အဘိဓမ္မတ္ထသင်္ဂဟဒီပက၊ အဋ္ဌသာလိနီဂဏ္ဌိ၊ ဒိဋ္ဌိ
ပဘေဒပကာသနီ၊ ရူပဝီထိပကာသနီကျမ်း။

၁၀။ **စဥ္စကိုင်ဆရာတော်။** ။ပါရမီတော်ခန်းပျို့အဖြေ။

၁၁။ **စဥ္စပါဆရာတော်။** ။ဦးရှင်၊ စစ်ကိုင်းစီရင်စု မန်ကျည်းစဥ္စရွာ
ဇာတိ စဥ္စပါတောရကျောင်း (ဘကြီးတော်လက်
ထက်)။
ရတုများ၊ဓမ္မနီတိချိုး။

၁၂။ **စန္ဒိမာ၊ရှင်၊ (သီလုံးဆရာတော်)။** ။စန္ဒိမာဘိဝံသသီရိသဒ္ဓမ္မဓဇ
မဟာဓမ္မရာဇာဓိရာဇဂုရု၊ (သာယာဝတီမင်း လက်
ထက်)။စန္ဒိမာဘိသီရိကဝိဓဇ မဟာဓမ္မ ရာဇာဓိရာဇ
ဂုရု၊(မင်းတုန်းမင်း လက်ထက်)။
မူလပဏ္ဏာသအဋ္ဌကထာနိသျှ၊ ဂန္ဓာရတ္တဒေသနာ။

၁၃။ **ဆားတုံဆရာတော်။** ။မင်းတုန်းမင်း လက်ထက်။
ပုတ္တောဝါဒပျို့။

၁၄။ **ဆိတ်ဖြူဆရာတော်(ပဌမ)ရှင်ဓမ္မနန္ဒီ၊ (တိသာသနာလင်္ကာရ)။** ။
စလေစီရင်စု ကင်ပွန်းတောင်ရွာဇာတိ (စနေမင်း
လက်ထက်)။
ကမ္မဝါစာမဟာနိပ္ပဘေဒကပါဌ်။ သုဒ္ဒဿဝိကာသနီ-
(၁၀၉၀)၊ခလိတာခလိတ ဝိစာရဏာ၊ ဝိနယဝိနိစ္ဆယ
အဋ္ဌကထာနိသျှ (၁၀၉၁)၊ ဥတ္တရဝိနိစ္ဆယအဋ္ဌကထာ
နိသျှ။

**၁၅။ ဇိနာရာမ၊ရှင်။** ။(စနေမင်းလက်ထက်)။
ပါရမီတော်ခန်းပျို့အဖြေ။

**၁၆။ ဇိနာလင်္ကာရ၊ရှင်၊(တောင်ဂူဆရာတော်)။**
ဝိနိစ္ဆယတ္ထဘေဒနီဗမ္မာသတ်၊ မနုဝိနိစ္ဆယဗမ္မာသတ်။

**၁၇။ ဇောတ၊ရှင်၊(ကျောင်းတော်ရာရွှေကျင်ဆရာတော်)။**
ဗမ္မာစကြာမြန်မာပြန်၊ အနုတ္တလက္ခဏာမြန်မာပြန်။

**၁၈။ ဇမ္ဗုဒီပဓဇ၊ရှင်၊(ရွှေဥမင်ဆရာတော်)။** ။ပခန်းကြီးမြို့(သာလွန်မင်းလက်ထက်)။

ပါရာဇိကဏ်ပါဠိတော် နိသျှဟောင်း၊ ၎င်းအဋ္ဌကထာနိသျ၊ ဘိက္ခုပါစိတ်ပါဠိတော် နိသျှဟောင်း၊ ၎င်းအဋ္ဌကထာနိသျ၊ဘိက္ခုနီပါစိတ်ပါဠိတော်နိသျှဟောင်း၊ ၎င်းအဋ္ဌကထာနိသျ၊ ဝိနည်းမဟာဝါပါဠိတော် နိသျှဟောင်း၊ ၎င်းအဋ္ဌကထာနိသျ၊ စူဠဝါပါဠိတော် နိသျှဟောင်း၊ ၎င်းအဋ္ဌကထာနိသျ၊ ပရိဝါပါဠိတော် နိသျှဟောင်း၊ ၎င်းအဋ္ဌကထာနိသျ၊ (ဓာတုဝိဇ္ဇာမယကျမ်းမှာ ရွှေဥမင်ဆရာတော်မဟုတ်၊ရွှေဥမင်ဆရာဖြစ်သည်။)

**၁၉။ ဉာဏဂမ္ဘီ၊ ရှင်။** ။ပုဂံမြို့။
ဂန္ထာဘရဏ စာကိုယ်နိသျ၊

**၂၀။ ဉာဏဓမ္မဝိလာသ၊ရှင်။**
တထာဂတုပ္ပတ္တိ။

**၂၀။ ဉာဏရံသီ၊ ရှင်။**
လေးစောင်တွဲ ဗမ္မာသတ်၊ (မနုမနော၊ ဓမ္မဝိလာသ၊ ဗမ္မာသတ်ကျော်)

**၂၂။ ဉာဏဝိလာသ၊ ရှင်။** ။ဇင်းမယ်ဇာတိ။
။သင်္ချာပကာသကဋီကာ။

**၂၃။ ဒေဝယျဓမ္မ၊ ရှင် (သက်ပန်းဆရာတော်)။** ။ဒေဝယျဓမ္မာလင်္ကာရသီရိသဒ္ဓမ္မဓဇမဟာ ဓမ္မရာဇာဓိရာဇဂုရု။ ။(မင်းတုန်းမင်းလက်ထက်)။

ဝိမာနဝတ္ထု၊ အဋ္ဌကထာနိသျ၊ မူလပဏ္ဏာသဋီကာနိသျ။

၂၄။ **တလိုင်းကုန်းဆရာတော်။**
သဒ္ဒတ္တ ဘေဒစိန္တာမဟာ ဋီကာ၊အက်ံရဋီကာ၊သဒ္ဒ
ဘေရီပါဌ်၊အဌ္ဌသာလိနီအတုလဋီကာ။

၂၅။ **တိပိဋကရေ၊ရှင်။** ။ဟံသာဝတီဆင်ဖြူရှင် သမီးတော့်ဆရာ။ ။
အဖေဂ္ဂုသာရဒီပနီဋီကာ။

၂၆။ **တိလောကဂုရု၊ရှင်။** ။ပုခန်းကြီးအနောက်ဆိတ်ဆင်းရွာဇာတိ၊
(အနောက်ဖက် လွန်မင်းလက်)။
ဓာတုကထာဋီကာဝဏ္ဏနာ၊ဓာတုကထာ အနုဋီကာ
ဝဏ္ဏနာ၊ယမကဝဏ္ဏနာဋီကာ၊ ပဋ္ဌာနသာရဒီပနီဋီကာ။

၂၇။ **တောင်ဆင်းဘုန်းတော်ကြီး။** ။နတ်မောက်မြို့။
ဝိဓုရပျို့ဟောင်း။

၂၈။ **ဒါဌာနာဂရာဇဂုရု၊ရှင်။** ။စစ်ကိုင်း ဘုံသာတုလွတ်ကျောင်း၊
(သာလွန်မင်းလက်ထက်)။
နိရုတ္တိသာရမဉ္ဇူသာဋီကာ။

၂၉။ **ဒီပါလက်ာရ၊ရှင်၊(ဒုတိယခေုန်ဆရာတော်)။** ။ဒီပါ လင်္ကာရ
မဟာဓမ္မရာဇာဓိရာဇဂုရု။
အဖေဂ္ဂုသာရဒီပနီနိသျ။

၃၀။ **ဓမ္မနန္ဒ၊ ရှင်။** ။ဟံသာဝတီ- သံတွဲမင်းဆရာ။
ကဝိသာရဋီကာသစ်။

၃၁။ **နဝဝိမလဗုဒ္ဓိ၊ရှင်။** ။(ပုဂံမြို့)။
။ဝုတ္တောဒယဋီကာဟောင်း။

၃၂။ **နာဂိတ၊ရှင်၊ (ဆူးတွင်းပစ်ဆရာတော်)။** ။ (ပင်းယသီဟသူ
လက်ထက်) စစ်ကိုင်းသာစည်ဇာတိ။
သဒ္ဒသာရတ္ထဇာလိနီ စာကိုယ်၊ စတုရင်္ဂဗလအမတ်
အမေး၊အဖြေရတု။

၃၃။ **နန္ဒမာလာ၊ ရှင်။** ။ပန့်ကျီတိုက် ပေါက်မြင့်ရွာဇာတိ နန္ဒ
မာလာဘိဝံသ သီရိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု။ ။
မနုဓမ္မသတ်။

၃၄။ **နန္ဒမေဓာ၊ရှင်၊ (ထန်းတပင်ဆရာတော်)။** ။ နန္ဒမေဓာဘိသိရိ ပရမသဒ္ဓမ္မဇေမဟာဓမ္မရာဇာဓိရာဇဂုရု၊ မိုးထိကျောင်း၊ (စဉ့်ကူးမင်းလက်ထက်)။

။မာတိကာ အကောက်၊ ဘိက္ခုပါတိမောက်ပါဠိတော်နိသျှဟောင်း၊ ဘိက္ခုနီပါတိမောက် ပါဠိတော် နိသျှဟောင်း၊ခဲ့ဘတုကထာပါဠိတော်နိသျှ၊ယမိုက်ဆယ်ကျမ်း ပါဠိတော်နိသျှ၊ ပဋ္ဌာန်းနှစ်ဆယ့်လေးကျမ်း၊ ပါဠိတော် နိသျှ၊ သဒ္ဒါရှစ်စောင်နိသျှ။

၃၅။ **ပတ္တူးကြီးသယ်ရာဇာ။** ။(သတိုး မင်းဖျား လက်ထက်)။ ။ ဩကာသဒီပနီ၊လောကဒီပနီ။

၃၆။ **ပဒုမ၊ ရှင်၊ (ပုသိမ်ကုန်းသာဆရာတော်)။** ။(ဗြိတိသျှခေတ်)။ စေတီယင်္ဂဏဒီပနီ၊သဒ္ဓမ္မဇောတိကကျမ်း။

၃၇။ **ပရက္ကမ၊ရှင်။** ။(စစ်ကိုင်း ရှင်အာရိယာဝံသတပည့် တောင်ငူရောက်သည်)။

သုဗောဓာလင်္ကာစာကိုယ်နိသျှ။

၃၈။ **ပညာ၊ရှင်။** ။ဇရစ်ရွာရွှေကျောင်းဆရာတော်၊ (ဘကြီးတော် လက်ထက်)။

မာတောဝါဒဆုံးမစာ။

၃၉။ **ပညာဒီပ၊ ရှင်၊(ငှက်တွင်းဆရာတော်)။** ။(မင်းတုန်းမင်း လက်ထက်)။

ပိဋကပ်သုံးပုံ ဖလဲကျမ်း။ ကလာပ ဝိစာရဏာကျမ်း၊ လောကစိန္တာကျမ်း။

၄၀။ **ပညာသီဟ၊ ရှင်။** ။ပခန်းကြီး မအူလေးရွာ ဇာတိ။ ဆပ္ပစ္စယဒီပကဋီကာသစ်။

၄၁။ **ပညာသီဟ၊ရှင်၊ (ခင်ကြီးပု)။** ။ဆင်ဖြူကျွန်းဇာတိ ပညာသီဟာဘိသိရိသဒ္ဓမ္မဇေမဟာဓမ္မရာဇာဓိ ရာဇဂုရု၊ (သာယာဝတီမင်းလက်ထက်)။ မဏိသာရမဉ္ဇူသာဋီကာနိသျှ။

၄၂။ **ပဏ္ဍိတ၊ရှင်၊(ဗန်းမော်ဆရာတော်)။** ။မင်းတုန်းမင်းလက်ထက် ပဏ္ဍိတဝံသသိရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု။ ဝိနည်းအဆုံးအဖြတ်များ၊ ကဗျာများ။

၄၃။ ပြည့်ခင်ကြီး။ ။တပယင်းစီရင်စု တိန္ဒုဝနဂါမရွာ၊
သာရကထာသံပေါက်။

၄၄။ ဗုဒ္ဓဃောသ၊ရှင်။ ။ပုဂံမြို့။
မနုဓမ္မသတ်လင်္ကာ။

၄၅။ မင်္ဂလာသာရ၊ရှင်၊(ဝှက်ခုတ်ဆရာတော်)။ ။မင်္ဂလာသာရဓဇမဟာဓမ္မ
ရာဇဂုရု၊ပုခန်းကြီးဝက်ခုတ်ရွာဇာတိ၊ (ဘိုးတော်ဘုရား
လက်ထက်)။
ကေနိပါတ်ဇာတ် အဋ္ဌကထာ နိဿယမှ
အသီတိ နိပါတ်ဇာတ်အဋ္ဌကထာနိဿယအထိ။
အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိဿယ။
သဒ္ဒါရှစ်စောင်နိဿယ။

၄၆။ မဟာကဿပ၊ရှင် (ပေါင်လောင်ရှင်)။ ။(နရပတိ စည်သူ
လက်ထက်)၊
ပရမတ္ထဗိန္ဒု၊ မဟာဗောဓိဝင်ဋီကာ။
ခုဒ္ဒသိက္ခာအဋ္ဌကထာ နိဿယဟောင်း။

၄၇။ မဟာဗုဒ္ဓင်္ကုရ၊ ရှင်။ ။စဥ့်ကူးမင်းသားဆရာ။
စဥ့်ကူးမင်းချောင်း။

၄၈။ မဟာယသ၊ ရှင်။ ။စလေမြို့။
ကစ္စာယနဘေဒ။

၄၉။ မဟာဝိဇိတာဝီ၊ ရှင်။ ။ပင်းယအဘယဂိရိတောင်ခြေ
မင်းရဲကျော်စွာကျောင်း၊ (ဟံသာဝတီ ဆင်ဖြူရှင်လက်
ထက်)။
ကစ္စာယနဝဏ္ဏနာ။

၅၀။ မဟာဝိဇိတာဝီ၊ ရှင်။ ။ဇေယျာပုရ မြို့ဟောင်း အနောက်
အုတ်ကျောင်း၊ (အသင်္ခယာစောယွန်းလက်ထက်)။
ဝါစကောပဒေသ၊ ဋီကာ။

၅၁။ မဟာအရိယဝံသ၊ ရှင်။ ။ပင်းယတောင် စကားအင်းရွာဇာ
တိ၊ (မင်းတုန်းမင်းလက်ထက်)။
အနုဋီကာနိဿယ။

၅၂။ မာလာ၊ ရှင်။ ။ထားဝယ်မြို့။
အင်္ဂဝိဇ္ဇာခတ်ကျမ်းချုပ်။

၅၃။ မာလိ၊ ရှင်။ ။ရတုများ။

၅၄။ မုနိန္ဒသာရ၊ ရှင်။ ။မြေတူးမြို့၊ တောရအုတ်ကျောင်း။
အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိဿယ။

၅၅။ မေဓာ၊ ရှင်။ ။မေဓာဘိဝံသဓဇမဟာဓမ္မရာဇဂုရု။
အမရပုရအရှေ့ ကန်တွင်းကျောင်း၊ (ဘိုးတော်ဘုရား လက်ထက်)။
ဝိမာနဝတ္ထု ပါဠိတော်နိဿယ၊
ပေတဝတ္ထု ပါဠိတော်နိဿယ။

၅၆။ မေဓင်္ကရ၊ ရှင်။ ။မုတ္တမမြို့ ဗညားဦးမယ်တော်ကျောင်း။
လောကဒီပကသာရ။

၅၇။ မင်းတစ်လည်ပေါ်ဆရာတော်။ ။
ပဋိသန္ဓိခတုကျမ်း။

၅၈။ ယွန်းကျောင်းဆရာတော်။ ။ပုဂံမြို့။
အဋ္ဌအင်္ဂဆေးကျမ်း။

၅၉။ ရဿ၊ ရှင်။ ။ပုဂံမြို့။
ကစ္စာယနသာရ။

၆၀။ ဣဝိန္ဒ၊ ရှင်(ဗင်္ဂလားဆရာတော်)။ ။(မြိတ်သျှခေတ်။)
ဟိတောပဒေသ မြန်မာပြန်၊ ဘေသဇ္ဇမဉ္ဇူသာဆေး ကျမ်း။ ပ၊၃။

၆၁။ ရှုဟန္တာဈေး။ ။(ဒွတ္တပေါင်မင်းလက်ထက်)။
ဒွတ္တပေါင်မင်းဓမ္မသတ်။

၆၂။ ရေဦးဆရာတော်။ ။စစ်ကိုင်းမြို့ ရေဦးအနောက်တိုက်။
အဘိဓမ္မတ္ထသင်္ဂဟ အဋ္ဌကထာနိဿယ။

၆၃။ လက်ာသာရ၊ ရှင်။ ။အာနန္ဒာဝိချင်း။

၆၄။ ဝံ့ရှုမ္မာလက်ာ၊ ရှင်။ ။
ဥတေနမင်းစောပျို့။

၆၅။ **ဝရသမ္ဘောဓိ၊ ရှင်။** ။ပုခန်းကြီးမြို့နယ်၊ ရေစကြိုဇာတိ၊ (မင်းတုန်းမင်းလက်ထက်)၊

မ္မပဒဋီကာသစ်၊ ရေစကြိုတရားစာ၊ သာသနဗျူဟာ၊ ဝံသနုတ္တမဒီပနီ၊ ရာဇဝသတီပါဠိနိဿယ၊ သံဝေဂ ဂဏ္ဌကမ္မဋ္ဌာန်း။

၆၆။ **ဝရသံဝရဓိ၊ ရှင်။** ။(မင်းတုန်းမင်းရဟန်းတော်ခံ)ဟသ်ာတမြို့ ကြည့်ကန်ကျောင်းတိုက်၊

ကမ္မဋ္ဌာနသခင်္ခေပကျမ်း၊ လက္ခဏာဒိဘေဒကျမ်း။

၆၇။ **ဝရာဘိသင်္ကန်ဘာထ၊ ရှင်။** ။

မဏိကုဏ္ဍလဝတ္ထု။

၆၈။ **ဝါယမ၊ ရှင်။** ။မောင်ပန်းညို၊လယ်ကိုင်းစီရင်စုသစ်တော်ရွာ။

အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိဿယ။

၆၉။ **ဝိစိတ္တာလင်္ကာရ၊ ရှင်။** ။စလင်းမြို့၊

ပါတိမောက္ခပဒတ္ထအနုဝဏ္ဏနာ၊အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိဿယ။

၇၀။ **သမန္တဂုဏသာဂရ၊ ရှင်။** ။ပင်းယမြို့။

မူလသိက္ခာဋီကာသစ်။

၇၁။ **သာရဒဿီ၊ရှင်၊(ပြာသာဒ်ကျောင်းဆရာတော်)။** ။သုဓမ္မာဘိသိရိဓဇမဟာဓမ္မရာဇဂုရု၊ အမရပုရ မြောက်ပြာသာဒ်ကျောင်း(ဘိုးတော်ဘုရားလက်ထက်)။

ဗုဒ္ဓဝင်ပါဠိတော်နိဿယသစ်၊ ဓမ္မပဒအဋ္ဌကထာနိဿယ၊ သဒ္ဒါရှစ်စောင်နိဿယ။

၇၂။ **သာရိပုတ္တရာ၊ ရှင်။** ။ပုဂံမြို့၊

သဒ္ဒဝုတ္တိဋီကာဟောင်း။

၇၃။ **သီရိမင်္ဂလ၊ရှင်။** ။ပုလိပ်ရွာအနွေမြို့သစ်ဇာတိ၊ (ပင်းယဆင်ဖြူရှင် သီဟသူလက်ထက်။)

အဋ္ဌသာလိနီ အဋ္ဌကထာယောဇနာ၊ သမ္မောဟဝိနောဒနီ အဋ္ဌကထာယောဇနာ၊ သချာပကာသကဋီကာ၊ မင်္ဂလတ္ထဒီပနီ။

၇၄။ **သီရိရတနပညာ၊ရှင်။** ။အင်းဝအနောက် ဇေတဝန်ကျောင်း။ (သိုဟန်ဖွား လက်ထက်)။

ဝဇီရသာရတ္ထ သင်္ဂဟစာကိုယ်၊ ၎င်းဋီကာ။

၇၅။ **သီရိသဒ္ဓမ္မဝိလာသ၊ ရှင်။** ။ပုဂံမြို့။

ကစ္စာယနသာရဋီကာဟောင်း။

၇၆။ **သီလာစာရ၊ရှင်(မန်းလွှားဆရာတော်)။** ။စလင်းမြို့သူကြီးမဟာ သမန်းဆရာ၊ ဂိုဏ်းအုပ်ဆရာတော်။

ခုဒ္ဒသိက္ခာဒီပနီ၊ အဘိဓမ္မတ္ထ သင်္ဂဟဒီပနီပါဌ်၊ အဘိဓမ္မတ္ထသင်္ဂဟ အဋ္ဌကထာနိဿယ၊ အဘိဓမ္မတ္ထသင်္ဂဟ ဒီပနီနိဿယ။

၇၇။ **သုဓမ္မ၊ ရှင်။** ။**ဦးရွှေသီး**။ တလုပ်မြို့စီရင်စု ချောင်းတောင်း ရွာတိ၊ (သာယာဝတီမင်းလက်ထက်) သုဓမ္မာလင်္ကာ ရသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု။

အဘိဓမ္မတ္ထသင်္ဂဟ အဋ္ဌကထာနိဿယ။

၇၈။ **သဒ္ဓမ္မ၊ရှင်။** ။ဟံသာဝတီ။

သစ္စဘေဒနိဓမ္မသတ်။

၇၉။ **သဒ္ဓမ္မကိတ္တိ၊ ရှင်။** ။ပုဂံ။

ဗာလာဝတာရ။

၈၀။ **သဒ္ဓမ္မကိတ္တိ၊ရှင်။** ။စစ်ကိုင်း။

ကေကာရကောသစာကိုယ်နှင့်ဋီကာ၊ လိင်္ဂတ္ထဝိဝရဏာဋီကာ။

၈၁။ **သဒ္ဓမ္မဇောတ၊ရှင်။** ။ဝံတောင်လယ်ဘုန်းကြီး (အင်းဝခေတ်) ။ရတုများ။

၈၂။ **သဒ္ဓမ္မဇောတရှင်၊ (ဒုတိယဆိုဒ်မြို့ဆရာတော်)။** ။ စလေစီရင်စု ကင်ပွန်းတောင်ရွာဇာတိ။

သဒ္ဒါရှစ်စောင်နိဿယ။

၈၃ ။**သဒ္ဓမ္မဇောတ၊ရှင်။** ။စစ်ကိုင်း တောရ၊ (နောင်တော်ကြီး လက်ထက်)။

ဗုဒ္ဓဝင်ပါဠိတော်နိဿယဟောင်း။

၀၄။ **သဒ္ဓမ္မဇောတိပါလ၊ ရှင်။** ။ဆပဒထေရ်၊ ပုဂံမြို့။
နာမစာရဒီပကလက်သန်းအဋ္ဌကထာ၊ ဝိနယဂုဠတ္ထဒီပနီ လက်သန်းအဋ္ဌကထာ၊ သီမာလင်္ကာရလက်သန်းဋီကာပါဌ်၊ ဝိသုဒ္ဓိမဂ်ဂဏ္ဌိပုဒ်ပါဌ်၊ သင်္ခေပဝဏ္ဏနာဋီကာပါဌ်၊ ဝိနယဇာတတ္တကီ၊ သုတ္တနိဒ္ဒေသပါဌ်။
၀၅။ **သဒ္ဓမ္မဥာဏ၊ ရှင်။** ။ပုဂံမြို့။
ဆန္ဒောသာရတ္ထဝိကာသနီ။
၀၆။ **သဒ္ဓမ္မပါလ၊ ရှင်။** ။သဒ္ဓမ္မပါလသိရိမဟာဓမ္မရာဇဂုရု၊ (အင်းဝထူပါရုံဒါယကာ နရပတိလက်ထက်)။
နေတ္တိဝိဘာဝနီဋီကာ။
၀၇။ **သဒ္ဓမ္မပါလ၊ ရှင်။** ။ပုဂံမြို့။
သဒ္ဒဝုတ္တိ။
၀၈။ **သဒ္ဓမ္မပါလ၊ ရှင်။** ။(မြင်စိုင်းမင်းလက်ထက်)။
ဓမ္မသတ်လင်္ကာ။
၀၉။ **သဒ္ဓမ္မသိရိ၊ ရှင်။** ။ပုဂံတူးရှင်းခြေတောင်ရွာဇာတိ။
သဒ္ဒတ္ထဘေဒစိန္တာပါဌ်၊ ဗေဒင်ဖြို့ဟစ်ကျမ်းနိဿ။
၉၀ ။**သဒ္ဓမ္မလင်္ကာရ၊ ရှင်၊ (ရတနာကရဆရာတော်)။** ။ပင်းယရွှေစည်းခုံအနီးအုတ်ကျောင်း၊ (သာလွန်မင်းလက်ထက်)။
ရာဇိန္ဒရာဇာနာမာဘိဓေယျဒီပနီ၊ ရာဇိန္ဒရာဇာနာမာဘိဓေယျဒီပနီနိဿ၊ ဓမ္မပဒဝတ္ထု၊ (ရတနာကရဝတ္ထု)။
၉၁။ **သဒ္ဓမ္မာလင်္ကာရ၊ ရှင်။** ။(ဟံသာဝတီဆင်ဖြူရှင်လက်ထက်)။
ပဋ္ဌာနသာရဒီပနီဋီကာ။။
၉၂။ **အနန္တဓဇ၊ ရှင်(တောင်ဘီလူးဆရာတော်)။** ။စစ်ကိုင်းမြောက်ရေမြက်ကြီးအင်းအနောက် မုံညိုရွာဇာတိ၊ အနန္တဓဇမဟာရာဇဂုရု(ဝမ်းပဲအင်းစံမင်းလက်ထက်)
ပဋ္ဌာန်း ၂၄-ကျမ်းပါဠိတော်နိဿ၊ မာတိကာအကောက်၊ ယမိုက်ဆယ်ကျမ်းပါဠိတော်နိဿ၊ အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိဿ၊ ဓာတုကထာပါဠိတော်နိဿ။

၉၃။ အဘယ၊ရှင်။ ။ပုဂံမြို့၊ရွှေဂူကျောင်း။
သဒ္ဒနယ်စိန္တာဋီကာ။

၉၄။ အရိယမင်္ဂလ၊ရှင်။ ။ပုခန်းကြီးကျေး၊မြို့ငရွာဇာတိ။
မန်စကားပြေဓမ္မသတ်။

၉၅။ အရိယဝံသ၊ရှင်။ ။ဓမ္မသေနာပတိ၊ပင်းယတောင်စကားအင်း ရွာဇာတိ၊ (ထူပါရုံဒါယကာနရပတိလက်ထက်)။
မဏိဒီပဋီကာ၊ မဏိသာရမဉ္ဇူသာဋီကာ၊ ဂန္ထာဘရဏသဒ္ဒါငယ်၊အနုဋီကာနိသျ၊ဒသဇာတက ဝိသောဓန။

၉၆။ အရိယဝံသအာဒိစ္စရံသီ (ရွှေလှံတောင်ဆရာတော်)။ ။ပြိတိသျှခေတ်။
ရွှေတိဂုံသမိုင်းသစ်၊ ရွှေစက်တော်သမိုင်းသစ်။

၉၇။ အာစာရ၊ရှင်။
သဒ္ဒါရှစ်စောင်နိသျ။

၉၈။ အဂ္ဂပဏ္ဍိတ၊ ရှင်။ ။(နရပတိစည်သူ လက်ထက်)၊
လောကုပ္ပတ္တိပကာသနီဟောင်း။

၉၉။ အဂ္ဂဝံသ၊ ရှင်။ ။(ကျစ္စွာမင်းလက်ထက်)ပုဂံပြည်။
သဒ္ဒနီတိပဒမာလာ၊ သဒ္ဒနီတိ ဓာတုမာလာ၊ သဒ္ဒနီတိ သုတ္တမာလာ။

၁၀၀။ အာဒိစ္စဝံသ၊ရှင်။(ပဋ္ဌမငါးခုနဲ့ဆရာတော်)။ ။တောင်သမန်တောရ။ ။(ဘကြီးတော်မင်းလက်ထက်)။
ခုဒ္ဒကပါဌ ဋီကာ၊ဗုဒ္ဓဝင်အဋ္ဌကထာနိသျ။

၁၀၁။ ဥတ္တမ၊ ရှင်။ ။ပုဂံမြို့။
ဗာလာဝတာရဋီကာ။

၁၀၂။ ဥတ္တမဂုရု၊ ရှင်။
ရွှေဘုံသာမော်ကွန်း။

၁၀၃။ အောင်တပ်ကျောင်းဦးဆရာတော်။ ။(စနေမင်းလက်ထက်)။
သုဗောဓာလင်္ကာရရာသီစု။

---

# သာသနာပိုင် စဉ်ဆက်စာရင်း

၁။ သဲအင်းဆရာတော် (သာသနာပိုင်)။
*(၁၁၂၇-၁၂၀၃)
(၁၂၀၀-ပြည့်နှစ်တွင် သာသနာပိုင်ဖြစ်၍ ၃-နှစ်ကြာ သက်တော် ၇၆-နှစ်တွင် ပျံလွန်တော်မူလေသည်။)

၂။ ဒုတိယ မောင်းထောင်ဆရာတော် (သာသနာပိုင်)။
(၁၁၆၁-၁၂၂၇)
(၁၂၀၃-ခုနှစ်တွင် သာသနာပိုင်ဖြစ်၍ ၆-နှစ်ကြာ ၁၂၀၀-ခု နှစ်တွင်သာသနာပိုင်အဖြစ်မှ ခ္ထွန့်သည်။)

၃။ ဒုတိယ ဗားကရာဆရာတော် (သာသနာပိုင်)။
(၁၁၄၀-၁၂၂၀)
(၁၂၀၀-ခုနှစ်တွင် သာသနာပိုင်ဖြစ်၍ ၆-နှစ်ကြာ ၁၂၁၄-ခုနှစ်၌ သာသနာပိုင်အဖြစ်မှ ခ္ထွန့်သည်။)

၄။ ဒုတိယ မောင်းထောင်ဆရာတော် (သာသနာပိုင်)။
(၁၁၆၁-၁၂၂၇)
(၁၂၁၄-ခုနှစ်တွင် သာသနာပိုင်ဖြစ်၍သက်တော်၆၇-နှစ် ၁၂၂၇-ခုနှစ်တွင် ပျံလွန်တော်မူလေသည်။)

၅။ (၁၂၂၀မှ၁၂၄၂-အထိ သာသနာပိုင်မရှိ။)
**ထိုအတွင်း—ပြည်ဆရာတော်, စံကျောင်းဆရာတော်, ခင်မကန်ဆရာတော်စသောအဲ့ရဲဆရာတော် ၈-ပါးက သုဓမ္မာဆရာတော်အဖြစ် ဆောင်ရွက်သည်။**

---

* ဘိုးတော်ဘုရားလက်ထက် ၁၁၄၀-ခုနှစ်တွင် သာသနာပြုတကျိပ် နှစ်ပါးခန့်သည်။

**သာသနာပြုဆရာတော်တကျိပ်နှစ်ပါး**

၁။ မင်းအိုဆရာတော် ဂုဏာဘိလင်္ကာရသဒ္ဓမ္မ မဟာဓမ္မရာဇဓိရာဇဂုရု၊ (၁၀၇၀-၁၁၅၃။)

၂။ မန်လည်ဆရာတော် ဂုဏမုနိန္ဒာဓိပတိ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု၊ (၁၀၇၆-၁၁၆၉။)

၃။ ဆုံထားဆရာတော်, တိပိဋကသဒ္ဓမ္မသာမိ မဟာဓမ္မရာဇာဓိ ရာဇဂုရု၊ (၁၁၀၀-၁၁၄၆။)

၆။ တောင်တော်ဆရာတော် (သာသနာပိုင်)နှင့် ရွှေကျင်ဆရာတော် (သာသနာပိုင်)။
(၁၁၈၇-၁၂၅၆)
(တောင်တော်ဆရာတော်မှာ ၁၁၈၇-ခုဖွား ၁၂၄၃-နှစ်တွင် သာသနာပိုင်ဖြစ်၍ မြန်မာဘုရင်လက်ထက် ၆-နှစ် အင်္ဂလိပ်အစိုးရလက်ထက် ၉-နှစ်သက်တော် ၇၉-နှစ် ၁၂၅၆-ခုနှစ်၌ ပျံလွန်တော်မူသည်၊ သီပေါမင်း၏ဆရာဖြစ်၏၊ တံဆိပ်တော်ကား မာလာလင်္ကာရသာသနဓဇ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရုတည်း၊ ရွှေကျင်ဆရာတော်၏ဘွဲ့ကား ဇာဂရာဘိဓဇသာသနပါလ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရုတည်း။)

၇။ ပခန်းဆရာတော် (သာသနာပိုင်။)
(၁၁၈၂-၁၂၆၂)
(၁၂၅၇-ခုနှစ်တွင် သာသနာပိုင်ခန့်၍ ၆-နှစ်အကြာ သက်တော် ၈၁-နှစ်၁၂၆၂-ခုနှစ်တွင် ပျံလွန်တော်မူလေသည်။)

---

၄။ မင်းရွာဆရာတော်, ဉာဏဇမ္ဗူဒိပ အနန္တဓဇမဟာဓမ္မရာဇာဓိရာဇဂုရု၊ (၁၀၀၅-၁၁၆၆။)

၅။ ရွှေတောင် ဆရာတော်, ကဝိန္ဒာဘိ သဒ္ဓမ္မပဝရ မဟာဓမ္မရာဇဂုရု၊ (၁၀၉၂-၁၁၇၂)

၆။ မားကရာဆရာတော်, တိပိဋကာလင်္ကာရသိရီဓဇ မဟာဓမ္မ ရာဇဂုရု၊ (၁၁၀၀-၁၁၆၂။)

၇။ ကတိုးဆရာတော်,သာသနာဝံသ မဟာဓမ္မ ရာဇဂုရု၊ (ရှင်ပညာ) (၁၁၂၂–၁၁၉၇။)

၈။ မဲထီးဆရာတော်,ပရမသိရိဝံသဓဇမဟာဓမ္မရာဇဂုရု၊(၁၁၀၄-၁၁၅၉။)

၉။ မို့တောဆရာတော်(ရှင်ဝရ) (၁၁၀၂-၁၁၀၄။)

၁၀။ စလင်းဆရာတော်, မုနိန္ဒာဘိသိရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု၊ (၁၁၂၅-၁၂၀၂။)

၁၁။ ဆင်တဲဆရာတော်, ဉာဏာဘိလင်္ကာရ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇဂုရု၊ (၁၁၀၆-၁၁၇၀)

၁၂။ မောင်းထောင်ဆရာတော်, ဉာဏာဘိဝံသဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု၊ (၁၁၃၇-၁၁၉၄။)

၇။ မိုးထားဆရာတော်(သာသနာပိုင်)။
(၁၁၉၁-၁၂၆၃)

(၁၂၆၃-ခုနှစ်တွင် သာသနာပိုင်ဖြစ်၍ ၅-လအကြာ ၁၂၆၃-ခုနှစ်၌ပျံလွန်သည်။

၈။ တောင်ခွင်ဆရာတော်(သာသနာပိုင်)
(၁၂၀၆-၁၂၉၉)

(၁၂၀၆-ခု နတ်တော်လဆန်း ၄-ရက်နေ့ဖွားး၍၁၂၆၅-ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၁၀-ရက်နေ့တွင် သာသနာပိုင်ဖြစ်သည်၊ ၃၄-နှစ်အကြာ ၁၂၉၉-ခုနှစ် တပေါင်းလပြည့်ကျော် ၂-ရက် သက်တော် ၉၄-နှစ်တွင်ပျံလွန်သည်။)

---

# ဆရာစဉ်ဆက်စာရင်း (က)

ရှင်သဒ္ဓမ္မဋ္ဌိတိ၊ (၈၀၄-ခုနှစ် ထုပါရုံဒါယကာ-သီဟသူလက်ထက်)

|

ရှင်မဟာသာမိ၊ ( | ) ဤအမှတ်ဖြင့်ရင်း တပည့်ဟု ပြသည်။

|

ရှင်အတုလဝံသ၊ (ပြည်)

|

ရှင်ရတနာရံသီ၊ (ပြည်)

|

ရှင်အဘိသင်္ကေတသာရ၊ (ပြည်)

|

ရှင်တိပိဋကာလင်္ကာရ (တောင်ဖီလာ)

ရှင်ပေါရိသတ် (အမြင့်)
|
ရှင်အရိယဓဇ(ဆားလင်း)
|
ရှင်ဂုဏာဘိလင်္ကာရ(ဘုံရွာ)
|
ရှင်ပညာရာမ(တပယင်း)
|
ရှင်ဓမ္မဇောတာဘိသာရ(လိန်လှ)
|
ရှင်ယသ(အတုလ)အလောင်းဘုရားလက်ထက်။

ရှင်မဟာတိဿ(ဆားလင်း)
|
ရှင်စန္ဒပညာ(မြို့ကြီး)

ရှင်ဂုဏသီရိ(ရေမြိန်)

ရှင်ကလျာဏဓဇ
|

*ရှင်သဒ္ဓမ္မနန္ဒီ(စိမ့်ကျောင်း)
|

ရှင်ဗုဒ္ဓဘာသ(ညောင်ကန်)
ရှင်ကလျာဏစက္က
ရှင်ဝိမလာစာရ၊
ရှင်ဂုဏာသာရ၊(မောင်းထောင်)
ရှင်စန္ဒသာရ(ဝထူး)
ရှင်ဝရဧသီ၊
ရှင်ဂုဏာသီရိ(မင်းအို)
ရှင်နန္ဒမာလာ(ဆုံထား)

ရှင်ပညာသာရ(မြောငယ်)
† ရှင်ဉာဏဝရ၊(ကျော်အောင်စံထား)
ရှင်အရိယာလင်္ကာရ(မဏိရတနာ)

---

* ရှင်သဒ္ဓမ္မနန္ဒီ (စိမ့်ကျတောင်)၏ တပည့်သုံးပါးအဆက်ကို ဆရာစဉ် စာရင်း (ခ)တွင်ဆက်လက်ရှုပါ။

† ကျော်အောင်စံထား ဆရာတော်သည် ရှင်စန္ဒမဥ္ဇူ၏ တပည့်လည်းဖြစ်သည်။

# ဆရာစဉ်ဆက်စာရင်း(ခ)

ရှင်သဒ္ဓမ္မနန္ဒီ(စိမ့်ကျတောင်)

ရှင်ပညာသာရ(မြောငယ်) *ရှင်ဉာဏဝရ ရှင်အရိယာလင်္ကာရ။

(ကျော်အောင်စံထား)

ရှင်ပညာစက္က(ကဖြူ) ရှင်သဒ္ဓမ္မနန္ဒီ(ချောင်းကောက်)

ရှင်အာသဘာလောက(ရေဦး)

ရှင်ဝိနန္ဒာသဘ(နံ့မော်) ရှင်ဥက္ကာစာရ ရှင်အဂ္ဂဓမ္မ(မိုးတူ)

ရှင်ဂုဏမဥ္စူသာ(မန်လည်) ရှင်ဉာဏသဒ္ဓမ္မ (ဆင်တဲ)

---

* ရှင်ဉာဏဝရ (ကျော်အောင်စံထားဆရာတော်) ၏တပည့် အဆက်ကို ဆရာစဉ်ဆက်စာရင်း(ဂ)တွင် ဆက်လက်ရှုပါ။

# ဆရာစဉ်ဆက်စာရင်း(ဂ)

ကျော်အောင်စံထားဆရာတော်(ရှင်ဉာဏဝရ)

|

ချောင်းကောက်ဆရာတော်(ရှင်သဒ္ဓမ္မနန္ဒီ)

|

* မင်းအိုဆရာတော်(ရှင်ဂုဏ)

|

† ဗားကရာဆရာတော်(ရှင်ဓမ္မာဘိနန္ဒ)

|

‡ သဲအင်းဆရာတော်(ရှင်သူရိယ)

|

ဒုတိယမောင်းထောင်ဆရာတော်(ရှင်ဥေယျ)

|

§ ဒုတိယစံကျောင်းဆရာတော်(ရှင်သုဒဿန)

|

ရွှေရေးဆောင်ဆရာတော်, လယ်တီဆရာတော်, တောင်ခွင်ဆရာတော်, စလင်းဆရာတော်, အလ္လကပ္ပဆရာတော်, မင်းကျောင်းဆရာတော်,တိုက်တော်ဆရာတော်, မကုဋာရာမဆရာတော်, ငွေတောင်ဆရာတော်။

---

* ပုပ္ပားဆရာတော်နှင့် ရှင်ကလျာဏဓဇတို့၏တပည့်လည်းဖြစ်သည်။

† မောင်းထောင်ဆရာတော်(ရှင်ဉာဏာဘိဝံသ)၊ ကတိုးဆရာတော် (ရှင်ဓမ္မဓရ)၊ ညောင်ကန်ဆရာတော်(ရှင်သဒ္ဓမ္မရံသီ)တို့လည်း ဗားကရာဆရာတော်၏တပည့်များဖြစ်ကြသည်၊

‡ ဒုတိယ ဗားကရာဆရာတော်(ရှင်ပညာဇောတ)၊ ဘုံကျော်ဆရာတော်(ရှင်ပညာသာမိ) ခင်မကန်ဆရာတော်(ရှင်မဏိဇောတ)၊ ပြည်ဆရာတော် (ရှင်မေဓါ)၊ ဝေယန်စံလွှတ်ဆရာတော် (ရှင်ပရမ)၊ ပဉ္စမစံကျောင်းဆရာတော် (ရှင်စန္ဒိမာ)တို့လည်း သဲအင်းဆရာတော်၏တပည့်များဖြစ်ကြသည်။

§ ရေစကြိုဆရာတော်(ရှင်ဂန္ဓသာရ)လည်း ဒုတိယစံကျောင်း ဆရာတော်၏တပည့်ဖြစ်သည်။

# ဆရာစဉ်ဆက်စာရင်း (ဃ)

ရှင်အရဟံ (ဓမ္မဒဿီ)။ ပုဂံ။

ရှင်ဂုဏသာရ။

ရှင်အဂ္ဂပဏ္ဍိတ။

ရှင်အဂ္ဂဝံသ။

ရှင်ဥတ္တရာဇီဝ။

ရှင်သဒ္ဓမ္မပါလ(ဆပဒထေရ်)။

ရှင်ဉာဏ (ဒုတိယဆပဒထေရ်)။

ရှင်သဒ္ဓမ္မသီရိ (တတိယဆပဒထေရ်)။

ရှင်သုဓမ္မစာရီ (ပုဂံခေတ်မင်္ဂလာတိုက်)။

| | |
|---|---|
| ရှင်ဓမ္မာနန္ဒ (ပုခန်းကြီး)။ | ခင်ကြီးလျော်(ကုန်းတန်း)။ |
| ဇုမ္ဘဆရာတော်(ဘုံ့ပါ)။ | ရှင်အာဒိစ္စဝံသ(သစ်ညို)။ |
| မင်းအိုဆရာတော်။ | ရှင်လာဘသိဒ္ဓိ(သစ်ညို)။ |
| သဲအင်းဆရာတော်။ | ရှင်ဇာဂရ(တောပျား)။ |

ရှင်ဥေယျ(မောင်းထောင်ဆရာတော်)။ ခင်ကြီးကျင်(မြေနည်း)။

*ရှင်ဂန္ဓသာရ(ရေစကြို)။ ဦးတုတ်ကြီး(ဘွဲ့မထင်-တောပျား)။

ရှင်ဝိသုဒ္ဓ(တောပျား)။

ရှင်ဓမ္မစာရီ(တံတားရွာ-၁၂၆၄-လွန်)။

*ရှင်စန္ဒိမာ(ရွှေမြင်းထင်ဆရာတော်။ (၁၂၂၄-ဖွား)။

ရှင်ရာဇိန္ဒ(ဘုရားဖြူဆရာတော်)။

* * ပခုက္ကူမဟာဝိသုတာရာမဆရာတော် ရှင်ဇဝနသည် ရှင်ဂန္ဓသာရနှင့် ရှင်စန္ဒိမာတို့၏ထံတွင် ပညာဆည်းပူးတော်မူခဲ့ဘူးသည်။

# အမျိုးသားစာဆိုတော်များ

## ၁။ အနန္တသူရိယ

(၅၀၀ ခန့်-၅၃၆)

အနန္တသူရိယအမတ်သည် ပုဂံခေတ်တွင် ပေါ်ပေါက်၍ ရှေးအကျဆုံးသော စာဆိုတော်တဦးဖြစ်ပေသည်။

သကရာဇ် ၅၃၃-နှစ်တွင် နန်းတက်သော မင်းယဉ်နရသိင်္ခ၏ အထိန်းတော်အမတ်ဖြစ်သည်၊ ညီတော်နရပတိစည်သူနန်းတက်သောအခါ ယခင်က မင်းယဉ်နရသိင်္ခ၏ ဖက်တော်သားဖြစ်သည်ဟု အငြိုးထား၍ သတ်လေသဖြင့် ၅၃၆-ခုနှစ်တွင် အနိစ္စရောက်ရလေသည်။

အနန္တသူရိယအမတ်သည် "သူတည်းတယောက်"အစချီ အမျက်ဖြေလင်္ကာ ရေးသားခဲ့လေသည်။

---

## ၂။ စတုရင်္ဂဗလ

(၇၀၀-ခန့်)

စတုရင်္ဂဗလအမတ်ကြီးမှာ ပင်းယခေတ် ဆင်ဖြူလေးစီးရှင် သီဟသူမင်းလက်ထက်တွင် အတွင်းဝန် အတွင်းသေနာပတိဖြစ်သော စာဆိုတော် အမတ်ကြီးဖြစ်လေသည်၊ ဘွဲ့မှာ သီရိမဟာစတုရင်္ဂဗလဖြစ်၍ ပြည်မြို့ဇာတိ ဖြစ်လေသည်၊ အမတ်ကြီးသည် ကဗျာလင်္ကာနှင့်ကျမ်းဂန်များပါ တတ်မြောက်ကျွမ်းကျင်လေသည်။

အမတ်ကြီး ရေးသားပြုစုခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ မာဂဓအဘိဓာန်ဋီကာ။ ၂။ လောကနီတိပါဠိ။
၃။ အမေးပုစ္ဆာရတုပိုဒ်စုံ။ ၄။ အဘိဓာနပ္ပဒီပိကာသူစိ။

---

## ၃။ ရှင်သူရဲ

(၈၃၈-၈++)

ရှင်သူရဲမှာ အင်းဝခေတ်တွင် ထင်ရှားသော စာဆိုတော်တဦးဖြစ်သည်၊ ရှင်သူရဲသည်အင်းဝမြို့တွင် ၈၃၈-ခုနှစ်၌ဖွားမြင်၍ ဘုရင်

နရပတိလက်ထက်မှ ဒုတိယမင်းခေါင်လက်ထက်တိုင် စစ်အမှုတော်ထမ်းတဦး ဖြစ်လေသည်၊ အဟောင်းဆုံးချောင်းနှင့် စစ်ချီရတုများကို ရေးခဲ့သဖြင့်ထင်ရှားသည်။

ရှင်သူရဲရေးသားခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ သခင်ထွေး(စလင်းသတိုးကျော်သမီး)ချောင်း။

၂။ စစ်ချီရတုများ။

---

## ၄။ နဝဒေးကြီး
(၇၅၀-ခန့်)

နဝဒေးကြီးအမည်တွင်သော စာဆိုတော်ကြီးမှာ အင်းဝခေတ်အပျက်တွင် ပေါ်ပေါက်လာသော စာဆိုတော်တဦးဖြစ်လေသည်။

နဝဒေးသည် ၇၉၄-ခုနှစ် ပြည်တွင်မင်းပြုသော ပြည်ဘုရင်နရပတိ၏ယောက်ဖ မင်းဘစော၏ အထိန်းတော် သားဖြစ်ရာ မင်းဘစောကွပ်မျက်ခံရသောအခါ နှမတော်ကို စလင်းစည်သူကျော်ထင်သို့ပေးရာ လိုက်ပါသွားသဖြင့် မင်းလက်ျာဘွဲ့ကို ရရှိလေသည်။

ထိုနောက် ၉၀၇-ခုနှစ်တွင် စစ်ကိုင်းစည်သူကျော်ထင် မင်းဖြစ်သော် မင်းလက်ျာအား ထောင်သင်းကို ကြီးမှူးစေလေသည်၊ထိုနောက် အင်းဝပျက်လျှင် ပြည်ဘုရင် သတိုးဓမ္မရာဇာက ဟံသာဝတီဆင်ဖြူများရှင်ထံမှ တောင်းယူ၍ ပြည်သို့ ခေါ်ဆောင်သွားသဖြင့် ပြည်တွင်နဝဒေးဟူသောဘွဲ့ကို ရရှိလေသည်။

နဝဒေးသည် ငယ်စဉ်ကပင် စာပေလေ့လာသင်ကြားခဲ့၍ *ကဗျာလင်္ကာ များစွာရေးသားခဲ့သည်။

နဝဒေး ရေးသားခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

၁။ စစ်ချီရတုများ။ ၂။ မယ်ဘွဲ့ရတုများ။

---

*နဝဒေးကြီးဆိုသော စာများကား ၃၀၀၀-ကျော် ၄၀၀၀-ခန့်ရှိကြောင်းဖြင့် မော်ဘီဆရာသိန်းကဆိုသည်။(ပညာယှိကြီးများ ၁၀၃)။

၃။ သိကြားတိုင်ရတုများ။
၄။ အခြားရတုများ။
၅။ မင်းတရားမယ်တော်ချေင်း။
၆။ ယိုးဒယားမိဖုရားချေင်း။
၇။ ဘုရင့်နှမတော်ချေင်း။
၈။ ဆင်ဖြူရှင်မယ်ချေင်း။
၉။ မနော်ဟရီပျို့။

## ၅။ ရှင်ထွေးညို

(၈၅၀-ခန့်)

ရှင်ထွေးညိုသည် အင်းဝခေတ်တွင် ထင်ရှားသော စာဆိုတော်တဦး ဖြစ်လေသည်၊ အင်းဝနရပတိလက်ထက်မှစ၍ ရွှေနန်းကြော့ရှင်နရပတိ လက်ထက်တိုင် စစ်သူရဲတထောင်ကို အုပ်ချုပ်ရသော စစ်ဗိုလ်မှူးဖြစ် လေသည်။

သကရာဇ် ၈၃၄-ခုနှစ်တွင် မဟာသီဟသူရသည် ညီတော်ပြည်မြို့ စားမင်းကြီးစွာကို နှိမ်နင်းရန်ပြည်သို့စုန်တော်မူရာ ရှင်ထွေးညိုနှင့်အတူ ပါသွားလေသည်။

ရှင်ထွေးညိုသည် ပြည်စုန်မော်ကွန်းကို ရေးသားခဲ့လေသည်။

## ၆။ လျှော်ကား ၃၀၀၀-မှူး

(၈၅၀–ခန့်)

လျှော်ကား ၃၀၀၀-မှူးအင်းဝခေတ်တွင်ထင်ရှား၍အင်းဝပျက်သော် တောင်ငူသို့ပြောင်းရွှေ့ခစားသောစာဆိုတော်တဦးဖြစ်လေသည်။

လျှော်ကား ၃၀၀၀-မှူးသည် ရွှေနန်းကြော့ရှင် နရပတိလက်ထက် ရွှေနော်ရထာ၏ ကျွန်ရင်းဖြစ်ရာ ရွှေနော်ရထာကိုကွပ်မျက်သောအခါ တောင်ငူသို့ပြေး၍ မင်းကြီးညိုထံတွင် ခစားလေတည်၊

ရေတပ်တွင် လျှော်ကား၃၀၀၀ကိုကြီးမှူးရသောကြောင့်လျှော်ကား ၃၀၀၀-မှူးဟုတွင်လေသည်၊ ထိုဘွဲ့အပြင်တောင်ငူနဝဒေးဘွဲ့၊ ရာဇ ဗလဘွဲ့၊ရာဇဗာဟုဘွဲ့၊ရာဇဒေဝဘွဲ့ကိုလည်းရရှိလေသည်။

လျှော်ကား ၃၀၀၀-မှူးရေးသားခဲ့သော စာပေများတွင်အောက်ပါ စာပေများပါဝင်လေသည်။

၁။ မင်းရဲသခ်သူချေင်း။
၂။ မင်းရဲကျော်စွာစုန်ချေင်း။

၃။ မြင်းယာဉ်တက်လက်ာ။ ၄။ မင်းတရားရွှေထီးချောင်း ၃-စောင်။

၅။ ဆင်တော်သန်မြင်စွာမော်ကွန်း။

## ၇။ ရှင်ထွေးနာသိန်

(၉၀၀-ခန့်)

ရှင်ထွေးနာသိန်သည် အင်းဝမြို့ ဇာတိဖြစ်သော အင်ဝခေတ်စာဆို တဦးဖြစ်လေသည်၊ ၈၈၈-ခုနှစ်တွင် အင်းဝပျက်သောအခါ လှော်ကား ၃၀၀၀-မှူးနှင့်အတူ အင်းဝမှတောင်ငူသို့ ပြောင်းရွှေ့၍တောင်ငူ မင်းကြီးညိုထံ၌ ခစားလေသည်။

ရှင်ထွေးနာသိန်သည် အင်းဝမြို့ဘွဲ့ရတုများကို ရေးသားခဲ့လေသည်၊

## ၈။ မင်းဇေယျရန္တမိတ်

(၉၄၀ ခန့်–၁၀++)

*မင်းဇေယျရန္တမိတ်သည် လှော်ကား ၃၀၀၀-မှူး၏ သားဖြစ်၍ တောင်ငူခေတ်တွင် ထင်ရှားသော စာဆိုတော်တဦး ဖြစ်လေသည်၊ငယ်မည်မှာ မောင်ထွန်းဖြစ်လေသည်။

သကရာဇ် ၉၄၀-ပြည့်နှစ်တွင် တောင်ငူမြို့၌ ဖွားမြင်လေသည်၊ တောင်ငူ မဟာဓမ္မရာဇာမင်းလက်ထက်တွင် ကောင်းစစ်ဒိုင်းအစုကိုမှူးရ၍ ကောင်းစစ်ဒိုင်းမှူးဟူ၍လည်း တွင်လေသည်။

သကရာဇ် ၉၇၂-နှစ်တွင် ညောင်ရမ်းအနောက်ဖက် လွန်မင်း တောင်ငူကို သိမ်းပိုက်ရာ ဇေယျရန္တမိတ်ကိုပါ ခေါ်ဆောင်သွားလေသည်။

---

* အမရပုရ၌ တောင်ခွင်မြို့စား ဦးသာအောင်သည်လည်း ဇေယျရန္တမိတ်ဘွဲ့ရသည်ဟု ကဗျာဗန္ဓသာရ(၃၃၂)၌ဆိုသည်။

မင်းဇေယျရန္တမိတ် ရေးသားခဲ့သော စာပေများတွင် အောက်ပါ စာပေများပါဝင်လေသည်။

၁။ မင်းရဲနရာချေင်း။ ၂။ ဆင်တော်မော်ကွန်း။
၃။ ဘုရားတိုင်ရတု။ ၄။ ဥတေနသာချင်း။
၅။ အင်းဝမြို့ဘွဲ့ရတု။ ၆။ ပဍာစာရီသာချင်း။
၇။ စစ်ချီရတုများ၁၄-စုံ။ ၈။ စိဥ္စမာဏဝိကာသာချင်း။

---

## ၉။ နတ်သျှင်နောင်
(၉၄၀–၉၇၄)

နတ်သျှင်နောင်မှာ တောင်ငူခေတ်တွင် ထင်ရှားသောစာဆိုတဦးဖြစ်၍ ဟံသာဝတီ ဆင်ဖြူရှင်၏ မြေးဖြစ်ပြီးလျှင် တောင်ငူ ရွှေနန်းတည် မင်းရဲသီဟသူ၏သားတော်ကြီးဖြစ်လေသည်။

နတ်သျှင်နောင်ကို သကရာဇ် ၉၄၀-ပြည့်နှစ်တွင် မင်းရဲသီဟသူနှင့် ခင်စောတို့မှဖွားမြင်လေသည်။

နတ်သျှင်နောင်သည် ငယ်စဉ်ကပင် ဆင်စီး,မြင်းစီး တတ်သဖြင့် ၉၅၄-ခုနှစ် ငါးဆူဒါယကာမင်း လက်ထက်တွင် ယိုးဒယားသို့ချီရာ၌ တောင်ငူတပ်မှူး ခန့်အပ်ခြင်းခံရလေသည်၊ ၉၆၄-ခုနှစ်တွင် ခမည်းတော် တောင်ငူ ရွှေနန်းကိုတည်ထောင်ရာ နတ်သျှင်နောင် မင်းသားကို မဟာဥပရာဇာအမည်ဖြင့် အိမ်ရှေ့နှင်း၍ ဇင်းမယ်ဘုရင်၏ နှမတော် ရာဇဒေဝီတုကလျာနှင့် စုံဖက်လေသည်။

နတ်သျှင်နောင်သည် ကဗျာ ဂီတကို ဝါသနာ ထုံလှလေသည်၊ သကရာဇ် ၉၇၁-ခုနှစ် ဝါခေါင်လပြည့်ကျော် ၆-ရက်နေ့တွင်အရိုင်အရာရသော်လည်း အင်းဝအနောက်ဖက်လွန်မင်း ချီလာ၍ အညံ့ခံရလေသည်၊ ထိုနောက် ဟံသာဝတီလက်အောက်ခံ ဘုရင်ခံငယ်အဖြစ် နေရရာမှ အနောက်ဖက်လွန်မင်းအား လက်စားချေရန် ပေါ်တူဂီသံလျင်မြို့စား ဇေင်ကာနှင့် ပူးပေါင်းတိုက်ခိုက်ရာမှ အရေးနှိမ့်သဖြင့် လက်ရအမိခံရပြီး ၉၇၄-ခုတန်ခူးလပြည့်ကျော်၃-ရက် စနေနေ့တွင်သံလျင်မြို့ဈေးလယ်၌ကွပ်မျက်ခံရလေသည်။

နတ်သျှင်နောင် ပြုစုခဲ့သောစာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ဘုရားတိုင်ရတုများ။
၂။ သခင်ဘိုးချောင်း။
၃။ ရာသီဘွဲ့ရတုများ။
၄။ မင်းသက်ရှည်ချောင်း။
၅။ သစ္စာတိုင်ရတုများ။
၆။ ဝိမလရာဇာချောင်း။
၇။ စစ်ချီရတုများ။
၈။ ဘုရင့်နှမတော်ချောင်း။
၉။ ကျေးစေရတုများ။
၁၀။ သခင်မင်းစည်ချောင်း။
၁၁။ အခြားရတုများ။
၁၂။ စစ်ကိုင်းသခင်ချောင်း။

---

## ၁၀။ ဥက္ကာပျံ (ဦးကာဗျန်)

(၉၅၀-ခန့်)

ဥက္ကာပျံသည် သကရာဇ် ၉၅၅-ခုနှစ်၌ ရခိုင်ပြည်တွင် နန်းတက်သော မင်းရာဇာကြီးလက်ထက် သားတော်အိမ်ရှေ့မင်း မင်းခမောင်း၏ အကြီးတော်စာဆိုတော်ဖြစ်လေသည်။

သကရာဇ် ၉၅၇-ခုနှစ်တွင် တောင်ငူနတ်သျှင်နောင်က အကူအညီ တောင်းချက်အရ ခမည်းတော်၏အမိန့်ဖြင့် မင်းခမောင်းသည် သံလျင်သို့စစ်ချီရာတွင် ဥက္ကာပျံလည်းပါဝင်လေသည်၊ ဥက္ကာပျံသည် စိန်တင်ရွာကို စားရလေသည်။

သကရာဇ် ၉၇၄-ခုနှစ်တွင် မင်းခမောင်းသည် ခမည်းတော်ကို တော်လှန်ရာ အရေးနိမ့်၍ဖမ်းမိသောအခါ အကြီးတော် ဖြစ်သော ဥက္ကာပျံကို လက်ဖြတ်၍ မဟာမုနိဘုရားတွင်လှူလေသည်။

ဥက္ကာပျံသည် ရတုများကိုရေးသားခဲ့လေသည်။

---

## ၁၁။ ရှင်သံခို (ရှင်သံကို)

(၉၆၀-၁၀++)

ရှင်သံခို (ရှင်သံကို) မှာ တောင်ငူခေတ်တွင် ထင်ရှားသောစာဆိုတော်တဦးဖြစ်၍ လှော်ကား ၃၀၀၀-မှူး၏မြေး မင်းဇေယျရန္တမိတ်၏ တူဖြစ်လေသည်။

သကရာဇ် ၉၆ဝ-ပြည့်နှစ်တွင် တောင်ငူမြို့၌ ဖွားမြင်လေသည်၊ တောင်ငူမင်းနတ်ရှင်နောင်ထံတွင်ခစား၍ ၉၇၂-ခုနှစ်တွင် အနောက်ဖက်လွန်မင်းအရေးသာသောအခါ အင်းဝသို့ လိုက်ပါသွားလေသည်၊ လက်ဆောင်ယူမှုအဖြစ် ထမ်းရွက်ရသဖြင့် လက်ဆောင်ယူမှုးဟူ၍တွင်လေသည်။ အနောက်ဖက်လွန်မင်းက နတ်ရှင်နောင်၏ ကျွန်ယုံဟူ၍ အထင်မှားကာ ကွပ်မျက်မည်ပြုရာ၊ ထေင်ငယ် လျှောက်ထားသဖြင့် ချမ်းသာခွင့်ရလေသည်။

ရှင်သံခိုရေးသားခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

၁။ မင်းရဲဒိဗ္ဗချေမ်း။ ၂။ ရတုများ။
၃။ ရတနာပြောင်မွန်ဆင်တော်မော်ကွန်း။

---

## ၁၂။ ရှင်ကရဝိက

(၉၉၁-၁ဝ၅၁)

ရှင်ကရဝိကသည် အင်းဝခေတ်တွင် ထင်ရှားသော စာဆိုရဟန်းတော်တပါးဖြစ်သည်၊ရှင်ကရဝိကကို ၉၉၁-ခုနှစ် ဝါဆိုလပြည့်နေ့တွင် ပုခန်းကြီးမြို့နယ်-ပိုက်သင်ရွာ ဦးလှော်-ဒေါ်ရွှေမယ်တို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ချမ်းသာ ဖြစ်သည်၊ ငယ်စဉ်က ပဒ္မကျော်အောင်စံထားဆရာတော်ထံတွင် ပညာသင်ကြား၍ ရှင်သာမဏေပြုသော် ရှင်ကရဝိကဘွဲ့ခံသည်၊ သာလွန်မင်းတရားကြီး ဥကင်တော်ဖွင့်သောအခါ ရှင်ကရဝိကသည် ရဟန်းဘောင်သို့ တက်ရောက်သည်၊ ရှင်ကရဝိကသည် မင်းတရားကြီးက လူဝတ်လဲစေသော်လည်း မလဲဘဲ စစ်ကိုင်းရွှေမင်းဝံတောင်ရိုးတွင် အရညဝါသီဆောက်တည်တော်မူလေသည်၊ ရှင်ကရဝိကသည် ၁ဝ၅၁-ခုနှစ်တွင် ပျံလွန်တော်မူလေသည်။

ရှင်ကရဝိက ရေးသားတော်မူသော စာပေများတွင် အောက်ပါ စာပေများပါဝင်လေသည်။

၁။ မင်းလှယဉ်နှပျို့ (၁ဝ၂ဝ) ၂။ ရတုများ။
၃။ ပုဂံမြို့ဘွဲ့လူးတား။ ၄။ နရပတိရေလား။
၅။ မင်းရဲကျော်စွာလေးထပ်ကျောင်းတည်မော်ကွန်း။

---

## ၁၃။ ဦးဖျော်
(၁၁၀၀-၁၁၇+)

ဦးဖျော်မှာ ဆင်ဖြူရှင်နှင့်စဉ့်ကူးမင်းထံတွင် ဆရာအဖြစ်ဖြင့် အမှုထမ်းရွက်ရသူဖြစ်လေသည်၊ သကရာဇ် ၁၁၀၀-ပြည့်နှစ်တွင် ဖွားမြင်သည်။

စဉ့်ကူးမင်းလက်ထက်တွင်*မင်းရာဇာဘွဲ့နှင့်အကြီးတော်အဖြစ်ဖြင့် ပလိပ်ရွာကိုစားရလေသည်၊ ဘိုးတော်ဘုရားလက်ထက်တွင် ကျောက်ရင်းတောင်သာမြို့ကိုလည်း ထပ်မံ စားရလေသည်၊ ဟူးရားညို့ဘွဲ့နှင့် သီရိပဏ္ဍိတ်ဘွဲ့များကိုလည်း ရလေသည်၊ဦးဖျော်ရေးသားခဲ့သောစာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ စဉ့်ကူးမင်းရွှေနားတော်သွင်းချော်း။
၂။ သကရာဇ် မြို့ပုံလင်္ကာ။
၃။ ဗေဒင်အဟောလင်္ကာ။

---

## ၁၄။ ပဒေသရာဇာ
(၁၀၄၆-၁၁၁၆)

ဝန်ကြီးပဒေသရာဇာသည် အင်းဝဇာတိစာဆိုတော် တဦးဖြစ်သည်၊ သကရာဇ် ၁၀၃၄-ခုနှစ် နန်းတက်သောအင်းဝ အင်္ဂါမင်းလက်ထက် သကရာဇ်၁၀၄၆-ခုနှစ်တွင်ဖွားမြင်သည်။

ဝန်ကြီးသည် စနေမင်းလက်ထက် စုရေးစုကိုင်အရာ၌ အမှုတော်ထမ်းသည်၊ ကဗျာလင်္ကာကျွမ်းကျင်တတ်မြောက်သဖြင့် တနင်္ဂနွေမင်းလက်ထက်တွင် ဝန်ကြီးအား မန်ကျည်းရုံရွာကိုစားစေ၍ လက်ဝဲရွှေတောင်ဘွဲ့နှင့် ရွှေခံုးဆောက်ဝန်းပြည့်အိမ် ဆောင်ခွင့်ပေးသည်။

ထိုနောက် ကြာသပတေးမင်း(ဟံသာဝတီမင်း)လက်ထက်ရွှေကျုပ်, လက်ဖက်အိုး,ကျိုင်းပေး၍ အတွင်းဝန်ခန့်ကာ †တုရင်ကျော်သူဘွဲ့ကို နှင်းသည်၊ကွမ်းခွက်,လက်ဖက်အိုး,အဝန်း,မည်သရီ,ပွမ်းခါး,တံခါင်း

---

*ဟံသာဝတီပါမင်းလက်ထက်ဟိတကာရီပျို့ကိုရေးသောမင်းရာဇာဟူ၍လည်း ရှိသေးသည်။

† လောကဗျူဟာအင်ရုံစာတမ်း-၂၆၅၊၌ ဘယကျော်သူဟုရှိသည်။

ဝိတ်, ထွေးအင်ပေး၍ ဇ ရွှံမြို့ကိုစားစေသည့်ပြင် မင်းရဲမင်းလှကျော်ထင်ဘွဲ့ဖြင့်လည်းချီးမြှင့်သည်၊ ထိုနောက်အသည်ဝန်, အတွင်းဝန်အရာမှလွှတ်တော်ဝန်ကြီးခန့်ပြီးလျှင် နတ်သျှင်နောင်ဘွဲ့, ဘုန်းတော်မြတ်ဘွဲ့, ပဒေသရာဇ်ဘွဲ့, ပဒေသရာဇာဘွဲ့များဖြင့် ချီးမြှောက်၍ စာဆိုတော်ကြီးဟုခေါ်တွင်စေသည်။

ဝန်ကြီးအား နန်းတော်သို့ဝင်ထွက်သည့်အခါ ဝေါပလာ စီးနှင့်နှင့် ကျိုင်းရွှေချက် ၂- စင်းဆောင်းခွင့်ပြုကာ ဝန်ကတော် နှစ်ဦးကိုလည်း အတူအညီဒေဝီတပ်သောဘွဲ့ဖြင့် ချီးမြှင့်သည်။

သကရာဇ် ၁၁၁၃-ခုနှစ်တွင် အင်းဝဘုရင် ဟံသာဝတီသို့ ပါတော်မူရာ အတူလိုက်ပါ၍ ၁၁၁၃-ခုနှစ်တွင် သံလျင်မြို့ ကျိုက်ခေါက်ဘုရားအနီး၌ အနိစ္စရောက်သဖြင့် ဝန်ကတော်နှင့်သားသမီးတို့ကအရိုးဂူပြုလုပ်ထားလေသည်၊ ယခုတိုင်ဂူတည်ရှိသေး၏။

ဝန်ကြီးပဒေသရာဇာသည် ကဗျာလင်္ကာနှင့် သီချင်းများကိုရေးသားပြုစုခဲ့လေသည်၊ ဝန်ကြီးရေးသားပြုစုခဲ့သော စာပေများအနက်အောက်ပါစာပေများ ပါဝင်လေသည်။

၁။ သူဇာပျို့။
၂။ မဃဒေဝကက်ပျို့။
၃။ ကျေးဇူးတော်ပျို့။
၄။ ကုမ္မာဘယပျို့။
၅။ ဆဒ္ဒန်ပျို့။
၆။ ယိုးဒယားသံရောက်ပျို့။
၇။ မနော်ပျို့သစ်။
၈။ ဒန္တာသီရိပျို့။
၉။ နုအုပျို့။
၁၀။ ကြာနတ်ကေသာပျို့။
၁၁။ မဟာပတိပျို့။
၁၂။ ထိပ်ဦးတင်ချောင်း။
၁၃။ ထိပ်ဦးနေချောင်း။
၁၄။ ထိပ်ဦးပန်းချောင်း။
၁၅။ စကုမင်းချောင်း။
၁၆။ စလင်းမင်းချောင်း။
၁၇။ မဃဒေဝကက်ပြဇာတ်။
၁၈။ နမော လင်္ကာ။
၁၉။ တောထွက်ခန်းပျို့။
၂၀။ မောင်ဆန်ပြန်တမ်းချင်း။
၂၁။ ၃၇-မင်းနတ်ချင်းများ။
၂၂။ ကြိုး သီချင်းခံနှင့် ဇာတ်ချင်းများ။
၂၃။ တျာချင်းများ။

## ၁၅။ ရွှေတောင်နန္ဒမိတ်

(၁၀၅၀-ခန့်)

ရွှေတောင်နန္ဒမိတ်သည် ဘိုးတော်ဘုရားမင်းသားဖြစ်စဉ်က အပါး တော်၌ခစားထမ်းရွက်ရသော အကြီးတော်၏သားဖြစ်၍ ငယ်မည်မှာ မောင်သူဟူ၍၎င်း၊ မောင်ဘူးကလေး ဟူ၍၎င်း တွင်လေသည်၊ အလောင်းမင်းတရား၏လက်ထက်တွင် ရဲဖက်တော်တဦးအဖြစ်အမှုထမ်း ခဲ့၍ ဆင်ဖြူရှင်လက်ထက်တွင်လည်း ထမ်းရွက်ခစားလေသည်၊ ထိုအ ခါတွင် *ရွှေတောင်နန္ဒမိတ်ဘွဲ့ကိုရရှိလေသည်။

စဉ့်ကူးမင်းလက်ထက်တွင် သံတော်ဆင့်လျော်ကား ၃၀၀၀-မျှနှင့် အတွင်းဝန်အရာတို့ဖြင့် ချီးမြှောက်ခံရပြန်လေသည်၊ ဘိုးတော်ဘုရား လက်ထက်တွင် အနိစ္စရောက်သည်။

ရွှေတောင်နန္ဒမိတ်ရေးသားခဲ့သော စာပေများတွင် အောက်ပါစာ များပါဝင်လေသည်။

၁။ မင်းရွှေနန်းချောင်း။
၂။ ဆင်ဖြူရှင် သားတော် စလင်းစားချောင်း။
၃။ ဆင်ဖြူရှင်သားတော်ကြီးသခင်ကြီး ချောင်း။
၄။ ဆင်ဖြူရှင် သားတော် လတ်ချောင်း။
၅။ ဆင်ဖြူရှင်သားတော်ငယ်ချောင်း။
၆။ သမီးတော် မြို့လုလင် စားချောင်း။
၇။ ဥမ္မာဒန္တီပျို့ဟောင်း။
၈။ မယ်တော်မာယာပျို့။
၉။ ကုသပျို့။
၁၀။ စန္ဒကုမ္မာဇာတ်ချင်း။

---

## ၁၆။ ဦးအောင်ကြီး

(၁၀၅၀-ခန့်)

ဦးအောင်ကြီးမှာ ဟံသာဝတီပါမင်းခမည်းတော် တနင်္ဂနွေမင်း လက်ထက်တွင် ထင်ရှားသော လူးတားဆရာကြီးဖြစ်လေသည်။

---

* ပိဋကတ်တော်သမိုင်းတွင် နေမျိုးနန္ဒမိတ်ဟူ ဖော်ပြလေသည်၊

ဦးအောင်ကြီးသည်စဥ့်ကူးမြို့အပိုင် ဧရာဝတီမြစ်အရှေ့ကမ်း ဆိသည် ရွာတွင်နေထိုင်၍ ဟံသာဝတီပါမင်း၏ဘိုးတော်ထွေးပုဂံမင်းပြောက်၏ ကျေးကျွန်တော်ဖြစ်လေသည်။

ဦးအောင်ကြီးသည် အင်းဝမြို့၏ သာယာပုံကို ဆယ့်နှစ်ရာသီဘွဲ့ လူးတားများဖြင့်ဖွဲ့ဆို ရေးသားခဲ့သဖြင့်ထင်ရှားသည်။

---

## ၁၇။ သီရိဥဇနာ (သီရိဥစ္စနာ) (အင်ရုံဝန်ကြီး)
(၁၀၅+-၁၁၁၉)

အင်ရုံဝန်ကြီးသီရိဥဇနာမှာ ဟံသာဝတီပါမင်းနှင့် အလောင်းဘုရား လက်ထက်တွင်ထင်ရှားသော အမတ်ကြီးတဦးဖြစ်သည်၊ အဘိုးအဘ တို့မှာ အစဉ်အဆက် စာရေးကြီးများဖြစ်ခဲ့၍ မာရ်အောင်ရတနာ ဒါယကာ စနေမင်းလက်ထက်၌ ဘခင်ထံတွင်အစုရေးအဖြစ်ထောက် မရလေသည်၊ တနင်္ဂနွေမင်းလက်ထက်တွင် မြို့လပ်အခွန်စာရေးဖြစ်၍ တွင်းသင်း နေမျိုးဇေယျကျော်ထင်ထံတွင် ရေးသားထမ်းရွက်ရလေ သည်၊ ၁၀၈၉-ခုနှစ်တွင် စာရေးကြီးခန့်အပ်ခြင်းခံရ၍ တောင်တွင်း ကြီးမြို့ကျေး အင်ရုံရွာနှင့်တုရင်ရာဇာဘွဲ့ကိုခံယူရလေသည်၊ ဟံသာဝတီ ပါမင်းလက်ထက်တွင် လက်ျာရန္တသူ၊ သီရိဇေယျသင်္ခယာဘွဲ့များကို ရရှိ၍ ဝန်ထောက်ခန့်အပ်ခြင်းခံရလေသည်၊ ထိုနောက် ဝန်ကြီးခန့်၍ တိုင်တားမြို့ကို စားရသည်၊ ထိုနောက် မဟာနေမျိုးသီဟသူရဘွဲ့၊ မင်းရဲသီဟသူရဘွဲ့၊ မင်းရဲမင်းလှ ကျော်ထင်ဘွဲ့၊ ရှင်ပင်နောင်ဘွဲ့၊ လောကထွတ်ခေါင်ဘွဲ့၊ ရာဇာထွတ်ဖျားဘွဲ့၊ ဓမ္မာသောကရာဇာဘွဲ့၊ အဂ္ဂတုလရာဇာဘွဲ့၊ သီရိအဂ္ဂ သေနာပတိဘွဲ့တို့ကိုပါ ခံယူရသည်၊ ထိုနောက် နေမျိုးရာဇာဘွဲ့၊သီရိဥဇနာဘွဲ့များကို ခံယူရပြန်သေးသည်။

၁၁၁၄-ခုနှစ်ကဆုန်လတွင် ဟံသာဝတီပါမင်းနှင့်အတူ ဟံသာ ဝတီသို့လိုက်ပါရလေသည်၊ ဟံသာဝတီမွန်မင်းက သီရိစန္ဒာဗလဘွဲ့နှင့် လွှတ်တော်ဝန်ကြီးခန့်သည်၊ သို့ရာတွင် ဟံသာဝတီပါ မြန်မာမင်းကို သစ္စာခံပြီးဖြစ်၍ လွှတ်မတက်၊ တရားမစီရင်ခဲ့ပေ၊ ဟံသာဝတီကို အလောင်းမင်းတရား အောင်နိုင်သောအခါ အင်းဝသို့ပြန်လည်လိုက် ပါ၍ အလောင်းဘုရားထံတွင် ခစားထမ်းရွက်သည်။

ဝန်ကြီးသည် ရှေးမင်းတို့အဆောင်အရွက် ထုံးတမ်းများကို ထုတ်ဖော်မှတ်တမ်းတင်ထားသော လောကဗျူဟာကျမ်းကို ရေးသားစီရင်ခဲ့ပေသည်။

---

## ၁၈။ လက်ဝဲသုန္ဒရ

(၁၀၈၅-၁၁၄+)

လက်ဝဲသုန္ဒရအမတ်မှာ အလောင်းဘုရားလက်ထက်မှစ၍ဆင်ဖြူရှင်လက်ထက်အထိ လက်ရုံးရည်နှလုံးရည်နှစ်ပါးလုံးဖြင့် အမှုထမ်းခဲ့သော စာဆိုတော်ကြီးဖြစ်လေသည်။

သကရာဇ် ၁၀၈၅-ခုနှစ်တွင် ရွှေဘိုမြို့မြောက်ဖက် မန်ကျည်းတုံရွာ၌ဖွားမြင်၍ ငယ်မည်မှာ မောင်မြတ်စံဖြစ်လေသည်။

ငယ်စဉ်က စာပေနှင့်ပိဋကတ်များကိုသင်ကြား၍ ဟံသာဝတီပါမင်းထံတွင် လွှတ်ရုံးစာချီအဖြစ်အမှုထမ်းရာ လက်ဝဲသုန္ဒရဘွဲ့ကိုရရှိလေသည်။

ဆင်ဖြူရှင်လက်ထက်တွင် ညီတော်အမြင့်မင်းသား အိမ်တော်၌အကြီးတော်အရာဖြင့် ထမ်းရွက်ရာ၌ လူပျိုတော်ထင်ကျော်အမှုနှင့်ပတ်သက်၍ရာဇဝတ်သင့်သဖြင့် မဲဇာသစ်တောသို့အပို့ခံရရာ ၄၅-ရက်အကြာတွင် "မဲဇာတောင်ခြေ"အစချီနှင့် "ဝေရွှန်းစန္ဒာ"အစချီရတုများဆက်သွင်းသဖြင့် နေပြည်တော်ပြန်ခွင့်ရလေသည်၊ ဘိုးတော်ဘုရားလက်ထက်တွင် မဟာသီဟသူရဘွဲ့ဖြင့် အမရပုရမြို့ဝန်ခန့်ထားခြင်းခံရပြီး မင်းကွန်းတွင် အနိစ္စရောက်သည်။

လက်ဝဲသုန္ဒရအမတ်ကြီး ရေးသားပြုစုခဲ့သော စာပေများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ သာမိနပျို့။
၂။ ဂုတ္တိလပျို့။
၃။ နန္ဒိသေနပျို့။
၄။ မန္တာတုစကြာမင်းပျို့။
၅။ ဗျူဟာစက္ကပျို့။
၆။ သရဘင်ပျို့။
၇။ ဂါမဏိစန္ဒပျို့။
၈။ အာဒါသမုခပျို့သစ်။
၉။ သောဏပျို့။
၁၀။ ဝိနိစ္ဆယပကာသနီ ဓမ္မသတ်လင်္ကာ။

၁၁။ ဘိုးတော်မုဒ္ဒါဘိသေက မော်ကွန်း။
၁၂။ နိဗ္ဗာနပစ္စယဆင်တော် မော်ကွန်း။
၁၃။ ပြည်တော်ဝင်မော်ကွန်း။
၁၄။ ရတနာပုရအင်းဝပြည် တော်ကြီးလာမော်ကွန်း။
၁၅။ မဟာဝိဇယရံသီစည်းခံ တော်တည်မော်ကွန်း။
၁၆။ မင်းကွန်းစေတီတော် မော်ကွန်း။
၁၇။ ဂဝ-ပေါ်အဲရိုးများ။
၁၈။ ခါးစကြာရောက်ရတုနှင့် အခြားရတုများ။
၁၉။ လူးတားများ။

---

## ၁၉။ လက်ဝဲနော်ရထာ
## (၁၀၇၅-၁၁၅၃)

လက်ဝဲနော်ရထာကို မုံရွေးရွာ၌*၁၀၇၅-ခုနှစ်တွင် ဖွားမြင်သည်၊ ငယ်မည်မှာ မောင်မြတ်သာနေဖြစ်၍ မောင်မြတ်နေ- မောင်နေ စသည်ဖြင့် ခေါ်ဝေါ်ကြသည်၊ (မောင်မြတ်စာဟုလည်း မှတ်သားကြသည်။) လက်ဝဲနော်ရထာသည် အလောင်းမင်းတရားကြီး လက်ထက်တွင် လက်ရုံးရည် နှလုံးရည်နှစ်ပါးလုံးဖြင့် အမှုတော်ကို ထမ်းရွက်သည်၊ စာပေဗဟုသုတလေ့လာဆည်းပူးသူဖြစ်သည်၊ လက်ဝဲနော်ရထာသည် ၁၁၂၀-ပြည့်နှစ် တန်ဆောင်မုန်းလတွင်ကသည်းပြည်သို့စစ်ချီရာ၌၎င်း, ၁၁၂၁-ခုနှစ် ပြာသိုလတွင် ယိုးဒယားပြည်သို့ စစ်ချီရာ၌၎င်း လိုက်ပါခဲ့ရလေသည်၊ ၁၁၂၀-ပြည့်နှစ်တွင် ကလျာဏီရွှေကျောင်းကို၎င်း, ၁၁၂၃-ခုနှစ် တန်ခူးလတွင် တိလောကစေတီကို၎င်း, ၁၁၂၇-ခုနှစ်တွင် တိလောကခေါင်းလောင်းကို၎င်း တည်ထား လှူဒါန်းသည်၊ တောင်တွင်းဆရာတော်ခင်ကြီးဖျော်ထံတွင် စာပေ လေ့လာ ဆည်းပူးသည်၊ လက်ဝဲနော်ရထာသည် †လက်ဝဲသုန္ဒရဘွဲ့ကို ရှေးဦးစွာ ရရှိဘူးသည်၊ ၁၁၂၃-ခုနှစ် နောင်တော်ကြီးလက်ထက်တွင် စည်သူကျော်ထင်

---

* ဝေါဟာရလီနတ္ထဒီပနီစာမျက်နှာ ၃၀၄-လက်ဝဲနော်ရထာသည် လက်ဝဲသုန္ဒရဘွဲ့ရဘူးသဖြင့် လက်ဝဲသုန္ဒရဦးမြတ်စံနှင့် ရောမှားမှတ်သားခဲ့ကြဘူးသည်။
† တောင်တွင်းဆရာတော်ခင်ကြီးဖျော်ဖြေဆိုသည်။

ဘွဲ့ကိုလည်းရရှိသည်၊ ထိုဘွဲ့များအပြင် နေမျိုးသီရိဇေယျကျော်ထင်ဘွဲ့, နေမျိုးမဟာကျော်ထင်ဘွဲ့, နေမျိုးမဟာသခ်ယာကျော်ထင်ဘွဲ့, မဟာသီဟသူရဘွဲ့များကိုလည်း ရရှိသည်၊ နန္ဒသူရကျော်ထင်ဘွဲ့၊ မင်းကြီးကျော်ထင်ဘွဲ့, ရန္တကျော်စွာဘွဲ့,ပုံချီကျော်ထင်ဘွဲ့များကိုလည်း ရရှိသေးသည်ဟု သိရှိရသည်။

လက်ဝဲနော်ရထာသည် ၁၁၅၃-ခုနှစ်တွင် ကွယ်လွန်ရာ ပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ဟန်လင်းသမိုင်းပျို့။
၂။ ညောဝတီနိုင်မော်ကွန်း။
၃။ ယိုးဒယားနိုင်မော်ကွန်း။ (၁၁၂၉)
၄။ အလောင်းဘုရားအရေးတော်ပုံ။
၅။ လက်ဝဲနော်ရထာလျှောက်ထုံးများ။ (၁၁၂၅)
၆။ မြန်မာသံယောဂဒီပနီ၊ (၁၁၂၂)
၇။ မုဒ္ဒါဘိသိက်မော်ကွန်း၊ (၁၁၄၆)

---

## ၂၀။ ဦးထွန်းညို–မဟာစည်သူ
(၁၀၈၈-၁၁၇၁)

မဟာစည်သူသည် ကုန်းဘောင်ခေတ်ဘိုးတော်ဘုရားလက်ထက်တွင် ထင်ရှားသောစာဆိုတော်ကြီးတဦးဖြစ်လေသည်။

သကရာဇ် ၁၀၈၈-ခုနှစ်တွင် မောင်းထောင်ရွာ၌ ဖွားမြင်ရာ ငယ်မည်မှာ မောင်ထွန်းညိုဖြစ်လေသည်၊ ဦးထွန်းညို၏အစ်မ ဒေါ်ပုမှာ စိန္တကျော်သူ၏မိခင်ဖြစ်လေသည်။

ငယ်စဉ်က မောင်းထောင်ရွှေခြားကန်တိုက် အရှင်စန္ဒသာရထံတွင် ပညာသင်ကြား၍ သာမဏေပြုရာ ဘွဲ့တော်မှာ ရှင်လက်ာသာရဖြစ်လေသည်၊ ရဟန်းဘောင်သို့ဝင်၍ ရဟန်းဘဝဖြင့်ပင် မုဒုလက္ခဏာပျို့များကို ရေးသားခဲ့လေသည်။

ထိုနောက် လူဝတ်လဲ၍ ဗဒုံမင်းသား (ဘိုးတော်ဘုရား) ထံတွင် ဆရာအဖြစ် ထမ်းရွက်လေသည်၊ ဘိုးတော်ဘုရား အထွတ်အမြတ်သို့

ရောက်လျှင် မဟာစည်သူဘွဲ့နှင့် တွင်းသင်းတိုက်ဝန် ခန့်ပြန်လေသည်၊ ပုခန်းမင်းကြီးမရှိလျှင် ပဒမြားသုံးရစ်စီတောင်ဇွေးနှင့် တံခါးနီအထိ ပေါင်းယာဉ်စီးခွင့်များပေးလေသည်။

မဟာစည်သူပြုစုခဲ့သောစာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ ငရဲ့မင်းပျို့။ ၂။ မုဒုလက္ခဏာပျို့။
၃။ မဟော်ကျေးစေခန်းပျို့။ ၄။ မဟော်ဥမင်ခန်းပျို့။
၅။ ဇယဒိသပျို့။ ၆။ ဝိဓုရပျို့ (၁၁၅၂)
၇။ ဝေဿန္တရာပျို့(၁၁၆၀)၈။ ဘလ္လာတိယပျို့ (၁၁၅၄)
၉။ ဇနကပျို့ (၁၁၆၈) ၁၀။ ရေသဘင်လူးတား။
၁၁။ ပုဏ္ဏရိကဆင်တော်မော်ကွန်း။ ၁၂။ ခါးစကြာဘွဲ့။
၁၃။ တက်ရေး ၃၇-ချင်းလူးတား။
၁၄။ အောင်ပင်လယ်ကန်ဘွဲ့။ ၁၅။ ဘုန်းတော်ဘွဲ့ရတု။
၁၆။ အမရပုရဘွဲ့မော်ကွန်း။ ၁၇။ မင်းကွန်းဘွဲ့မော်ကွန်း။
၁၈။ ဓမ္မသတ်လင်္ကာများ (မဂ်လာဖူးတိုင်ချီနှင့် မဟာစိန္တေယျချီ။)
၁၉။ မနုရင်းလင်္ကာ။ ၂၀။ မနုဝဏ္ဏနာဓမ္မသတ်လင်္ကာ။
၂၁။ ပေါရာဏကထာကျမ်း။ ၂၂။ မျိုးတော်စဉ်ချေင်း။
၂၃။ ဆင်ဖြူရှင်မယ်ချေင်း။ ၂၄။ ဂြဟစိန္တာကျမ်း။
၂၅။ အာယုစိန္တာဋီကာ။ ၂၆။ သတ်ထူး။
၂၇။ သတ်ညွှန်း။ ၂၈။ ဝိဘင်္ဂဋ္ဌပိတခွဲထား။

---

# ၂၁။ ဦးဩ

(၁၀၉၈-၁၁၄+)

ဦးဩသည် ကုန်းဘောင်ခေတ်ဦးတွင် ထင်ရှားသော စာဆိုတော်တဦးဖြစ်လေသည်၊ သကရာဇ် ၁၀၉၈-ခုနှစ်တွင် မောင်းထောင်ရွာ၌ ဦးဇေယျနှင့် တွင်းသင်းတိုက်ဝန်၏အမဒေါ်ပုတို့မှ ဖွားမြင်သည်။

ငယ်စဉ်က မောင်းထောင်ကြီး ရွှေခါးကန်ကျောင်းတိုက် အရှင်စန္ဒသာရ,အရှင်ဂုဏသာရ,အရှင်လက်ာသာရတို့ထံတွင် စာပေသင်ကြား ပြီးနောက် ပဌမကျော်အောင်စံထားဆရာတော်ထံတွင် ပညာဆည်းပူး ပြန်လေသည်။

အသက် ၁၃-နှစ်တွင် ဟံသာဝတီပါမင်းထံ ခစားရာ ဘထွေး တော် တောင်ငူရာဇာ တွင်သော သီရိသုဓမ္မရာဇာဓိပတိ*သတိုးမင်း ခေါင်ထံတွင်†ရွှေတောင်ရာဇကျော်ဘွဲ့နှင့် သံတော်ဆင့်အရာဖြင့် ထမ်း ရွက်စေလေသည်။

ထိုနောက် အင်းဝပျက်သော် ကုန်းဘောင်ခေတ် အလောင်းဘုရား ထံတွင် ဝင်ရောက်ခစားလေသည်၊ အလောင်းဘုရားက စိန္တကျော် သူဘွဲ့ပေး၍ သားတော် ဗဒုံမြို့စား သတိုးမင်းလှရွှေတောင်ထံ၌ စာဆို နှင့် အကြီးတော်အဖြစ်ထမ်းရွက်စေလေသည်။

ဦးသြသည် အလောင်းဘုရား,နောင်တော်ကြီး, ဆင်ဖြူရှင်, စဉ့်ကူး မင်း, ဘိုးတော်ဘုရား လက်ထက်များတွင် စာဆိုအမှုထမ်းလေရာ ဘိုးတော်မင်းတရားက မဟာဇေယျသင်္ခယာဘွဲ့ကို ချီးမြှင့်လေသည်၊ ဆင်ချေးတိုက်ဝန် အဖြစ်ဖြင့်လည်း အမှုထမ်းခဲ့ဘူးလေသည်၊ ဦးသြတွင် ဒေါ်ကေးနှင့် ဒေါ်မင်းသာ-ဟူသော ဇနီး ၂-ယောက်ရှိလေသည်။

ဦးသြကွယ်လွန်သော သကရာဇ်ကိုကား မသိရပေ၊ ၁၁၄၅-ခုနှစ် ကျော်မှကွယ်လွန်လေသည်။

ဦးသြရေးသားခဲ့သော စာပေများတွင် အောက်ပါစာပေများပါဝင် လေသည်။

၁။ သြဝါဒထူးပျို့ (၁၁၂၂)
၂။ ကဝိလက္ခဏာ သတ်ပုံ သံပေါက် (၁၁၁၃)
၃။ ဘုန်းတော်ဘွဲ့နှင့်အခြားရတုများ။
၄။ မိုးကြီးကျူစာ။
၅။ သကြန်ရကန်။
၆။ ဘိုးတော် ရှင်ချေင်း (၁၁၁၉)

---

* မင်းရဲကျော်ခေါင်ဟု မှတ်ကြသည်။

† ရွှေတောင်ရာဇကျော်မှာ အခြားပုဂ္ဂိုလ်တဦးဖြစ်သည်ဟုလည်း အချို့မှတ် ယူကြသည်။

၇။ ပင်းတလဲမင်းသားဧချင်း။ ၈။ အိမ်ရှေ့မိဖုရားဧချင်း။
၉။ မင်းဆက်လက်ာကြီး(၁၁၂၁) ၁၀။ တောလားပိုဒ်စုံများ။
၁၁။ လူးတားများ။ ၁၂။ နမက္ကာရနိသျ။
၁၃။ *စမ္မေယျပျို့သစ်။

## ၂၂။ ဝဏ္ဏဓမ္မကျော်ထင်

(၁၁၀၀-ခန့်)

ဝဏ္ဏဓမ္မကျော်ထင်သည် ဆင်ဖြူရှင်မင်းတရားလက်ထက်၌ ထင်ရှားသော ပညာရှိပုဂ္ဂိုလ်ကြီးတဦးဖြစ်လေသည်။

ပုခန်းကြီးမြို့ စီရင်စုဖျူသီးရွာဇာတိဖြစ်၍ ငယ်မည်မှာ မောင်မြတ်အောင်ဖြစ်လေသည်၊ ငယ်စဉ်ကပင်သာမဏေပြု၍ ကျမ်းဂန်ဓမ္မသတ်များကိုလေ့လာခဲ့ပြီးလျှင် ဆင်ဖြူရှင်လက်ထက်တွင် အမရပုရမြို့ မိုးကောင်းတံခါးအတွင်း ဝေယန်သာလွတ်ကျောင်းတိုက်တွင်သီတင်းသုံးတော်မူလေသည်၊ ထိုနောက် လူထွက်၍ ဆင်ဖြူရှင်ထံခစားရာ သားတော်စဉ့်ကူးမင်းထံတွင် ဝဏ္ဏဓမ္မကျော်ထင်ဘွဲ့နှင့် အကြီးတော်အရာ၌ထမ်းရွက်စေလေသည်။

စဉ့်ကူးမင်းသား အထွတ်အမြတ်ရောက်ရှိလျှင် မဟာဇေယျသူရဘွဲ့ဖြင့် မြောက်ဖက် ၉-သင်း မြင်းဝန် ယင်းတော်မြို့စား အတွင်းဝန်ခန့်တော်မူလေသည်။

အရွယ်ကြီးရင့်သောအခါ မင်းမျက်သင့်၍ ရဟန်းဝတ်လျက်နေရင်းရွာသို့ပြန်ရလေသည်။

ဝဏ္ဏဓမ္မကျော်ထင်ပြုစုသော စာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ ဝိနိစ္ဆယပကာသနီ ပါဠ်နိသျမိတ်လင်စုံ။
၂။ မနောသာရရွှေမျဉ်း ပါဠ်နိသျမိတ်လင်စုံ။
၃။ မနုဝဏ္ဏနာဓမ္မသတ် ပါဠ်နိသျမိတ်လင်စုံ။

* ပိဋကတ် တော်သမိုင်း၌ မိုးထားဝန်ထောက်စိန္တကျော်သူဟူ၍ဆိုသည်၊ အခြားပုဂ္ဂိုလ်တဦးလည်း ဖြစ်ဖွယ်ရှိသည်။

## ၂၃။ ဦးယာ

(၁၀ × × -၁၁၄၇)

*ဦးယာသည် ဘိုးတော်ဘုရားလက်ထက်တွင် ထင်ရှားသောစာဆိုတော်တဦးဖြစ်လေသည်။

ဦးယာသည် စဉ့်ကူးမင်းလက်ထက်တွင် စဉ့်ကူးမင်း၏မြောက်နန်းမိဖုရား မအူသူကြီး၏သမီးထံတွင် အကြီးတော်အရာဖြင့်ထမ်းရွက်ရ၍နေမျိုးမင်းလှကျော်သူဘွဲ့ကိုရရှိလေသည်။

ထိုနောက် ဘိုးတော်ဘုရား၏သားတော်ကြီးအိမ်ရှေ့မင်းထံတွင်ခစားရာ ကွမ်းရေတော်ကိုင်အဖြစ် ချီးမြှင့်ခြင်းခံရလေသည်၊ ဘိုးတော်ဘုရား၏ညီတော် ပင်းတလဲ မင်းသားထံတွင်လည်း ခစားရလေသေးသည်၊ ထိုနောက် ဘိုးတော်ဘုရားက မုတ္တမမြို့ဝန်ခန့်၍ချီးမြှောက်လေသည်။

ဦးယာသည် သကရာဇ် ၁၁၄၇-ခုနှစ်တွင် အနိစ္စရောက်လေသည်။

ဦးယာပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ †မင်းနန်ပျို့။
၂။ ရတုများ။
၃။ ဆယ့်နှစ်ရာသီဘွဲ့လူးတား။
၄။ ကုက္ကိုချောင်းဆင်တော်ဘွဲ့အဲ။
၅။ အခြားအဲချင်းများ။
၆။ သင်္ဂါယနာတင်အန်ချင်း။

---

## ၂၄။ ကျုံးဝန်ဘုမ္မဇေယျ

(၁၁၀၀-ခန့်)

ကျုံးဝန်ဘုမ္မဇေယျသည် ကုန်းဘောင်ခေတ်အလောင်းဘုရားလက်ထက်တွင်ထင်ရှားသောပညာရှိအမတ်ကြီးတဦးဖြစ်လေသည်၊အလောင်း

---

* ဦးရာဟုလည်းရေးကြသည်။

†ကဝိလက္ခဏာ နိဂုံးတွင် မင်းနန်ပျို့ကို ဒေဝသိရိကျော်ထင် ဆိုသည်ဟု ဖေါ်ပြသဖြင့် ဦးယာသည်ပင် ထိုဘွဲ့ကိုရသလော၊သို့မဟုတ် အခြားပုဂ္ဂိုလ်တဦးပင် ဆိုသလောဟု စဉ်းစားဖွယ်ရှိသည်၊ပိဋကတ်တော်သမိုင်းတွင်မင်းနန်ပျို့ကိုဦးယာ ဆိုသည်ဟု ဖေါ်ပြထားသည်၊ အမျိုးသမီးစာဆိုတော်များ အတ္ထုပ္ပတ္တိကျမ်းတွင်လည်း ဦးယာသည် မင်းနန်ပျို့ကိုရေးသားသည်ဟုဖေါ်ပြသည်။

မင်းတရားကြီးကကျုံးဝန်ခန့်၍ ထိုနောက်မဟာသီရိဥတ္တမဇေယျသကြန် ဘွဲ့ဖြင့်ချီးမြှင့်ခြင်းခံရလေသည်။

ကျုံးဝန်မင်းသည် ပါဠိဘာသာဖြင့်ရှိသော မနုကျယ်ဓမ္မသတ်ကျမ်းကိုမြန်မာဘာသာသို့ပြန်ဆိုခဲ့လေသည်။

## ၂၅။ အတွင်းဝန်ဦးညို
(+++-၁၁၄၃)

အတွင်းဝန်ဦးညိုမှာ ရွှေတောင်နန္ဒမိတ်၏ သားဖြစ်၍ ငယ်စဉ်က မောင်သာမောင်ဟု ခေါ်တွင်လေသည်၊ စဥ့်ကူးမင်း၏ အိမ်တော်ပါ အမှုထမ်းဖြစ်သည့် အလျောက် စဥ့်ကူးမင်းအထွတ်အမြတ်သို့ ရောက်သောအခါ အတွင်းဝန်အရာကို ပေးအပ်ခြင်းခံရသည်၊ ဘိုးတော်ဘုရား အထွတ်အမြတ်သို့ ရောက်တော်မူသော ၁၁၄၃-ခုနှစ်တွင် စဥ့်ကူးမင်း၏ ကျွန်ယုံဖြစ်သောကြောင့် ကွပ်မျက်ခြင်းခံရလေသည်။

ဦးညိုရေးသားခဲ့သော စာပေများတွင် အောက်ပါစာပေစုပါဝင်လေသည်။

၁။ ရွှေမင်းဘုန်းဆင်တော် မော်ကွန်း။

## ၂၆။ ဦးတိုး
(၁၁၁၃-၁၁၅၈)

ဦးတိုးမှာ ကုန်းဘောင်ခေတ်ဆင်ဖြူရှင်နှင့် စဥ့်ကူးမင်းလက်ထက်တို့တွင် ထင်ရှားသောစာဆိုတော်တဦးဖြစ်၍* စိုင်နှံသာရွာတွင် ၁၁၁၃-ခုနှစ်၌ ဖွားမြင်လေသည်။

ငယ်စဉ်က ရဟန်းပြု၍ စာပေသင်ကြားပြီးလျှင် လူထွက်၍ မင်းထံ၌ ခစားထမ်းရွက်ကာ ရတု၊ ကဗျာ၊ ချေင်းများဆက်သွင်းသည်၊ ဘိုးတော်ဘုရားလက်ထက်၌ အိမ်ရှေ့သံတော်ဆင့် အရာ၊ ရွှေတိုက်စိုးအရာတို့၌ ဇေယျကျော်သူဘွဲ့နှင့် ထမ်းရွက်ရလေသည်။

ဦးတိုးသည် ၁၁၅၈-ခုနှစ်တွင် ကွယ်လွန်လေသည်။

* ဝိဋ္ဌကတ်တော်သမိုင်း ၁၉၉-တွင် ရွှေဘိုမြို့ အနောက်ခရီးတတိုင် ကွာ ဆီးတောရွာဇာတိဟု ဖေါ်ပြသည်၊ ဝေါဟာရလီနတ္ထ ၇၅-၁၀၇။

ဦးတိုးပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ရာမရကန်။ ၂။ စစ်ကိုင်းမင်းချင်း။
၃။ ကျေးစေ့စစ်ချီ, စစ်အောင်ရတုများ။ ၄။ ရိုးတော်ယူချင်း။

## ၂၇။ သခ်ိါသာရ
(၁၁၁၇-၁၁၅၇)

သခ်ိါသာရမှာ ဆင်ဖြူရှင်မင်းတရားကြီးလက်ထက်တွင် အဝနေပြည်တော်၌ ထင်ရှားသော ပျို့စာဆိုတဦးဖြစ်လေသည်။

သခ်ိါသာရကို ၁၁၁၇-ခုနှစ် နယုန်လပြည့်ကျော် ၇-ရက် ကြာသပတေးနေ့တွင် မင်းခေါင်နော်ရထာ၏နှမ ရှင်မွတ်နှင့်မြို့စာရေးကြီး ဦးရွှေသီးတို့မှ ဖွားမြင်ရာ ငယ်မည်မှာ မောင်ပွားဟုတွင်လေသည်။

ငယ်ရွယ်စဉ်က အဝမြို့နန်းဦးကျောင်း ဆရာတော်ထံတွင် စာပေသင်ကြားတတ်မြောက်လေသည်၊ သာမဏေဝတ်စဉ် ၁၁၃၀-ပြည့်နှစ်တွင် သူရိယကုမ္မာပျို့ကိုရေးသား၍ ဆင်ဖြူရှင်မင်းတရားအား ဆက်သွင်းလေသည်၊ ၁၁၃၆-ခုနှစ်တွင် ဆင်ဖြူရှင်မင်းတရားကြီး အမိန့်တော်ဖြင့် ရှင်လူထွက်ပြီးနောက် သခ်ိါသာရဘွဲ့ဖြင့် မြို့စာရေးအဖြစ် ထမ်းရွက်ရလေသည်။

ဆင်ဖြူရှင်နတ်ရွာစံသော် စဉ့်ကူးမင်းထံတွင် ဆက်လက်ခစားသော်လည်း ချီးမြှောက်ခြင်းမခံရပေ၊ သခ်ိါသာရမှာ ဖေါင်းကားစားမောင်မောင်၏ ဆရာရင်းဖြစ်သဖြင့် ဖေါင်းကားစားအား အခါပေး၍ တော်လှန်စေရာ ဘိုးတော်ဘုရားက ထီးနန်း သိမ်းပိုက်လိုက်သဖြင့် ဖေါင်းကားစားမှာ ၇-ရက်မျှနှင့် နန်းသက်ကုန်လေသောကြောင့် ၁၁၄၃-ခုနှစ်တွင် စစ်ကိုင်းတောင်ဗိလာချောင်၌ ရသေ့ပြု၍ နေလေတော့သည်၊ သခ်ိါသာရသည် ၁၁၅၇-ခုနှစ်လောက်တွင် အနိစ္စရောက်လေရာ ပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ အာသက်ာပျို့။ ၂။ ဂရုဓမ္မပျို့။
၃။ သူရိယကုမ္မာပျို့။ ၄။ သီရိယာမပျို့။

## ၂၀။ ဒုတိယနဝဒေး (ဝက်မစွတ်)
(၁၁၁၇-၁၂၀၂)

ဝက်မစွတ်နဝဒေးခေါ် ဒုတိယနဝဒေးမှာ ကုန်းဘောင်ခေတ်တွင် ထင်ရှားသော စာဆိုတော်ကြီးဖြစ်လေသည်၊ သကရာဇ် ၁၁၁၇-ခု နှစ်တွင် စစ်ကိုင်းမြို့မြောက်ဖက် ရွာဝေးရွာသူကြီးရိုးမိဖတို့မှဖွားမြင် လေသည်၊ ငယ်မည်မှာ မောင်နုဖြစ်လေသည်။

အရွယ်သို့ရောက်လျှင် ဗလနန္ဒသူ့ဘွဲ့ဖြင့် သူကြီးရာထူးကို ရရှိ လေသည်၊ ထိုနောက် ဘိုးတော်မင်းတရား၏သားတော်ပုခန်းမင်းသား ထံတွင်ခစား၍ သကရာဇ် ၁၁၅၄-ခုနှစ်လောက်တွင် အချီတော် ကျော်ထင်ဇေယျသူ့ဘွဲ့ကိုရရှိပြီး တဖန်သံတော်ဆင့်ရာထူးကို ရရှိပြန် လေသည်၊ ထိုနောက် နဝဒေးဘွဲ့ဖြင့် ဝက်မစွတ်မြို့ကို စားရလေသည်၊ ထိုနောက် တွင်းသင်းတိုက်ဝန်မဟာစည်သူ ကွယ်လွန်သောအခါ နဝဒေးအား တွင်းသင်းတိုက်ဝန်ခန့်၍ ရှိရင်းမဟာသင်္ခယာစည်သူ ဘွဲ့တွင် မဟာသီရိစည်သူဟူသော ဘွဲ့ထပ်စေ၍ ရွာဝေးရွာကိုပါအပိုင် စားစေပြန်လေသည်။

နဝဒေးသည် စာဆိုရာ၌ ပြောင်မြောက်လှသဖြင့် သာယာဝတီ မင်းလက်ထက်မင်းကြီး *ဥတ္တမသီရိမဟာသင်္ခယာဘွဲ့နှင့် ပဒမြား ကျောက်စီတောင်ဓေး, တံခါးနီးအထိ ပေါင်းယာဉ်စီးခွင့်စသည်တို့ကို ထပ်မံချီးမြှင့်ပြန်လေသည်။

နဝဒေးသည်† ၁၂၀၂-ခု ပြာသိုလပြည့်ကျော် ၁၁-ရက်နေ့တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

နဝဒေးပြုစုခဲ့သော စာပေများအနက် အောက်ပါစာပေများပါဝင် လေသည်။

၁။ ရတုများ။ ၂။ ရဲတင်းမော်ကွန်း(၁၂၀၂)။
၃။ လောကဝိဒူမော်ကွန်း ၄။ ဗာဝရီမော်ကွန်း။
၅။ စန္ဒာမုခီမော်ကွန်း။ ၆။ ရခိုင်နိုင်မော်ကွန်း (၁၁၀၃)။

---

* ဗိဋကတ်တော်သမိုင်း ၁၉၉၀-၌မင်းကြီးမဟာသီရိဥတ္တမဇေယျသင်္ကြန်ဟု ဖေါ်ပြသည်။

† မြန်မာစာပေသမိုင်း၌ ၁၂၀၂-ခု ပြာသိုလဆန်း ၂-ရက်ဟုရှိသည် ကုန်းဘောင်ရာဇဝင် ဒုတိယအုပ်ပဋ္ဌမတွဲစာမျက်နှာ ၆၁၆-နှင့်မညီလေ။

၇။ မိတ္တိလာကန်တော် မော်ကွန်း(၁၁၅၈)။
၈။ တရုပ်သံရောက်မော်ကွန်း (၁၁၀၅)။
၉။ ထားဝယ်နိုင်မော်ကွန်း။
၁၀။ ဇလ္လုံဂူမော်ကွန်း။
၁၁။ မုနိရှစ်ဆူမော်ကွန်း။
၁၂။ မင်းကွန်းနန်းတော်ဘွဲ့ မော်ကွန်း။
၁၃။ ဝိလာသိနီမော်ကွန်း (၁၁၆၀)။
၁၄။ အာသံနိုင်မော်ကွန်း(၁၁၀၃)။
၁၅။ သာမုန္ဒြိကမော်ကွန်း။
၁၆။ ဘကြီးတော်နန်းဖွင့်မော်ကွန်း။
၁၇။ ဆင်ဖြူရှင်မယ်ဧချင်း (၁၁၅၄)။
၁၈။ မန်းစက်တော်ခေါင်းလောင်းစာ။
၁၉။ အင်းဝရွှေဘုံသာမုနိ ဘုရားကျောက်စာသမိုင်း။
၂၀။ အမရပုရမဟာဝိဇယရံသီ ကျောက်စာသမိုင်း။
၂၁။ စစ်ကိုင်းတင်းယိပ် လောကချမ်းသာဘုရား ကျောက်စာသမိုင်း။
၂၂။ မဟာဗောဓိကျောက်စာသမိုင်း။
၂၃။ အင်းဝမြို့မဟာအောင်မြေ ဘုံသာကျောင်းကျောက်စာ။
၂၄။ အိမ်တော်သိမ်းရတု။
၂၅။ မင်းကွန်းနန်းတော်ဘွဲ့ ရတု။
၂၆။ ရွှေဂူမင်းသမီးလက်ထပ်ရတု။
၂၇။ ကြက်ထောင့်ဘွဲ့ရတု။

---

## ၂၉။ ရွှေတောင်နန္ဒသူ
(၁၁၂၀ခန့်)

ရွှေတောင်နန္ဒသူမှာ ဆင်ဖြူရှင်လက်ထက်တွင်ထင်ရှားသော စာဆိုတော်တဦးဖြစ်လေသည်၊ ယော်မည်မှာ *မောင်လှဖြစ်၍ ဆင်ဖြူရှင်လက်ထက်တွင် အင်းဝမြို့သို့ရောက်ရှိပြီး ရွှေနေအဖြစ် အသက်မွေးလေသည်၊ အင်းဝတွင် စလင်းနဝဒေးဟူသော ဘွဲ့ကိုလည်း ရရှိလေသည်။

---

* ဝိဋ္ဋကတ်တော်သမိုင်းတွင် စလင်းမြို့တောင် လက်မဲရွာဖွားဝန်ထောက် ရွှေတောင်နန္ဒသူ ယော်မည်မောင်တရုပ်ဟု ဖေါ်ပြလေသည်။

စဥ့်ကူးမင်းလက်ထက်တိုင် ဝန်ထောက်ခန့်ထားခြင်း ခံရလေသည်။

ရွှေတောင်နန္ဒသူ ရေးသားခဲ့သော စာပေများတွင် အောက်ပါ စာပေများပါဝင်လေသည်။

၁။ မွေ့နွှန်းရကန်။ ၂။ ငွေတောင်ရကန်။
၃။ အဝမြို့ဘွဲ့ရကန်။ ၄။ အခြားရကန်များ။
၅။ *မဟာသုတသောမပျို့။

## ၃၀။ ဦးအောင်ဖြိုး
(၁၁၂၀-ခန့်)

ဦးအောင်ဖြိုးကား သာချင်းများရေးသားခြင်းဖြင့် ထင်ရှားသော ကုန်းဘောင်ခေတ်စာဆိုတော်တဦး ဖြစ်လေသည်။

ဘိုးတော်ဘုရားလက်ထက်တွင် သာချင်းများကို ရေးသားလေ သည်၊ ဖွားသက္ကရာဇ်ကိုမသိရသော်လည်းဦးအောင်ဖြိုးသည် ပုဂံဇာတိ ဖြစ်သည်။

ဦးအောင်ဖြိုး ရေးသားခဲ့သော သာချင်းများတွင် အောက်ပါ သာချင်းများပါဝင်လေသည်။

၁။ ရာဇဝင်သာချင်း။ ၂။ ရာမသာချင်း။
၃။ ကျန်စစ်သားကြို့တ်ဖွင့်ခန်း သာချင်း။ ၄။ တရုပ်ပြည်စွယ်တော် တောင်းခန်းသာချင်း။
၅။ ဗောဓိပင်ကိုမာရ်နတ်သား လုခန်းသာချင်း။ ၆။ မင်းဆက်သာချင်း။
၇။ နှစ်ကျိပ်ရှစ်ဆူသာချင်း။ ၈။ ငှက်ကြီးသာချင်း။
၉။ ဇနကရကန်။ ၁၀။ ဟန်လင်းမြို့သမိုင်းပျို့။

## ၃၁။ ဦးပေါ်ဦး
(၁၁၂၁-၁၂၀၅)

ဦးပေါ်ဦးသည် ဉာဏ်ပညာနှင့်ပြည့်စုံသော ပညာရှိအမတ်ကြီးတဦး ဖြစ်၍ ဘိုးတော်ဘုရား လက်ထက်မှစ၍ ကုန်းဘောင်မင်း လက်ထက် အထိ မင်းသုံးဆက်တိုင် အမှုထမ်းရွက် ခဲ့လေသည်၊ ဦးပေါ်ဦးကို

---

* ဦးရွှန်းလည်းထိုပျို့ကိုရေးသည်။

၁၁၂၁-ခုနှစ် တပေါင်းလပြည့်ကျော် ၂-ရက်တနင်္ဂနွေနေ့တွင်ဖွားမြင်လေသည်၊ ဦးပေါ်ဦးသည် ဒုတိယနဝဒေး, လှူဦးမင်း, ဘိုးသူတော်ဦးမင်းစသည်တို့နှင့် ခေတ်ပြိုင်ဖြစ်လေသည်။

စာပေကျမ်းဂန်တတ်မြောက်၍ တန်ဆာပွတ္တိဉာဏ်ထက်သန်လှသဖြင့် ဘိုးတော်ဘုရားထံတွင်ဝင်ရောက်ခစားရာ ၁၁၄၄-ခုနှစ်တွင် မဟာဇေယျသူရသင်္ခယာဘွဲ့နှင့် နာခံတော်ကြီးအဖြစ်ဖြင့် ခန့်ထားခြင်း ခံရလေသည်၊ ၁၁၄၅-ခုနှစ်တွင် ဝန်ကြီးအရာအထိ တိုးမြှင့်ခြင်းခံရပြီး သီရိမဟာ နန္ဒသင်္ကြန်ဘွဲ့ဖြင့် ယောမြို့ ဆောမြို့တို့ကိုစားရလေသည်၊ ဘကြီးတော်မင်းလက်ထက်တွင် သတိုးမင်းကြီး မဟာမင်းလှနော်ရထာဘွဲ့နှင့် အဂ္ဂမဟာ သေနာပတိဗိုလ်မှူး ဝန်ကြီးအဖြစ် ချီးမြှင့်ခြင်းခံရလေသည်၊ ကုန်းဘောင် (သာယာဝတီ)မင်းလက်ထက်တွင် ထိုဘွဲ့နှင့်ပင် ဝန်ကြီးချုပ်ခန့်အပ်တော်မူခြင်း ခံရပြန်လေသည်။

ဦးပေါ်ဦးသည် လောကီလောကုတ်ဆိုင်ရာ ဗဟုသုတများကိုအပါးတော်၌ ဖြေကြား လျှောက်လဲရပေရာ ထိုလျှောက်လဲချက် များကို ဘိုးတော်ဘုရားနှင့် ဘကြီးတော်မင်းလက်ထက်တွင် သံတော်ဆင့်ကြီးမင်းလှသီရိသင်္ခယာကရင်း၊ ကုန်းဘောင်မင်းလက်ထက်တွင် အခြားအတွင်းတော် သံတော်ဆင့်ကြီးများကရင်း ရေးမှတ်ထားခဲ့လေသည်၊ယင်းမှတ်တမ်းများကို ကဝိသေတ္တုမဉ္ဇူသာကျမ်းအမည်ဖြင့် ကျမ်းတစောင်တဖွဲ့ပြုခဲ့ကြလေသည်။

ဦးပေါ်ဦးသည် * ၁၂၀၅-ခုနှစ်တပို့တွဲလဆန်း ၈-ရက်အင်္ဂါနေ့၌ကွယ်လွန်အနိစ္စရောက်လေသည်။

ဦးပေါ်ဦး ရေးသားခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ဘုန်းတော်ဘွဲ့ရတုများ။
၂။ ဆယ့်နှစ်ရာသီဘွဲ့တေးထပ်များ။
၃။ အဖြည့်ခံရတု။
၄။ မဟာသကျသီဟ ရုပ်ပွါးတော် သမိုင်းရတု။
၅။ ရွှေနားတော်သွင်းရတုများ။
၆။ ဦးပေါ်ဦးတရားစာ။

* ၁၂၀၀-ပြည့်နှစ်-ဟုမှက်ပွဲ မှတ်သားကြသေးသည်။

# ၇၂။ မြဝတီမင်းကြီးဦးစ

(၁၁၂၈-၁၂၁၅)

မြဝတီဦးစသည် စစ်ဖက်စာပေဖက်နှင့် ဂီတဖက်တို့တွင်ပါ ထင်ရှားသောစာဆိုတော်တဦးဖြစ်လေသည်၊ ၁၁၂၈-ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၁၁-ရက် အင်္ဂါနေ့တွင် စစ်ကိုင်းမြို့အနောက် မိကျောင်းတက်ချောင်းရွာ ဦးပေါက်ကျော်-ဒေါ်ငြိမ်းသာတို့မှဖွားမြင်လေသည်။

ငယ်စဉ်က အင်းဝမြို့မဲထီးဆရာတော် ဦးပရမထံတွင် သာမဏေဝတ်ဖြင့် စာပေသင်ကြားပြီး လူဝတ်လဲ၍ မိခင်နှင့်အတူနေရာမှစစ်ကိုင်းမြို့ ပန်းထိမ်ဝန်ဦးညွန့်၏သမီး မအေးနှင့်ထိမ်းမြားလေသည်၊ အသက် ၁၉-နှစ်အရွယ်တွင် ဇနီးကွယ်လွန်ပြီးနောက် အမရပုရမြို့ အိမ်ရှေ့သံတော်ဆင့် လက်ျာပုံချီထံတွင် အကူအညီအဖြစ်ခစားလေသည်။

ထိုနောက် အိမ်ရှေ့အတွင်းဝန်၏ လျှောက်ထားချက်အရ အိမ်ရှေ့မင်းသားထံတွင်ခစားရလေသည်၊ အိမ်ရှေ့မင်းထံတွင် ဇာတ်ချင်းများနှင့်တကွ ပြဇာတ်များရေးသားရာမှ အရည်အချင်းအလျောက် ဘဏ္ဍာစာရေးခန့်ထားလေသည်၊ ၁၁၇၁-ခုနှစ်တွင် အိမ်ရှေ့မင်းသား နတ်ရွာစံသော် အိမ်ရှေ့မင်းသစ် စစ်ကိုင်းမင်းသားထံတွင် ပြောင်းရွှေ့ခစားလေသည်၊ စစ်ကိုင်းမင်းသားဘကြီးတော်အဖြစ် နန်းတက်သောအခါလည်းခစားလျက်ပင်ရှိသည်။

သကရာဇ် ၁၁၇၅-ခုနှစ် ဘိုးတော်ဘုရားလက်ထက်တွင် မဏိပူရသို့ ချီတက်နှိမ်နင်းရာတွင် အောင်မြင်သဖြင့် နေမျိုးဇေယျသူရဘွဲ့ကိုရရှိခဲ့လေသည်၊ ဘကြီးတော်လက်ထက်တွင် မဟာသီရိ ဇေယျဘွဲ့နှင့် အတွင်းဝန်အဖြစ် ချီးမြှင့်ခြင်းခံရပြန်လေသည်၊ ၁၁၈၅-ခုနှစ်တွင် ရှင်မဖြူကျွန်းအရေး၌ မင်းကြီးမဟာသီရိသီဟသူဘွဲ့ဖြင့် ချီးမြှင့်၍ မဟာဗန္ဓုလနှင့် တွဲဖက်တိုက်ခိုက်စေရာ အောင်မြင်လေသည်၊ ဦးစသည် ပျို့ကဗျာများနှင့် သီချင်းဂီတကိုပါ တတ်မြောက်၍ ဂီတသစ်များကိုလည်း တီထွင်နိုင်ခဲ့လေသည်။

သာယာဝတီမင်းလက်ထက်တွင် အထင်လွဲမှား၍ အကျဉ်းချထားခံရရာ ၁၂၀၁-ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၃-ရက်နေ့တွင် သမီးတော်၏လျှောက်ထားချက်နှင့် တင်ဆက်သော ကုန်းဘောင်ပရ

မေအစရီဘုန်းတော်ဘွဲ့သီချင်း၏ စွမ်းရည်ကြောင့်အကျဉ်းမှလွတ်၍မြင်း တင်အခွန်ကိုစားလေသည်။

ဦးစသည် မြဝတီမြို့ကိုလည်းစားရသဖြင့် မြဝတီမင်းကြီးဦးစ ဟု တွင်လေသည်၊ ၁၂၁၅-ခုနှစ် ဝါခေါင်လဆန်း ၁-ရက်နေ့တွင် ကွယ် လွန်လေသည်၊ မြဝတီမင်းကြီးဦးစပြုစုခဲ့သောစာပေများတွင် အောက် ပါစာပေများပါဝင်လေသည်။

၁။ အိနောင်ဇာတ်။
၂။ သမုဒ္ဒဃောသဇာတ်။
၃။ ၃၇-မင်းမှတ်တမ်း။
၄။ ယိုးဒယားသီချင်း, ပတ်ပျိုး, ဘွဲ့,သီချင်းခံကြီးများ။
၅။ အခြားဂီတသီချင်းများ။
၆။ ဂိုဏ်း၈-ပါး, ရွှေနည်း လေးချိုး။

---

## ၃၃။ မဟာဇေယျသူရ

(၁၁၂+-၁၁၈၄)

ကသည်းမင်းကြီးဟုတွင်သော မဟာဇေယျသူမှာ မှတ်ဉာဏ်ဗဟုသု တများပြားသောဂီတပညာရှင်တယောက်ဖြစ်လေသည်။

နောင်တော်ကြီးမင်းလက်ထက်တွင် ဟလင်းကြီးရွာ ဦးနေထွန်း- ဒေါ်မိန်းမတို့မှဖွားမြင်ရာ ငယ်မည်မှာမောင်စာနီဖြစ်လေသည်။

ငယ်စဉ်ကပင် သာမဏေဝတ်ရာ ရှင်ဇာနေယျ ဘွဲ့ခံလေသည်၊ ထို နောက် ရှင်ဇာနေယျမှာ အိမ်ရှေ့မင်း၏ဆရာဖြစ်လာ၍ အတီးအမှုတ် ဂီတပညာလည်း တတ်မြောက်သဖြင့် လူထွက်စေပြီး အပါးတော်၌ ခစားစေလေသည်။

သကရာဇ် ၁၁၆၇-ခုနှစ်တွင် ဘိုးတော်ဘုရား၏သားတော် အိမ်ရှေ့ မင်းထံတွင်ခစားခိုက် ကသည်းပြည် စစ်ရေးနှင့်ပတ်သက်၍ ဆောင် ရွက်ရန် အတွင်းအရာရှိအဖြစ် ခန့်ထားခြင်းခံရပြီး မဟာဇေယျသူရ ဘွဲ့ရရှိလေရာ နောင်တွင်ကသည်းမင်းကြီးဟုတွင်လေသည်။

သကရာဇ်၁၁၇၉-ခုနှစ် ကသည်းအရေးတွင် ပါဝင် တိုက်ခိုက် အောင်မြင်လေသည်၊ ထိုနောက် ၁၁၈၄-ခုနှစ်တွင်ကွယ်လွန်ရာ ပြုစုခဲ့ သောစာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ ၃၇-မင်းနတ်ချင်းများ။

---

# ၇၄။ ပြင်စည်မင်းသား

(+-၁၂၂၄)

ပြင်စည်မင်းသားသည် မြဝတီဦးစနှင့် တခေတ်တည်းပေါ်ထွန်း၍ ဂီတသီချင်းများရေးသားခြင်းဖြင့် ထင်ရှားလေသည်။

ပြင်စည်မင်းသားမှာ ဘိုးတော်မင်းတရားကြီး၏ မြစ်တော်ဖြစ်လေသည်၊ သူ၏ ခမည်းတော်မှာ တောင်ငူမင်းသားဖြစ်၍ တောင်ငူမင်း၏ ခမည်းတော်မှာ ဘိုးတော်မင်းတရား၏ မြောက်နန်းမိဖုရားသီရိမဟာစန္ဒာဘိရတနာဒေဝီမှ ဖွားမြင်သော သားတော်ဖြစ်၍ တောင်ငူမင်း၏ မယ်တော်မှာ ဘိုးတော်မင်းတရား၏ မိဖုရားခေါင်ကြီးသီရိပဝရမဟာရာဇိန္ဒာမင်္ဂလာရတနာဒေဝီမှ ဖွားမြင်သော သမီးတော်လတ် ဖြစ်လေသည်၊ ထို့ကြောင့် ပြင်စည်မင်းသားသည် ဘကြီးတော် စစ်ကိုင်းမင်း ကုန်းဘောင်မင်းတို့၏ဘူတော်ဖြစ်၍ မင်းတုန်းမင်းနှင့် ညီတော် နောင်တော်ဝမ်းကွဲတော်စပ်လေသည်။

ပြင်စည်မင်းသားသည် မဟာသီရိဓမ္မရာဇာဘွဲ့နှင့် သာယာဝတီမင်းလက်ထက်တွင် မြင်ကွန်းမြို့ကိုစားရသောကြောင့် ထိုအခါက ရေးသားသော သီချင်း ကဗျာများကို မြင်ကွန်းမင်းသားရေးဟူ၍ စာခေါင်းတပ်ပြီးလျှင် နောင်မင်းတုန်းမင်းလက်ထက် သုသီရိမဟာဓမ္မရာဇာဘွဲ့နှင့် ပြင်စည်မြို့ကိုစားရသောအခါ ရေးသည့်သီချင်းကဗျာများကိုပြင်စည်မင်းသားရတု စာခေါင်းတပ်လေသည်၊ မင်းသားသည် တူရိယာတီးမှုတ်မှုကိုလည်းတတ်မြောက်လေသည်။

ပြင်စည်မင်းသား၏ ဖွားသက္ကရာဇ်ကိုမသိရသော်လည်း ၁၂၂၄-ခုတော်သလင်းလတွင် ကံတော်ကုန်ကြောင်း ကုန်းဘောင် ရာဇဝင်၌ မှတ်သားလျက်ရှိသည်။

[**မှတ်ချက်။** ဆင်ဖြူရှင်၏ကိုယ်လုပ်တော်သံလျင်မြို့စားသီရိဝတီဘွဲ့ခံရှင်မင်းမှ ဖွါးမြင်သော သားတော်မောင်နဂါးမှာ စာဆိုမဟုတ်သော အခြားပြင်စည် မင်းသားဖြစ်၍ ခွဲခြား၍သိမှတ်သင့်သည်။]

## ၃၅။ ဦးရောက်ကြီး

(၁၁၃၆-၁၁၉၇)

ဦးရောက်ကြီးမှာ မြင်းဝန်မဟာသီဟသူရဘွဲ့ဖြင့် ထင်ရှားသော ကုန်းဘောင်ခေတ် စာဆိုတော်ကြီးတဦး ဖြစ်လေသည်၊ သကရာဇ် ၁၁၃၆-ခုနှစ်တွင် မုတ္တမမင်းကြီး အစ်ကို မောင်ရနှင့်မယ်နုတို့မှ ဖွားမြင်သည်၊ မိခင်မယ်နုမှာ နောင်တော်ကြီးမင်း၏ယောက်ဖ (ဖေါင်းကား စားမောင်မောင်၏မရီး) မင်းရဲဘွဲ့ခံ မောင်ဝနှင့် ဟန်လင်းမြို့စား ကျောင်းဒကာသမီး ရှင်ရောင်တို့၏သမီးဖြစ်လေသည်။

ဦးရောက်ကြီး၏ငယ်မည်မှာ မောင်ရေးဖြစ်ခဲ့လေသည်၊အရွယ်ရောက်လျှင် စဉ့်ကူးမင်းထံတွင် ကွမ်းရေတော်အရာနှင့် ထမ်းရွက်၍ စဉ့်ကူးမင်းမရှိသော် ဘိုးတော်မင်းတရားထံတွင် ကွမ်းရေတော် အရာနှင့် ထမ်းရွက်ပြန်၍ စည်သူသီရိရွှေတောင်ဘွဲ့, နေမျိုးဇေယျသူဘွဲ့များကိုရရှိလေသည်၊ ထိုနောက်မြို့ဝန်,ဆင်ဝန်, မြောက်ဖက်တိုက်ဝန်, ယွန်းစုဝန် အရာများကိုရရှိ၍ ဘကြီးတော်လက်ထက်တွင် မဟာသီဟသူရဘွဲ့နှင့် မြို့ဝန်ခန့်ခြင်းခံရလေသည်၊ ထိုနောက် မြင်းစုဝန်အရာရ၍ မြင်းစုဝန်ဟု ထင်ရှားလေသည်။

ဝန်ကြီးသည် ပျို့,ကဗျာ,လင်္ကာ,ရတုချောင်းများကို ရေးသား ပြုစုခဲ့၍ ၁၁၉၇-ခုနှစ် အသက် ၆၁-နှစ်တွင် အနိစ္စရောက်လေသည်။

ဝန်ကြီးပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်ခဲ့လေသည်။

၁။ ပြည်တော်ဝင်ပျို့။ ၂။ စန္ဒကိန္နရီပျို့။
၃။ ဗွာသိဿိဂ်ပျို့။ ၄။ ဥဒေါင်းမင်းပျို့။
၅။ နှမတော်ပုဂံမင်းသမီးချောင်း။ ၆။ ရတနာပူရမြို့မော်ကွန်း။
၇။ အမရပူရမြို့မော်ကွန်း။ ၈။ ရတုများ။

---

## ၃၆။ ဖိုးသူတော်ဦးမင်း

(၁၁၃၉-ခန့်)

ဖိုးသူတော်ဦးမင်းသည် ပင်းတလဲမြို့နယ် ရေဝေရွာ ဇာတိဖြစ်လေသည်၊ ကုန်းဘောင်ခေတ် သာယာဝတီမင်း လက်ထက်တွင်

ဦးပေါ်ဦး၊ လူဦးမင်း၊ ဝက်မစွတ်နဝဒေးတို့နှင့် အပြိုင်စာဆိုဖက်ဖြစ်လေသည်၊ လူဦးမင်းနှင့် အမည်တူနေခြင်းကြောင့် ဖိုးသူတော်ဝတ်၍ နေရသည်ဟု အဆိုရှိလေသည်၊ ဘွဲ့မှာရှင်ဇာနေ္ဒာဘာသဓဇဖြစ်လေသည်။

ဦးမင်းသည် စာဆိုပြောင်မြောက်လှသဖြင့် စာမှန်းကြီးရွာကိုအသုံးကံကျွေးပေး၍ ချီးမြှင့်ခြင်းခံရလေသည်၊ ဆယ့်နှစ်ရာသီဘွဲ့ လွမ်းချင်းများကိုစတင်ရေးသားသူဖြစ်လေသည်။

ဦးမင်းရေးသားခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

၁။ ဆယ့်နှစ်ရာသီလေးဆစ်သဖြန့်များ။ ၂။ ဆယ့်နှစ် ရာသီလွမ်းချင်းများ။
၃။ ရာသီဘွဲ့ လေးချိုကြီးများ။ ၄။ တိုးချင်းများ။

---

## ၃၇။ မနော်ဒေဝ

(၁၁၄၀–၁၂၀၅)

မနော်ဒေဝမှာ ဘိုးတော်ဘုရားလက်တွင် ထင်ရှားသောစာဆိုတဦးဖြစ်လေသည်၊ သကရာဇ် ၁၁၄၀-ပြည့်နှစ် ပြာသိုလပြည့်နေ့တွင်မြင်စိုင်းရွာသူကြီး ဦးသာဂရနှင့်ဒေါ်လုံမတို့မှဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်ဒေဝဖြစ်လေသည်။

ငယ်စဉ် ၁၃-နှစ်ရွယ်ကပင်သာမဏေပြု၍ ရှင်ဒေဝဟုဘွဲ့ခံလေသည်၊ ရှင်ဒေဝမှာငယ်ရွယ်စဉ်ကပင်တရားအဆုံးအဖြတ်ထူးချွန်၍တရားသူကြီးများကပင် အံ့သြကြရလေသည်၊ ဘိုးတော်မင်းတရားကြီးကြားသိလေလျှင်လူဝတ်လဲစေ၍ အမှုတော်ထမ်းရွက်စေ ရာ၁၁၅၅-ခုနှစ်တွင် လွှတ်တော်၌တရားစစ်ဆေးရ၍ တရားစစ်မနော်ဒေဝဟူ၍တွင်လေသည်။

မနော်ဒေဝသည် ဂုတ္တိလပျို့ကို ရေးသားဆက်သွင်းရာ ဘိုးတော်ဘုရားကနှစ်သက်တော်မူ၍ အဆောင်အယောင်နှင့်ပန်းဆွဲရွာကိုအပိုင်စားချီးမြှင့်လေသည်။

ထိုနောက် တရားစစ်အဖြစ်မှ တရားသူကြီးတကျိပ်နှစ်ဦးအပါအဝင် ဖြစ်လာလေသည်။

မနော်ဒေဝသည် ၁၂၀၅-ခုနှစ်တွင်ကွယ်လွန်ရာ ရေးသားခဲ့သောစာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ ဂုတ္တိလပျို။ ၂။ နာရဒပျို့။

## ၃၈။ ဦးရွန်း

(၁၁၄၄-၁၂၁၂)

ဦးရွန်းမှာ ဘကြီးတော်မင်းလက်ထက်တွင် ထင်ရှားသောစာဆိုတော်တဦးဖြစ်၍ ၁၁၄၄-နှစ်တွင် ရတနာပုရအင်းဝမြို့အရှေ့မြောက်ဖက်၌ဖွားမြင်သော ရွှေမုဋ္ဌောဒါယကာ အမိန့်တော်ရဦးသူရ-ဒေါ်နု၏သားဖြစ်လေသည်။

ငယ်စဉ်က ဗေဒင်ကျမ်းများကိုလေ့လာ၍ ဘကြီးတော်မင်းအထွတ်အမြတ်မရောက်မီ စန္ဒကျော်ခေါင်ဘွဲ့နှင့် ထမ်းရွက်လေသည်၊ ဘကြီးတော်နန်းတက်လျှင် ဆီမီးခုံရွာ,သာထွန်းရွာ,ငနန်ရွာ,မြစ်ကိုင်းရွာများကိုစားရ၍ မဟာမင်းလှမင်းခေါင်ဘွဲ့ကိုရသည်။

ဦးရွန်းသည် စစ်ရေးစစ်ရာကိုကောင်းစွာကျွမ်းကျင်သဖြင့် ပုဂံမြို့ကို အစည်းအကြပ်ဗိုလ်ဝန်ခန့်ထားခြင်းခံရသည်၊ ရွှေဘိုမင်း, ပုဂံမင်းများလက်ထက်တွင် အမှုထမ်းရွက်၍ စာပေရေးသားပြုစုခဲ့လေသည်။

ဦးရွန်းပြုစုခဲ့သော စာပေများတွင် အောက်ပါတို့ပါဝင်လေသည်။

| | |
|---|---|
| ၁။ တောင်ငူဆိုရတုအဖြေ။ | ၂။ ဘကြီးတော်၏သားတော်နားတော်သွင်း။ |
| ၃။ ငှင်းသမီးတော်ချောင်း။ | ၄။ မဟာသုတသောမပျို။ |
| ၅။ မဟော်ဥမင်ခန်းပျို့။ | ၆။ မဟော်ပြဿနာခန်းပျို။ (၁၂၀၂) |
| ၇။ သရဘင်ပျို့။ | ၈။ ဂါမဏိစန္ဒပျို့။ |
| ၉။ မဟာဇနကပျို။ | ၁၀။ ဥမ္မာဒန္တီပျို့။ |
| ၁၁။ တဖက်ပြသတ်ပုံ။ | ၁၂။ ဓမ္မဇေပျို့(၁၂၁၁)။ |
| ၁၃။ အာယုဒီဃ(ဆေးကျမ်း)ပျို့။ | ၁၄။ လက်ာနှင့်ရတုများ။ |
| ၁၅။ *ဥတေနပျို့။ | |

* ဥတိန္နဟုအရေးအသားကွဲသည်၊ပါဠိမမှန်ချေ။

## ၃၉။ ပုခန်းမင်းသား

(၁၁၄၅-၁၁၇၂)

ပုခန်းမင်းသားမှာ သီချင်းကဗျာ အရေးအသား, အတီးအဆို ကျွမ်းကျင်သောပုဂ္ဂိုလ်တဦးဖြစ်လေသည်။

ပုခန်းမင်းသားမှာ ဘိုးတော်မင်းတရားကြီးအထွတ်အမြတ်သို့ရောက်ပြီးနောက် ရွှေရေးဆောင်မိဖုရား သီရိမဟာ သုမင်္ဂလာဒေဝီ ရှင်ဝက် (ယင်းတိုက်ရွာလှိုင်းတက်၊အမြင့်နှင့်ကာမမြို့စား)မှ ဖွားမြင်သောသားကြီးတပါးဖြစ်၍ငယ်မည်မှာမောင်ဘဲကြီးဟုတွင်လေသည်၊၁၁၄၅-ခုနှစ်တွင်ဖွားမြင်လေသည်။

ပုခန်းမင်းသားအား ခမည်းတော်ကမင်းရဲကျော်ခေါင်ဘွဲ့ဖြင့်ချီးမြှင့်၍မြန်အောင်မြို့စားအဖြစ်ခန့်အပ်၍ ၁၁၅၁-ခုနှစ်တွင်မဟာဓမ္မရာဇာဘွဲ့ကိုထပ်မံချီးမြှင့်ပြန်လေသည်၊ ပုခန်းမြို့ကို ၁၁၅၅-ခုနှစ်တွင်မြန်အောင်မြို့နှင့်လဲ၍စားရလေသည်၊ပုခန်းမင်းသားသည်ခမည်းတော်မျက်တော်မူ၍မြစ်ညာသစ်တောသို့အပို့ခံရရာ အောင်မြေသာစံ အစချီပတ်ပျိုးကြီးကိုရေးသားဆက်သွင်းသဖြင့်နေပြည်တော်သို့ပြန်ခွင့်ရလေသည်။

ပုခန်းမင်းသားသည် ၁၁၇၂-ခုနှစ်တွင် အနိစ္စရောက်ရာရေးသားခဲ့သောကဗျာများတွင်အောက်ပါသီချင်းကဗျာများပါဝင်လေသည်။

၁။ အောင်မြေသာစံချီ စသောပတ်ပျိုးကြီးများ။

---

## ၄၀။ လှူဦးမင်း

(၁၁၄၆-၁၂၀၉)

*လှူဦးမင်းမှာ ကုန်းဘောင်ခေတ် သာယာဝတီမင်းလက်ထက်ထင်ရှားသော စာဆိုတော်တဦးဖြစ်လေသည်။

ဖိုးသူတော် ဦးမင်းနှင့်ကွဲပြားစေရန် လှူဦးမင်းဟု ခေါ်တွင်လေသည်၊ ဦးမင်းသည် ၁၁၄၆-ခုနှစ်တွင် ရွှေတောင်မြို့စီရင်စု နွားမရန်ရွာတွင် ဖွားမြင်လေသည်၊ ငယ်စဉ်က သာမဏေပြုကာ ကဗျာလင်္ကာလေ့လာလေသည်၊ ထိုနောက်လူထွက်၍ ဘိုးတော်မင်းတရားထံတွင်ခိုလှုံရာ သားတော်ပုသိမ်မင်းထံ၌ စာဆိုအရာဖြင့် ထမ်းရွက်စေသည်။

*ဦးမင်း (အခြားတယောက်)၏ အတ္ထုပ္ပတ္တိကိုရှေ့တွင်ရှုလေဦး။

၁၀၇၅-ခုနှစ်တွင် ပုသိမ်မြို့ ဟိုင်းကြီးကျွန်း ဆားခွန်ကို စားရလေသည်၊ ဘိုးတော်ဘုရားလက်ထက်တွင် စိန္တကျော်ထင်ဘွဲ့နှင့် ကန်ပြင်ရွာကိုစားရလေသည်၊ ဘကြီးတော်လက်ထက်တွင် နေအိမ်ဆုလာဘ်များရရှိလေသည်။

သာယာဝတီမင်းလက်ထက်တွင် ဘုန်းတော်ဘွဲ့များ ဆက်သရာ အကြိမ်ကြိမ်ဆုလာဘ်များရရှိ၍ မင်းထင်သက်ရှည် ဘွဲ့နှင့် ရွှေနန်းရိုးလမိုင်း လယ်တော်ပယ် ၅၀-ထွက်သင့် စပါး ၁၀၀၀-ကိုသနားခြင်းခံရသည်၊ ဦးမင်းသည် ဖိုးသူတော်ဦးမင်း ဝက်မစွတ် နဝဒေးတို့နှင့် စာဆိုဖက် ဖြစ်လေသည်။

ပုဂံမင်းလက်ထက် သကရာဇ် ၁၂၀၉-ခုနှစ်၌ ကွယ်လွန်ရှာလေသည်၊ ဦးမင်းရေးသားခဲ့သော စာပေများတွင် အောက်ပါစာပေများပါဝင် လေသည်။

၁။ ဆယ့်နှစ်ရာသီဘွဲ့လေးချိုးကြီးများ။ ၂။ ဘုန်းတော်ဘွဲ့လေးချိုးကြီးများ။
၃။ မယ်ဘွဲ့လေးချိုးကြီးများ။ ၄။ သဖြန်များ။
၅။ ရတုများ။

---

## ၄၁။ ဦးကြင်ဥ
(၁၁၅၀)

ဦးကြင်ဥသည် ပြဇာတ်များဖြင့် နာမည်ထင်ရှားသော စာဆိုတော်တဦးဖြစ်၍ ဘကြီးတော်ဘုရားလက်ထက်တွင်ထင်ရှားလေသည်၊ ဇာတိကား မြေထဲစီရင်စု ဆင်ပေါင်ဝဲရွာဖြစ်လေသည်။

ငယ်စဉ်ကပင်ကဗျာလင်္ကာများကို လေ့လာသင်ကြားခဲ့၍ ပြဇာတ်များကို ရေးသားလေသည်၊ ၎င်း၏ခေတ်မတိုင်မီက ပေါ်ပေါက်သော နန်းတွင်းဇာတ်တော်နှင့် တမူကွဲသည့်ပြဇာတ်များကို ဇာတ်တော်များအားမှီး၍ဖြစ်စေ, ကိုယ်ပိုင်ဉာဏ်ဖြင့်ဖြစ်စေ ရေးသားခဲ့လေသည်။

ဦးကြင်ဥသည် အသက်အရွယ်ကြီးရင့်သောအခါ အောက်မြန်မာနိုင်ငံသို့လှည့်လည်၍ ဒေသန္တရဗဟုသုတရှာမှီးရာ ပုသိမ်မြို့သို့လည်း ရောက်ရှိလေသည်။

ဦးကြင်ဥရေးသားပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ မဟောသဓာပြဇာတ်။
၂။ ဝေဿန္တရာပြဇာတ်။
၃။ ဒေဝကုမ္ဘန်ပြဇာတ်။
၄။ ပါပဟိန်ပြဇာတ်။
၅။ ကာလကဏ္ဏိပြဇာတ်။
၆။ ဝဏ္ဏပြဇာတ်။
၇။ ရတုများ။
၈။ သီချင်းဆန်းများ။
၉။ ညည်းချင်းများ။
၁၀။ မှုဆိုးစကားနှင့် ဆိုင်းဆင့်များ။

---

## ၄၂။ ဦးရွှေခြည်

(၁၁၅၀ ခန့်)

ဦးရွှေခြည်မှာ တံဆိပ်ဝန်ဟုအမည်ထင်ရှားသော စာဆိုတော်တဦးဖြစ်လေသည်၊ ဘခင်မှာ ဘိုးတော်ဘုရားလက်ထက် သီရိရာဇသူဘွဲ့နှင့် မဲဇလီရွာကို စားရသော ဦးမောင်ဖြစ်လေသည်၊ ၁၁၇၈-ခုနှစ်တွင် ဘခင်ကွယ်လွန်သဖြင့် တံဆိပ်ဝန်ရာထူးကို ခံယူရရှိ၍မဲဇလီရွာကိုပင် စားရရုံမျှမက ဘခင်ရသည့် သီရိရာဇသူဘွဲ့ကိုပင် ခံယူရရှိလေသည်။

သကရာဇ် ၁၁၈၁-ခုနှစ်တွင် ဘကြီးတော်မင်းအထွတ်အမြတ်သို့ရောက်တော်မူရာ ရာဇသံရွှေပေမှုစ၍ အလုပ်အဆောင် သေချာတတ်မြောက်လှသဖြင့် ဟံသာဝတီရတနာပုံတိုက် အဝတ်အထည်တံဆိပ်ဝန်ခန့်၍ စောလှမြို့ကို ထပ်မံစားစေလေသည်။

သကရာဇ် ၁၁၈၈-ခုနှစ်တွင် လွှတ်တော်နာခံတော် အရာပေး၍ နေမျိုးစည်သူဘွဲ့၊မင်းလှရာဇကျော်ထင်ဘွဲ့များဖြင့် ချီးမြှင့်ခံရသည်။

သကရာဇ်၁၁၉၉-ခုနှစ်တွင်ရွှေဘိုမင်းလက်ထက်၌ကျောက်မြောင်းမြို့တံဆိပ်ဝန်ခန့်တော်မူပြန်၍ ၁၂၀၈-ခုနှစ် ပုဂံမင်းလက်ထက်တွင် တံဆိပ်ဝန်အရာကိုပင် ပေးသနားလျက် သူ့ကောင်းပြုမြှောက်လေသည်၊ တံဆိပ်ဝန်အရာ၌ ဗောင်းကတ္တိပါနီ၊ရွှေသားဝတ်လုံတော်များကိုလည်း ရရှိလေသည်။

ဦးရွှေခြည်ပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ကလိင်္ဂဗောဓိပျို့။
၂။ အကိတ္တိပျို့။
၃။ မဟာဝေယန်ဘုံသာ ကျောင်းတော်ဧမော်ကွန်း။
၄။ ဗိမာန်ရတနာကျောင်းတော် မော်ကွန်း။
၅။ မဟာပဒုမပျို့။
၆။ အဘိရူပပျို့။
၇။ ဒေဝဓမ္မပျို့။
၈။ စန္ဒကိန္နရီပျို့။
၉။ မဟာဓမ္မပါလပျို့။

---

## ၄၃။ ဦးပျိုး (မင်းရဲကျော်စွာ-မက္ခရာမင်းသားကြီး)
(၁၁၅၃-၁၂၁၀)

မက္ခရာမင်းသားကြီးကို ၁၁၅၃-ခုနှစ်တွင် အမရပုရမြို့တည်ဗဒုံမင်းတရားနှင့် ဒုတိယ မြောက်နန်းမိဖုရား သီရိမဟာရတနာ ဒေဝီတို့မှ ဖွားမြင်သည်၊ငယ်မည်မှာ မောင်ပျိုးဖြစ်၍ မင်းရဲကျော်စွာဘွဲ့ကို ခံယူရသည်၊ မက္ခရာမြို့နှင့်ဗန္ဒကျီတိုက်ကို ကံကျွေးခံရသောကြောင့် မက္ခရာမင်းသားကြီးဟုထင်ရှားသည်၊မင်းသားကြီးသည်ထီးမွေနန်းမွေခံရရေးထက် ပညာဗဟုသုတကိုစုံမက်သည်၊ အင်္ဂလိပ်ဘာသာနှင့်အနောက်တိုင်းစွယ်စုံကျမ်းများကို လေ့လာသည်၊ ခမည်းတော် လက်ထက်တွင် တိုင်းရေးပြည်မှုကိုဆောင်ရွက်ရ၍ ချီးမြှင့်မြောက်စားခြင်း ခံရသည်၊ သာယာဝတီမင်း နန်းတက်သောအခါ၌လည်း ဦးရီးတော်လွှတ်တက်မင်းသားကြီးအရာဖြင့်ပင် ထမ်းရွက်ရလေသည်၊ အင်္ဂလိပ်လူမျိုးအက်ဒ္ဒပ်လိန်းဆိုသူနှင့်တိုင်ပင်၍ *အင်္ဂလိပ်မြန်မာ အဘိဓာန်တစောင်ကို ၁၁၉၅-ခုနှစ်မှစတင်ရေးသားခဲ့ရာ ၁၂၀၁-ခုနှစ်တွင် ပြီးစီးခဲ့လေသည်။

---

*ထိုအဘိဓာန်ကို၁၂၀၃-ခုနှစ်၊(၁၈၄၁)တွင် ကလကတ္တားမြို့သာသနာပြုစာပုံနှိပ်တိုက်တွင်ရိုက်နှိပ်ထုတ်ဝေခဲ့ရာ ယခုအခါ ရန်ကုန်မြို့နိုင်ငံတော်စာကြည့်တိုက်တွင် တအုပ်ကြွင်းကျန်တည်ရှိပေသေးသည်၊ စာမျက်နှာ၄၆၀-ရှိသည်။

## ၄၄။ ဦးချိန်

(၁၁၅၀-၁၂၁၇)

ဦးချိန်သည် လှေသင်းအတွင်းဝန်မင်းအမည်ဖြင့် ထင်ရှားသော စာဆိုပညာရှိပုဂ္ဂိုလ်တဦး ဖြစ်လေသည်၊ ဘိုးတော်ဘုရားလက်ထက် သကရာဇ် ၁၁၅၀-ခုနှစ်တွင် အလုံမုံရွာ၌ ဖွားမြင်လေသည်။

အရွယ်သို့ရောက်သော် မုံရွေးဇေတဝန်ဆရာတော်ထံတွင် ပညာသင်ကြားပြီးနောက် ဘကြီးတော်ဘုရားလက်ထက်တွင် သံတော်ဆင့်ကြီးအရာ၌ မဟာဇေယျသင်္ခယာဟူသောဘွဲ့ဖြင့် ထမ်းရွက်လေသည်၊ သာယာဝတီမင်းလက်ထက်တွင် ထိုရာထူးအတိုင်း ထမ်းရွက်ရပြီး မင်းတုန်းမင်းလက်ထက်တွင်ထိုဘွဲ့နှင့်ပင် အတွင်းဝန်လှေသင်းဝန်အရာ ခန့်အပ်ခြင်းခံရလေသည်။

လှေသင်းအတွင်းဝန်မင်းသည် ဗဟုသုတကြွယ်ဝ၍ ကျမ်းများစွာကိုပြုစုခဲ့လေသည်၊ သကရာဇ်၁၂၁၇-ခုနှစ်တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

လှေသင်းအတွင်းဝန် ပြုစုခဲ့သောကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ အဘိဓာနတ္ထဝိသောဓနီ။ ၂။ ဝေါဟာရလိနတ္ထဒီပနီကျမ်း။
၃။ တဇ္ဇတ္ထဒီပနီ။ ၄။ *ရာဇသေဝကဒီပနီ။

---

## ၄၅။ ဦးဆောင်း

(၁၁၆၀ခန့်)

ဦးဆောင်းကား ၁၁၈၁-ခုနှစ်တွင် နန်းတက်သော ဘကြီးတော်ဘုရားလက်ထက်တွင် ထင်ရှားသောစာဆိုတော်တဦးဖြစ်၍ သဘာဝကိုဖွဲ့ဆိုသောလွမ်းချင်းများကိုရေးသားပြုစုခြင်းဖြင့်ထင်ရှားလေသည်။

ဦးဆောင်းသည် ဦးကြင်ဥ,ဦးအို,ဦးလွမ်းပြေ, ဦးရွှန်းတို့နှင့်တခေတ်တည်း ထင်ရှားသူပင်ဖြစ်လေသည်။

---

* မောင်းထောင်ဆရာတော်ရေး ရာဇသေဝကဒီပနီလည်းရှိ၏။

## ၄၆။ ဦးမင်း

(၁၁၆၂-၁၂၃၃)

*ဦးမင်းမှာ ဘိုးသူတော်မင်းနှင့်ခေတ်ပြိုင်စာဆိုတော်တဦးဖြစ်သည်၊ သကရာဇ် ၁၁၆၂-ခုနှစ် တပေါင်းလဆန်း ၅-ရက်အင်္ဂါနေ့တွင် ရွှေဘို မြောက်လက်ရေနံမြို့တွင် ဖွားမြင်လေသည်၊ ငယ်မည်မှာမောင်စံရှင် ဖြစ်လေသည်၊ ရေနံမြို့သူတဦးနှင့် အိမ်ထောင်ကျလေသည်။

ဘကြီးတော်ဘုရားလက်ထက်တွင် မြဲတိုက်စာရေးမှ သံတော်ဆင့် ရာထူးကို သူကောင်းပြုတော်မူ၍ နေမျိုးမင်းထင် သက်တော်ရှည်ဘွဲ့ကို ရရှိသည်၊ မိဖုရားကြီးက ဖိုးသူတော်ဦးမင်းနှင့် အပြိုင်စာဆိုကြသည်ကို နှစ်သက်၍ လူမောင်မင်း ခေါ်ရမည် အမိန့်ရှိ၍ လူဦးမင်းအမည်တွင် သည်ဟု ဆိုသည်။

သာယာဝတီမင်းလက်ထက် နေမျိုးသီရိ ကျော်ထင်ဘွဲ့ပေးအပ်၍ ကွမ်းဖိုးထိမ်းအဖြစ်နှင့် အမှုတော်ထမ်းရွက်၍ ၁၂၀၃-ခုနှစ်တွင် သာ ယာဝတီမင်းရန်ကုန်မြို့သို့စုန်ရာတွင်လိုက်ပါရသည်၊ ပုဂံမင်းလက်ထက် ရာထူးရင်းအတိုင်း ထမ်းရွက်၍ အမိန့်အရ မင်းသားကြီး ဦးကျောက် လုံးထံဆည်းပူးရသည်၊ ထိုနောက်တောင်ငူ၊ ရွှေကျင်မြို့များသို့ လိုက်ပါ နေထိုင်ပြီး မင်းတုန်းမင်းလက်ထက်တွင် အိမ်ရှေ့မင်းထံ ခစားရ၍ နေမျိုးသင်္ခယာဘွဲ့ကိုရသည်၊ ၁၂၃၃-ခုနှစ် အသက် ၇၁-နှစ်တွင် အနိစ္စရောက်သည်။

(ဦးမင်း၏သား ဘုန်းကြီးဦးကလျာဏသည် ဟသ်ာတမြို့-ငါး မျက်နှာဘုရားအနီး ပတ္တမြားချောင်ကျောင်း၌ သီတင်းသုံးခဲ့၍ သားစဉ် မြေးဆက် ရှိနေသေးသည်ဟု ဆိုသည်။)

---

* ဤအတ္ထုပ္ပတ္တိမှာ ၁၂၆၂-ခုနှစ်တန်ခူးလအတွင်း ရွှေဘိုမြို့နယ်ကန့်ဗလူမြို့နယ် ရေနံမြို့အနီး ရွှေခါးသန္တိရွာနေ ဝန်စာရေးကြီး ဦးရွှန်း၏ပြောပြချက်အရ ၁၂၉၆-ခုပြာသိုလ(၈-၁-၃၅) ထုတ်သူရိယမဂ္ဂဇင်းတွင် မှော်ဘီ ဆရာသိန်းရေးသား ဖော်ပြချက်မှထုတ်နုတ်ချက်ဖြစ်လေသည်။

ဦးမင်းရေးသားခဲ့သော စာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ ဆယ့်နှစ်ရာသီလေးချိုးကြီးများ။ ၂။ ဘုန်းတော်ဘွဲ့လေးချိုးကြီး၊ ၃။ မယ်ဘွဲ့မောင်ဘွဲ့များ။

[မှတ်ချက်။ ။လူဦးမင်းအကြောင်းနှင့် စပ်လျဉ်း၍ "မြန်မာစာပေသမိုင်း"အရ အတ္ထုပ္ပတ္တိတရပ်ကို ရှေ့တွင်ဖော်ပြခဲ့ရာဦးမင်း(၁၁၃၆-၁၂၀၉) သည် အခြားတယောက်ဖြစ်ကြောင်း သိသာပေသည်၊ သို့ဖြစ်၍ ယခုအတ္ထုပ္ပတ္တိပါ ဦးမင်းနှင့်တသီးတခြားစီဖြစ်နေ၍ လူဦးမင်း နှစ်ယောက်ပင် ရှိလေသလော၊ သို့တည်းမဟုတ် ထင်ရှားနေသော ဆယ့်နှစ်ရာသီ လေးချိုးများကို ရေးသားခဲ့သည့် ဦးမင်းသည် မည်သည့်ဦးမင်းဖြစ်သည် စသည်ကိုစဉ်းစားရန်ရှိပေသည်၊ ဤအတ္ထုပ္ပတ္တိကို စတင်ဖော်ပြခဲ့သော မော်ဘီဆရာသိန်းက ဤဦးမင်းသည်သာ ဆယ်နှစ်ရာသီလေးချိုးရှင် ဦးမင်းဖြစ်ကြောင်းဖော်ပြသည်။]

## ၄၇။ စလေဦးပုည

(၁၁၆၉-၁၂၂၉)

စလေဦးပုညမှာ စာပေလောကတွင် အထူးထင်ရှားသော ကုန်းဘောင်ခေတ်စာဆိုတော်တဦးဖြစ်လေသည်၊ *သကရာဇ် ၁၁၆၉-ခုနှစ်တွင် ဦးမြတ်ထွား-ဒေါ်ဆုံတို့မှ ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်ပုတ်စည်ဖြစ်လေသည်။

ငယ်စဉ်က စလေမြို့မ ခင်ကြီးစထံတွင် ပညာသင်ကြားပြီးနောက် စလေမြို့ ခင်ကြီးသာ, ပုဂံရွှေကျောင်း ဒလခင်ကြီးတို့ထံတွင် ဆက်လက်ပညာသင်ကြားလေသည်၊ ထိုနောက် အမရပူရမြို့ ဗန်းမော်ဆရာတော်ထံတွင် ပညာသင်ကြားကာ သာမဏေဝတ်သဖြင့် ဘွဲ့မည် ရှင်ပုညဟုတွင်လေသည်။

* ဦးပုည၏မိဘများကို ဦးမြတ်စံ-ဒေါ်လှရင်၊ဦးဘိုးမင်း-မမင်းလှ၊ ဦးမြတ်ထွား-ဒေါ်မိန်းခလေး၊ ဦးမြတ်ထွား-ဒေါ်ဆုံ၊မောင်ပြေ-မယ်ဩ၊ဟူ၍ရင်း ဖွားသကရာဇ်ကို ၁၁၇၄-ခုနှစ် ကဆုန်လဆန်း ၁၃-ရက် ၁၁၀၃-ခုတန်ဆောင်မုန်းလဆန်း ၁၄-ရက် ၁၁၇၄-ခုနှစ်-ဝါခေါင်လဆန်း ၁၃-ရက် ၁၁၆၉-ခုနှစ် ၁၁၇၃-ခုနှစ် ၁၁၇၀-ခုနှစ်စသည်ဖြင့်အမှတ်အသားအမျိုးမျိုးကွဲသည်။

ငယ်စဉ်ကပင် ဗေဒင်ဝိဇ္ဇာကတ်တတ်ကျွမ်း၍ ထင်ရှားလေသည်၊ မန္တလေးမြို့တည် မင်းတုန်းမင်းနန်းတက်စတွင် နန်းတွင်းရေးကြောင့် ရှောင်တိမ်းနေရလေသည်၊ ထိုနောက်ရှင်လူထွက်၍ ဗန်းမော် ဆရာတော်ကို အကြောင်းပြုပြီး အိမ်ရှေ့မင်းထံ ခစားရာမှ မင်းတရားကြီးထံသို့ ဝင်ရောက်ခစားရလေသည်၊ ဦးပုညသည် လက်တဖက် မစွမ်းသန်သဖြင့် မူလမျိုးရိုးသူကြီးရာထူးကို မရခဲ့ပေ။

ထိုနောက် လက်ဘက်ရည်တော်အမှုထမ်းအဖြစ်ထမ်းရွက်၍ မင်းလှသံခ်ယာဘွဲ့နှင့် ရွာစည်ရွာကိုစားရလေသည်၊ ပုဂံမင်းလက်ထက်က ရှင်လူထွက်စတွင် အောက်ပြည်ရန်ကုန်မြို့သို့ လိုက်ပါခဲ့ဘူးလေသည်။

ဦးပုညသည်စာပေရေးသားပြုစုယင်းပင် ၁၂၂၈-ခုနှစ် နယုန်လတွင် မြင်ကွန်းမင်းအရေးတော်ပုံနှင့်ပတ်သက်၍ အခါပေးသည်ဟု အကျဉ်းကျရာမှမြို့ဝန်ဦးသာအိုးကကွပ်မျက်သဖြင့် အနိစ္စရောက်လေသည်၊ (လွတ်မြောက်၍ နောင်မှလွန်သည်ဟုလည်းဆို၏။)

စလေဦးပုညပြုစုခဲ့သောစာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

| | |
|---|---|
| ၁။ ရေစက်သွန်းဆုတောင်းမော်ကွန်း။ | ၂။ ရတနာနဒီမော်ကွန်း။ |
| ၃။ ယိုးဒယားနိုင်မော်ကွန်း။ | ၄။ သဒ္ဒါပုဒ်စစ်။ |
| ၅။ ပင့်ရစ်ဂဏ္ဍီသတ်ပုံကျမ်း။ | ၆။ ဗေဒင်ဟောကိန်း ရကန်။ |
| ၇။ သဂြိုဟ်ကိုးပိုင်းတေးထပ်များ။ | ၈။ သက္ကရာဇာသာ ဖတ်နည်းလင်္ကာ။ |
| ၉။ ဝိဇယပြဇာတ်။ | ၁၀။ ဝေဿန္တရာပြဇာတ်။ |
| ၁၁။ ကောသလပြဇာတ်။ | ၁၂။ ပဒုမပြဇာတ်။ |
| ၁၃။ ရေသည်ပြဇာတ်။ | ၁၄။ ဝတ္ထုဟောစာ-၂၆-ပုဒ်။ |
| ၁၅။ မေတ္တာစာများ။ | ၁၆။ ဣန္ဒြာသက္ကဆေးကျမ်း။ |
| ၁၇။ ဆေးကျမ်းလင်္ကာများ။ | ၁၈။ ဗဟန်းဘွဲ့၊ ကန်တော်ကြီးဘွဲ့တောလား။ |
| ၁၉။ ဇာတာဘွဲ့လေးချိုး။ | ၂၀။ သက်ရောက်ဂြိုဟ်စားတေးထပ်များ။ |

၂၁။ ဆေးနည်းလက်ာများ။
၂၂။ ဆေးကျမ်း လက်ာများ။
၂၃။ သဒ္ဒါနှင့်ဂန္ထန္တရနိသျ ပျောက်များ။
၂၄။ ဥပကနှင့်ဆာ၁ဝါဟောစာ။
၂၅။ ဘယနာဂဇာတ်ပုံစာ။
၂၆။ ကုသပြဇာတ်(တပိုင်း)။
၂၇။ ဝါသုဒေဝဇာတ်။
၂၈။ တေးထပ် ရှစ်ဆယ်ပေါ် အမျိုးမျိုး။
၂၉။ အခြားတေးကဗျာများ။

# ၄၈။ ဦးယမ် မိုင်းနိုင်းဝန်

(၁၁၇၇-၁၂၅၄)

မိုင်းနိုင်းဝန်ဟု ထင်ရှားသော မင်းကြီးမဟာ သီရိဇေယျသူမှာ မင်းတုန်းမင်းနှင့် သီပေါမင်းတို့လက်ထက်တွင် ထင်ရှားသောပညာရှိ တဦးဖြစ်လေသည်။

စလင်းမြို့တောင်ဖက် သမန်းရင်းရွာတွင် သကရာဇ် ၁၁၇၇-ခုနှစ် ဝါဆိုလပြည့်ကျော် ၄-ရက် တနင်္ဂနွေနေ့တွင် ဦးကျော်စံအိ-ဒေါ်လို လေးတို့မှ ဖွားမြင်လေသည်။

မိုင်းနိုင်းဝန်သည် ဗြိတိုက်သံဆင့်, ခင်မမင်းဝန်, စစ်ကိုင်း,အမြင့်, အလုံ,တပယင်းမြို့များ‌ခရိုင်ဝန်,ရွှေတော်ပြေးမှူး,မကွေးမြို့စား,သံတော်ဆင့်, ဥယျာဉ်တော်မှူး, လက်ရွေးကြိုးလှော်ကားတော်အုပ်, ရန်လွင့်လှေတော်အုပ်, အတွင်းဝန်မဟာသေနာပတိစသော အရာအထူးများစွာ၌ ထမ်းရွက်ခဲ့သူဖြစ်၍ မိုင်းနိုင်းမြို့ကိုလည်း စားရသောကြောင့် မိုင်းနိုင်းဝန်ဟု အမည်တွင်လေသည်၊ ငယ်မည်မှာဦးယမ်ဖြစ်လေသည်၊ ရဟန်းဝါ ၂-ဝါရဘူး၍ ဘွဲ့တော်မှာ ဦးကေလာသဘ ဖြစ်လေသည်၊ မင်းတုန်းမင်းလက်ထက်တွင် ပဥ္စမသင်္ဂါယနာတင်ရာ၌ ပိဋကတ်တော်များရေးကူးရာတွင် ပိဋကတ်တော်အုပ် အဖြစ် ကြပ်မဆောင်ရွက်လေသည်။

မိုင်းနိုင်းဝန်မှာ သကရာဇ် ၁၂၅၄-ခုနှစ် ဝါခေါင်လပြည့်ကျော် ၂-ရက် သောကြာနေ့တွင် ကွယ်လွန်လေသည်။

မိုင်းခိုင်းဝန် ပြုစုခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ကမ္မဘေဒဝိဘာဝနီ။ ၂။ ဆန္ဒဂုတ္တိပါသဏ္ဍာဝိသဇ္ဇနာ။
၃။ ဒွါဒသရာသီဒီပနီ။ ၄။ ရာဇသေဝကဒီပနီ။
၅။ လောကီလောကုတ္တရာကျမ်း လာစစ်ဆင်နည်း။ ၆။ ရှင်ဥက္ကံသမာလာ ကျောက်စာ။
၇။ မစုရသဝါဟိနီသန္ဒေသ ကထာပါဠိအနက်။ ၈။ သေနာပတိဝိနိစ္ဆယ။
၉။ ဓမ္မာသဏ္ဍာကာရကထာ မေတ္တာစာ။ ၁၀။ မိဖိုင်းနှင့်ရှင်ဝိလာသ ဖြတ်စာ။
၁၁။ အတိဝိစိတြသန္ဒေသကထာ ပါဠိအနက်။ ၁၂။ သုသန္ဒေသကထာအနက်။
၁၃။ မေတ္တောဒကသေစနဒီပနီ။ ၁၄။ မုခမင်္ဂလာမဟာမေတ္တာ စာကြီး။
၁၅။ သုဂန္ဓကထာမေတ္တာစာ။ ၁၆။ မဟာရဋ္ဌသာရုပ္ပတ္တိ ကထာကျမ်း။
၁၇။ အတိသုခုမတ္တသန္ဒေသ ကထာမေတ္တာစာ။ ၁၈။ ဝိသုဒ္ဓိမင်္ဂလိကာနိသျှ။
၁၉။ မဟာဝင်စာကိုယ်နိသျှ။ ၂၀။ အနာဂတဝင်ပါဠိတော်နိသျှ။
၂၁။ သဒ္ဒါရှစ်စောင်နိသျှသစ်။ ၂၂။ ဒုတိယ မဟာရာဇဝင်တော်။
၂၃။ ဓမ္မပဒပါဠိတော်နိသျှသစ်။ ၂၄။ ပိဋကတ်သမိုင်း။
၂၅။ ဒါဌာဓာတုဝင်စာကိုယ် နိသျှ။ ၂၆။ သဂြိုဟ်နိသျှသစ်။
၂၇။ ဓမ္မသံဟိတဒီပနီ။ ၂၈။ ရာဇဝင်ချုပ်။

---

## ၄၉။ ဦးကောင်း (ကင်းဝန်မင်းကြီး)

(၁၁၇၃–၁၂၇၀)

ကင်းဝန်မင်းကြီး ဦးကောင်းသည် တိုင်းရေးပြည်မှုတွင်သာမက စာပေလောကတွင်ပါ ထင်ရှားသောပုဂ္ဂိုလ်ကြီးဖြစ်လေသည်၊ ၁၁၇၃-ခုနှစ်တွင် မုံရွာစီရင်စု ဆင်ရှင်မြို့နယ် မုံတိုင်ပင်ရွာ အဘဦးမှူ-အမိ

ဒေါ်စီတို့မှဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်ချင်းဖြစ်သော်လည်း သကရာဇ် ၁၂၁၁-ခုနှစ်တွင်မင်းတုန်းမင်းသား၏အိမ်တော်၌စားရာ မောင်ကောင်းဟု ခေါ်တွင်စေလေသည်။

မင်းတုန်းမင်းနန်းတက်တော်မူလျှင် မင်းလှသိင်္ခသူဘွဲ့နှင့် စစ်ကိုင်း နယ်ရွာသစ်ကြီးရွာကိုစားစေ၍ ရှေ့တိုက်စိုးခန့်တော်မူသည်၊ ထိုနောက် လွှတ်တော်ကြီး၌ာနတွင် အမှုတော်ရေးအရာနှင့် သပြေငါးရွာတို့ကို ပေးသနားမြန်၍ ၁၂၂၃-ခုနှစ်တွင် လွှတ်တော်စာရေးကြီးအရာနှင့် ရမည်းသင်းတောင်ငူမြို့သို့ လွှတ်တော်မူသည်၊ မြင်ကွန်းအရေးတော်ပုံ ပြီးလျှင် အပါးတော်သို့ခေါ်တော်မူ၍ မဟာစည်သူဘွဲ့နှင့် ဝန်ထောက် ခန့်တော်မူလေသည်၊ ထိုနောက် အရပ်ရပ်ကြည်းကင်း,ရေကင်းတို့ကို ကင်းဝန်အရာနှင့် အုပ်ချုပ်ရမြန်လေသည်၊ ၁၂၃၃-ခုနှစ်တွင် အဂ္ဂ မဟာ သေနာပတိ ဝန်ရှင်တော် မင်းကြီးခန့်၍ နိုင်ငံခြားများသို့ စေလွှတ်သည်။

သီပေါမင်းနန်းတက်သော် သတိုးသုဓမ္မမဟာ သက်တော်ရှည် ဟူသောဘွဲ့နှင့် သက်တော်ရှည်အမတ်ကြီးခန့်ထားသည်၊ အင်္ဂလိပ်များ မြန်မာနိုင်ငံကိုသိမ်းယူပြီးနောက် ၁၂၅၈-ခုနှစ်တွင်စီ-အက်-အိုင်ဘွဲ့နှင့် ဥပဒေပြုမင်းတိုင်ပင်အဖွဲ့တွင် ဝင်ရောက်ထမ်းရွက်ရသည်။

ကင်းဝန်မင်းကြီးသည် ၁၂၇၀-ပြည့်နှစ်ဝါဆိုလဆန်း ၃-ရက်နေ့ အသက် ၈၇-နှစ်တွင်ကွယ်လွန်လေသည်၊ မင်းကြီးပြုစုခဲ့သော စာပေ များအနက် အောက်ပါစာပေများပါဝင်လေသည်။

| | |
|---|---|
| ၁။ ၃၆-စောင်တွဲဓမ္မသတ်ကြီး။ | ၂။ ဓမ္မသတ်လက်ာနှင့်အဖွင့် ကျမ်း(အဋ္ဌသခ်ေပ)။ |
| ၃။ အမွေမှုဓမ္မသတ်ကျမ်းကြီး။ | ၄။ ပုခက်တင်ချောင်း။ |
| ၅။ သမီးတော်ချောင်း။ | ၆။ မေတ္တာစာ။ |
| ၇။ တိဿကပျို့။ | ၈။ ဓမ္မာဇမော်ကွန်း။ |
| ၉။ ရတနာနဒီမော်ကွန်း။ | ၁၀။ ပြင်သစ်သွားမှတ်တမ်း။ |
| ၁၁။ လန်ဒန်သွားမှတ်တမ်း။ | ၁၂။ ကဗျာနှင့်ဂီတသီချင်းများ။ |
| ၁၃။ နာနာနယသခ်ေပကဗျာ ဗန္ဓကျမ်း။ | ၁၄။ နေမိရကန်။ |

## ၅၀။ ဆရာကြီးဦးဝေ
(၁၁၇၇-၁၂၅၉)

ဆရာကြီး ဦးဝေသည် မွန်မျိုးရိုး မတ်နွယ်ဖြစ်၍ ဟင်္သာတခရိုင် အင်္ဂပူမြို့၌ ၁၁၇၇-ခုနှစ်တွင်ဖွားမြင်သည်၊ ငယ်စဉ်ကပင်ပညာကို လိုက်စားလိုသည်အလျောက် အမရပူရနေပြည်တော်သို့ သွားရောက်ကာ ပုဂ္ဂိုလ်အကျော်ဆရာကြီးများထံမှ လောကီလောကုတ္တရာ နှစ်ဖြာသောစာပေကျမ်းဂန်တို့ကို ပါရဂူရောက်တတ်မြောက်အောင် သင်ကြားခံယူခဲ့လေသည်။

ဆရာကြီးသည် သက္ကတ, မာဂဓ,မွန်, မြန်မာဘာသာတို့တွင် အထူးကျွမ်းကျင်သည့်ပြင် ဗေဒင်ကျောက်စာရာဇဝင်တို့ကိုလည်း လေ့လာလိုက်စားသည်၊ ရန်ကုန်မြို့အစိုးရသိပ္ပံ (အထက်တန်း)ကျောင်းကြီး၌ ပါဠိဆရာကြီးအဖြစ်ဖြင့် နှစ်ရှည်လများ အမှုထမ်းရွက်ပြီးနောက် အစိုးရကျောက်စာဌာနသို့ ကူးပြောင်းဆောင်ရွက်ရပြန်သည်။

အငြိမ်းစား အဖြစ်ဖြင့် နေခိုက် အသက် ၇၂-နှစ် သကရာဇ် ၁၂၅၉-ခုပြာသိုလပြည့်ကျော် ၉-ရက်နေ့တွင် ဆရာကြီးကွယ်လွန်ရှာသည်။

ရန်ကုန်မြို့နှင့်ပတ်ဝန်းကျင်တောတောင်ရာသီဘွဲ့တို့ကိုတေးထပ်ဆန်းကြီးများ,ရှစ်ဆယ်ပေါ်ထပ်တွန့် တေးထပ်ကြီးများဖြင့်ဘွဲ့ဆိုရာ၌ ဆရာကြီးသည် အထူးပြောင်မြောက်လှပေသည်။

ရေးသားခဲ့သောစာပေများတွင် အောက်ပါ စာပေများပါဝင်လေသည်။

၁။ သာသနာလင်္ကာရကောက်နုတ်ချက်စာတမ်း။
၂။ သာသနဝံသကောက်နုတ်ချက်စာတမ်း။
၃။ ဝံသဒီပနီကောက်နုတ်ချက်စာတမ်း။
၄။ မွန်ရာဇဝင်ကောက်နုတ်ချက်။
၅။ သံလျင်ရာဇဝင်ကောက်နုတ်ချက်။
၆။ ပုသိမ်ရာဇဝင်ကောက်နုတ်ချက်။
၇။ တေးထပ်အမျိုးမျိုး။
၈။ ရှစ်ဆယ်ပေါ်တေးထပ်အမျိုးမျိုး။

၉။ လေးချိုးသဖြန်အမျိုးမျိုး။
၁၀။ မေတ္တာစာအမျိုးမျိုး။
၁၁။ ဝက်ပါကန်ရေလားရတု။
၁၂။ သာစုကန်ဘုရားဘွဲ့ရတု။

---

## ၅၁။ မောင်စံသူ

(၁၁၉၀-ခန့်)

*မောင်စံသူမှာ ဘကြီးတော်မင်းတရား လက်ထက်တွင် ထင်ရှားသောစာဆိုတော်တဦးဖြစ်လေသည်၊ ရွှေနန်းဘွဲ့မှာတမ်းဟု ကဗျာများကိုရေးသားခဲ့သဖြင့် ထင်ရှားလေသည်။

မောင်စံသူသည် သာယာဝတီမင်းလက်ထက်တွင်လည်း မှာတမ်းများရေးလေသည်၊ မောင်စံသူ၏မှာတမ်းများမှာ ထင်ရှားကြွင်းကျန်လျက်ရှိပေသေးသည်။

မောင်စံသူသည် လောင်းရှည်မြို့စား မင်းကြီးနှင့် ဆွေမျိုးတော်စပ်ကြောင်း ဖေါ်ပြလျက်ရှိသဖြင့် မူးမျိုး မတ်မျိုး ဖြစ်ဖွယ်ရှိလေသည်။

---

## ၅၂။ ညောင်ပင်သာဦးပုည

(၁၁၉၀–၁၂၆၃)

ညောင်ပင်သာဦးပုညမှာ စလေဦးပုညနှင့် မရှေး မနှောင်းပင်ပေါ်ပေါက်သော စာဆိုတော်ကြီးတဦးဖြစ်လေသည်။

သကရာဇ် ၁၁၉၀-ပြည့်နှစ် ပြာသိုလတွင် စကိုင်းမြို့အစေခံရပ်ထောင်ကဲ ပဲ့နင်းကြီးဦးရွှေလှေစီ-ဒေါ်လှဦးတို့မှ တတိယမြောက်ဖွားမြင်သောသားရတနာဖြစ်၍ ငယ်မည်မှာ မောင်အောင်စိုးဖြစ်လေသည်။

ငယ်စဉ်ကပင် ဆင်နင်း ဆရာတော်ထံတွင် ပညာသင်ကြားပြီးနောက် ပဉ္စင်းအဖြစ် တက်ရောက်သောအခါ စစ်ကိုင်းပရက္ကမဆရာတော်(သာသနာပိုင်ဦးဥ ယျ)ထံတွင် ပညာဆက်လက်သင်လေသည်၊ ထိုဆရာတော်နှင့်အတူ မင်းတုန်းမင်းထံသို့ လိုက်ပါဘူးလေသည်။

---

* ဘိန်းပုံရာဇာနှင့် ကွမ်းပုံကုမ္ဘာဝတ္ထုရေး—မောင်စံသူမှာ—နှောင်းမောင်စံသူတဦးဖြစ်သည်။

ရဟန်းဘွဲ့မှာ ဦးပုညဖြစ်သဖြင့် ဦးပုညဟုပင် အစဉ်တွင်လေသည်၊ ၁၂၂၁-ခုနှစ်တွင် ခမည်းတော်အနိစ္စရောက်သဖြင့် စစ်ကိုင်းဆင်နင်းကျောင်းသို့ပြန်၍ ၁၂၂၃-ခုနှစ်တွင် ညောင်ပင်သာ ကျောင်းတွင် သိတင်းသုံးလေသည်။

၁၂၂၉-နှစ်တွင် လေရောဂါကြောင့် ဖိုးသူတော်အဝတ်ဖြင့် နေထိုင်လေသည်။

၁၂၇၂-ခုနှစ်တွင် နယ်ပိုင်ဝန်ထောက်ဦးဘတူက ပင့်ဆောင်သဖြင့် ရန်ကုန်, မော်လမြိုင်, ပုသိမ်မြို့များတွင် နေထိုင်ခဲ့ပြီးနောက် ၁၂၆၃-ခု ပြာသိုလပြည့်ကျော် ၅-ရက်အင်္ဂါနေ့ည ၃-နာရီအချိန်တွင် အနိစ္စရောက်လေသည်။

ညောင်ပင်သာ ဦးပုညပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများပါဝင်သည်။

၁။ သာမုန္ဒရိကလကင်္ခဏာကျမ်း။
၂။ လောကမဥ္ဇူဆေးကျမ်း။
၃။ သာသနာလျှောက်မေတ္တာစာ။
၄။ စစ်ကိုင်း ဘုရား များ၏ တေးထပ်ပေါင်းချုပ်။
၅။ ပါတော်မူရတု။
၆။ ရတနာမကိုဋ်သံဝေတေး။
၇။ သာသနဟိတမေတ္တာစာ။
၈။ နဝရတ်ခိုင် ဘုံကိုးဆင့်တက်ကျမ်း။
၉။ တေးထပ်များ။
၁၀။ သုတရတနာဆုံးမစာ။

---

## ၅၃။ ဦးလှိုင်ယောအတွင်းဝန်

(၁၁၉၁-၁၂၄၅)

ယောအတွင်းဝန်ဦးလှိုင်သည် ကုန်းဘောင်ခေတ် နောက်ပိုင်းတွင် စွယ်စုံပညာရှင်ကြီးတဦးဖြစ်လေသည်၊ဦးလှိုင်ကို သက္ကရာဇ် ၁၁၉၁-ခု နှောင်းတန်ခူးလဆန်း ၁၀-ရက်နေ့တွင် မြင်းခြံမြို့ အထက်တလုပ်မြို့ အဝင်အပေါ်ရွာပုလဲရွာတွင် ရေနံချောင်းမြို့စား ယင်းတောဝန်ကြီး မယ်ငြိမ်းတို့မှ ဖွားမြင်လေသည်။

ယယ်စဉ်က တလုပ်မြို့နယ် ကျုံပိုရွာဆရာတော်ထံတွင် ပညာသင်ကြားပြီးနောက် ၁၂၀၆-ခုနှစ်တွင် လူဝတ်လဲကာ ပုဂံမင်းလက်ထက်

ညီတော်မင်းတုန်းမင်းထံခစားလေသည်၊ ထိုနောက်သာမဏေဝတ်ပြန်၍ ပင်းဆရာတော်, ပြည်ဆရာတော်, ဗားကရာ ဆရာတော်တို့ထံတွင် စာပေသင်ကြားလေသည်၊ ၁၂၁၄-ခုနှစ်တွင် ညီတော်မင်းတုန်းမင်း သားပုန်ကန်ရာ၌ လူဝတ်လဲ၍ ပါဝင်အမှုထမ်းလေသည်၊ ရွှေဘိုမြို့၌ ခေတ္တစံနေစဉ်မှာပင် မင်းလှစည်သူဘွဲ့နှင့် ယောမြို့ကို ပေးသနားခြင်းခံရလေသည်။

မင်းတုန်းမင်းအထွတ်အမြတ်သို့ ရောက်တော်မူသောအခါ ချီးမြှင့်မြှောက်စား၍ မြင်းတင်အခွန်ကိုစားစေပြီး ကုလားဝန် ခန့်အပ်ကာ အဂ္ဂမဟာသေနာပတိ မကွေးမြို့စား ဝန်ကြီးမင်း၏သမီး ခင်ဖြူနှင့် လက်ထပ်ပေးတော်မူသည်၊ အသက် ၂၉-နှစ်တွင် အတွင်းဝန်အရာ ခန့်ပြီးသော် ကျောက်စာများကို အက္ခရာမချွတ်ယွင်းစေရအောင် ရေးသားထုလုပ်ရာ၌ ကြီးမှူးကြပ်မတ်ထမ်းရွက်ရလေသည်၊ ထိုနောက် မကွေးမြို့ကိုလည်း စားရလေသည်။

ယောအတွင်းဝန်မင်းသည် သက္ကဋ,မာဂဓဘာသာတို့ကို တတ်ကျွမ်း၍ ဓေတ်ဗဟုသုတကြွယ်ဝသည့်ပြင် ဗေဒင်,ဆေးဝါး စသည်တို့ဖက်၌လည်း နှံ့စပ်တတ်သိလှလေသည်၊ ဗဟုသုတ ကြွယ်ဝသည့်အလျောက် ကျမ်းအမျိုးမျိုးပြုစုခဲ့ရာ ပြုစုသောကျမ်းတိုင်းလိုလိုပင် အလေးအမြတ်မှီးငြမ်းပြုကြရလေသည်။

ယောအတွင်းဝန်သည် ၁၂၄၅-ခု ဝါခေါင်လပြည့်ကျော် ၈-ရက်နေ့၌ အသက် ၅၄-နှစ်အရွယ်တွင် အနိစ္စရောက်လေသည်၊ ယောအတွင်းဝန်ပြုစုခဲ့သော ကျမ်းများတွင် အောက်ပါတို့ပါဝင်လေသည်။

| | |
|---|---|
| ၁။ အဿဘေဒကျမ်း။ | ၂။ လိပိဒီပိကာကျမ်း။ |
| ၃။ လိလာဝတီဂဏန်းကျမ်း၊ | ၄။ သဒ္ဒသင်္ဂဟကျမ်း။ |
| ၅။ ဝိမုတ္တိရသကျမ်း။ | ၆။ မဟာသမထဝိနိစ္ဆယကျမ်း။ |
| ၇။ ကာယာနုပဿနာကျမ်း။ | ၈။ ရာဇဓမ္မသင်္ဂဟကျမ်း။ |
| ၉။ နဝသိဒ္ဓန္တကျမ်း။ | ၁၀။ ဥတုဘောဇနသင်္ဂဟကျမ်း။ |
| ၁၁။ မဟာသုဇာတကကျမ်း။ | ၁၂။ သုဗောဓာလင်္ကာရနိသျကျမ်း။ |
| ၁၃။ ဓာတုပြသံသကျမ်း။ | ၁၄။ လောကဓာတ်ဆေးကျမ်း။ |
| ၁၅။ သတ်ညွှန်း။ | |

# ၅၄။ ဦးသံမှို

(၁၁၉၇-၁၂၆၆)

ဦးသံမှိုသည် လက်ရုံးရည်,နှလုံးရည် စွယ်စုံပြည့်ဝသော ပုဂ္ဂိုလ်ကြီး တဦးပင် ဖြစ်လေသည်၊ သကရာဇ် ၁၁၉၇-ခုနှစ် တပေါင်း လဆန်း ၁၂-ရက် တနင်းလာနေ့တွင် ကျောက်ဆောက်မြို့အနီး ရွာသာရွာ၌ ဦးရွှေရေး- ဒေါ်ပိုင်းတို့မှ ဖွားမြင်လေသည်။

ငယ်စဉ်က ကျောက်ဆောက်မြို့ အနောက်တောင် ခရီး ၂-မိုင်ကွာရှိ ဆိမီးကန်ရွာ ကျီးကျောင်း ဆရာတော်ထံ၌ ပညာသင်ကြားလျက် ရှင်ကိတ္တိဘွဲ့ဖြင့်သာမဏေဘောင်သို့ဝင်ကာ စာပေလေ့လာ သင်ကြားရာ ပျို့,ကဗျာ,လင်္ကာကိုလည်း ကောင်းစွာတတ်ကျွမ်းလေသည်။

ထိုနောက် တောင်သာမြို့ အရှေ့တောင် ဒန့်တိုင်ရွာ တောင်ကျောင်း ဆရာတော်ထံတွင် ပညာဆက်လက် ဆည်းပူးပြီး မြင်းခြံမြို့ ကိုးဆောင် တိုက် ဆရာတော်ထံတွင် ရဟန်းဘောင်သို့ တက်ရောက်လေသည်၊ ထို နောက် မန္တလေးမြို့သို့ ရောက်ရှိ၍ ခစ်မကန်တိုက်တွင် စာပေ ပို့ချလေ သည်၊ သကရာဇ် ၁၂၂၅-ခုနှစ်တွင် လူဝတ်လဲ၍ မင်းတုန်းဘုရင်၏ သားတော်ကြီး ဇလွန်မြို့စားထံတွင် ခစားလေသည် မြင်ကွန်း,မြင်းခုန် တိုင် အရေးတွင် ဇလွန်မြို့စား ကံတော်ကုန်ပြီးနောက် မြင်ကွန်း, မြင်းခုန်တိုင် မင်းသားတို့က အကြီးတော်အရာဖြင့်မြှောက်၍ မဇ္ဈရာဇာ မင်းကြီး ဟူသော ရွှေတံဆိပ်ပေးအပ်လေသည်၊ ထိုနောက် မင်းတုန်း မင်း အမျက်တော်ရှိရာ ဒန့်တိုင်ဆရာတော်, ကိုးဆောင် ဆရာတော်တို့ လျှောက်ထားသဖြင့် ရာဇဝတ်မှုမှ ကင်းလွတ်လေသည်။

အကြီးတော်မင်းသည် မန္တလေးတွင်မနေလိုဘဲ ရန်ကုန်မြို့သို့စုန်ဆင်း လာရာ မင်းလှမြို့နှင့်ပြည်မြို့များတွင် အတန်ကြာနေထိုင်ပြီး ၁၂၃၄-ခု နှစ်တွင် ရန်ကုန်မြို့၌ ပုဂံမင်း၏သမီးတော်နှင့် အိမ်ထောင်ဖက်၍နေလေ သည်၊ မြင်ကွန်းမင်းသားညီနောင်လွတ်မြောက်ရေးကိုလည်း အထူးပင် ကြိုးပမ်းဆောင်ရွက်ခဲ့လေသည်။

စာပေကျမ်းဂန်များကိုပြုစုခဲ့၍ ၁၂၆၆-ခု ပြာသိုလဆန်း ၉-ရက် သောကြာနေ့တွင် ရန်ကုန်မြို့ ၁၉-လမ်း မန်ကျည်းတန်း နေအိမ်၌ အကြီးတော်မင်း အနိစ္စရောက်လေသည်။

အကြီးတော်မင်းပြုစုခဲ့သော ကျမ်းများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ဖျိုင်းစေခန်းသာချင်း။
၂။ အမွေခန်းဖြတ်စာ။
၃။ တိဂုံ ဆံတော်ရှင် ငှက်မြတ်နား သမိုင်း။
၄။ သေ လက္ခရ ကျောက်စာ သမိုင်း။
၅။ နောင်တော်ကြီး ထီးတော် သမိုင်း။
၆။ ကျိုက္ကစံဘုရားသမိုင်း။
၇။ ငါးထပ်ကြီးဘုရား သမိုင်း။
၈။ ဗောဓိ မဥ္ဇူသာ စာတမ်း။
၉။ သဂြိုဟ်နိသျသစ်။
၁၀။ ဂုဏတ္ထဇောတိကျမ်း။
၁၁။ သဒ္ဒါအမေး,အဖြေကျမ်း။
၁၂။ အဘယကာရိကျမ်း။
၁၃။ စလင်းကျောင်းတိုက် သိမ်ကမ္ပည်း ကျောက်စာ။
၁၄။ မေတ္တာစာ, လေးချိုး, ဒွေးချိုး စသည်များ။

---

## ၅၅။ ဦးစီ

(၁၂၀၀-ခန့်)

ဦးစီသည် ကုန်းဘောင်ခေတ်တွင် ထင်ရှားသော စာဆိုတော် တဦး ဖြစ်လေသည်။

ဦးစီမှာ ဘကြီးတော် လက်ထက် ရွှေတိုက် အတွင်းဝန် ရာထူးဖြင့် ထမ်းရွက်သော ရွှေတိုက်အတွင်းဝန် ဦးသာ၏သားဖြစ်လေသည်။

ဘကြီးတော်ဘုရား သာယာဝတီမင်းနှင့်ပုဂံမင်းတို့ လက်ထက်တွင် မြိတိုက်သံတော်ဆင့် ရာထူးဖြင့် ထမ်းရွက်၍ မင်းတုန်းမင်း လက်ထက်တွင် သံတော်ဆင့်အရာ,လယ်ဝန်အရာတို့ဖြင့် ထမ်းရွက်လျက် စဥ့်ကူးမြို့နှင့် ဆောမြို့များကို စားရလေသည်၊ ထို့ကြောင့် ဆောမြို့စားဟု တွင်လေသည်။

ဦးစီရေးခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

၁။ တေးထပ်များ။
၂။ လေးချိုးများ။
၃။ ဗိုကြီးသံများ။
၄။ ဟန်ချင်းများ။

---

## ၅၆။ ဦးကြီး
(၁၂၀၀ ခန့်)

ဦးကြီးသည် ကုန်းဘောင်ခေတ်နောက်ပိုင်းတွင် ထင်ရှားခဲ့သောစာဆိုတော်တဦးဖြစ်လေသည်၊ စစ်ကိုင်းနယ် မန္တကျည်းကန်ချောင်းတောင်ဖက် စသာဈေးတက် တောင်ကြားရွာတွင် ဖွားမြင်လေသည်။

ငယ်စဉ်က အစ်ကို၏ဆရာ ပင်းမြို့ဆရာတော်ထံတွင် စာပေသင်ကြားပြီးနောက် ရဟန်းဘောင်သို့ဝင်၍ အမရပုရမြို့ ဘုံကျော်ကျောင်းတိုက်တွင်စာပေဆက်လက်သင်ကြားလေသည်။

ထိုနောက် လူထွက်၍ ၁၂၀၁-ခုနှစ်တွင် သာယာဝတီမင်းက ရွှေပြည်တံခွန်မြင်းစုဖွဲ့ရာ၌ စုရေးစုကိုင်အဖြစ် ထမ်းရွက်လေသည်၊ ရွှေဘိုမြို့မ ရုံးတော်တွင်လည်း ထမ်းရွက်ရလေသည်၊မင်းတုန်းမင်းလက်ထက်တွင်လည်း ထိုရာထူးအတိုင်း ထမ်းရွက်၍ ကနောင်မင်းထံ ကဗျာ, လင်္ကာများဆက်သွင်းလေသည်။

သီပေါမင်းလက်ထက်တွင် တောင်ငူသစ်တောစာရေး, တောင်ငူမြို့စာရေးရာထူးများဖြင့် ထမ်းရွက်လေသည်။

ဦးကြီးရေးသားခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ လွမ်းချင်းများ။ ၂။ ရတနာကြေးမုံ သတ်ပုံ။
၃။ စသာဈေးတက်တောင်ကြားရွာ သမိုင်း။ ၄။ ပါဠာနုသာရီသတ်ပုံ။

## ၅၇။ ဦးခြိမ့် (ဦးချိမ့်)
(၁၂၀၀-ခန့်)

ဦးခြိမ့်သည် ရွှေဘိုမြို့စီရင်စု ခွန်တောင်းကြီးရွာဇာတိဖြစ်၍ မင်းတုန်းမင်းကြီး၏အိမ်တော်ပါ အမှုထမ်းဖြစ်လေသည်။

မင်းတုန်းမင်းထံတွင် လက်ဖက်ရည်တော်အရာ၌ နေမျိုးဇေယျသူ ဘွဲ့ဖြင့် ခစားလေသည်၊ ထိုနောက် အမှာတော်ရေးမင်းအဖြစ် မင်းလှဇေယျသူဘွဲ့ဖြင့်ခစားရပြန်ပြီး လွှတ်တော်စာရေးကြီးအရာ ဗောင်းကတ္တိပါနီ ရွှေသားပန်း အဆောင်အရွက် ရလေသည်၊ ၁၂၃၃-ခုနှစ်တွင် ကင်းဝန်မင်းကြီး အနောက်နိုင်ငံ အင်္ဂလန်သို့သွားသောအခါ စာရေး

တော်ကြီး သံယော်အဖြစ်ဖြင့် လိုက်ပါရလေသည်၊ ၁၂၃၅-ခုနှစ်တွင် ပြင်သစ်ပြည်သို့ သွားရောက်သောအခါတွင် မင်းကြီးသီရိမဟာဇေယျသူ ဘွဲ့ဖြင့် မြောင်လှမြို့ကိုအပိုင်စားချီးမြှင့်ခံရလေသည်။

၁၂၃၇-ခုနှစ် ဗောင်းကတ္တီပါနီ ရွှေသားပန်း ၁၂-တမာရွက်ထောင် ၁၂-ထပ်မံချီးမြှင့်ခြင်းခံရပြန်လေသည်၊ အိန္ဒိယနိုင်ငံ ဘုရင်ခံချုပ်ထံသို့ သံအမတ်ကြီးအဖြစ်ဖြင့်လည်း သွားရောက်ရလေသည်၊ ထို နောက်အီတလီနိုင်ငံ,ပေါ်တူဂီနိုင်ငံများသို့ သံတော်ကြီးအဖြစ်ဖြင့်သွားရောက်ရလေသည်။

မြောင်းလှမြို့စား ဝန်ထောက်မင်း ပြုစုတော်မူခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ ကပိလကုဏ္ဍလာဒီပနီ။ ၂။ မေတ္တာစာများ။
၃။ အီတလီသွားမှတ်တမ်း။

---

## ၅၈။ အချုပ်တန်းဆရာဖေ

(၁၂၀၀-၁၂၅၆)

အချုပ်တန်းဆရာဖေမှာ- ကုန်းဘောင်ခေတ်နောက်ပိုင်းတွင် ထင်ရှားသောစာဆိုတော်တဦးဖြစ်လေသည်။

ဆရာဖေကို သက္ကရာဇ် ၁၂၀၀-ပြည့်နှစ် ဝါဆိုလဆန်း ၅-ရက် စနေနေ့တွင် အင်းဝမြို့၌ ပုဂံမင်းလက်ထက်အသုံးတော်ခံ ဦးရောက်နှင့် ဇနီးတို့မှ ဖွားမြင်လေသည်၊ မင်းတုန်းမင်းကြီး၏ လက်ထက်တွင် မန္တလေးမြို့တော်ပြင် စိတြမဟီရပ်ကွက် အချုပ်တန်း၌ နေထိုင်၍ မင်းတရားကြီး၏ အချုပ်တော်အဖြစ် အမှုထမ်းသဖြင့် အချုပ်တန်း ဆရာဖေဟု တွင်လေသည်၊ အချုပ်တန်းဆရာဖေ၏ဇနီးမှာ အင်းဝမြို့သူ ဒေါ်ပုံ-ဖြစ်လေသည်၊ ဒေါ်ပုံနှင့် သားသမီးလေးယောက် ထွန်းကားလေသည်။

ဆရာဖေမှာ သီပေါမင်း၏ လက်ထက်တွင်လည်း ကဗျာလင်္ကာများရေသားသည့်ပြင် သီဘောမင်း၏အတွင်းရေးများကို ယုဇနဝတ်မှုံ မင်းသမီးပြဇာတ်ဖြင့် ရေးသားဖေါ်ထုတ်မိသဖြင့်ရှိမ်းမကားသို့အပို့ခံခဲ့ရလေသည်။

မင်းတုန်းမင်းလက်ကလည်း အိန္ဒိယဘုရင်ခံ ရန်ကုန်မြို့သို့လာရာ ထီးဖြူရုံပြာသာဒ်နှင့် အကြိုခံပြီးနောက်အပြန်တွင် အန္တမန် (ကပ္ပလီ) ကျွန်း၌ အကျဉ်းသမား၏ဓားချက်ဖြင့် သေဆုံးရသည်ကို သရော်၍- "ထီးဖြူရုံပြာသာဒ်နှင့် မအပ်တွဲ,မရာ" အစရှိသောတေးထပ်ကို ရေးသားရာ၊ ဗြိတိသျှအာဏာပိုင်တို့ကမခံမရပ်နိုင်ဖြစ်၍ မြန်မာဘုရင်အား တိုင်ကြားသဖြင့် ၁၂၃၄-ခုနှစ် နယုန်လဆန်း ၉-ရက်နေ့တွင် ပုခန်းမင်းကြီးကအရေးယူ၍ ဆရာဖေ အကျဉ်းချခြင်းခံရလေသည်။

ဆရာဖေမှာ ၁၂၅၆-ခုနှစ် တန်းခူးလတွင် ရှမ်းပြည် မိုင်းပွန်မြို့တွင် ကွယ်လွန်ရာရေသားပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ယုဇနဝတ်မှုံမင်းသမီးပြဇာတ်။

၂။ တေးထပ်များ၊ အခြားကဗျာများ။

---

## ၅၉။ ဦးကြော့(ဦးကျော့)

(၁၂၀၁-၁၂၅၁)

ဦးကြော့မှာ ကုန်းဘောင်ခေတ် နောက်ပိုင်းတွင် ထင်ရှားသော စာဆိုတော်ကြီးတဦးဖြစ်၍ နတ်မောက်မြို့ဇာတိဖြစ်လေသည်။

ဦးကြော့သည် ၁၂၀၁-ခုနှစ်တွင် ဖွားမြင်၍ တနင်းလာသားဖြစ်လေသည်၊ ငယ်စဉ်ကမင်းတုန်းမင်းထံတွင်ခစားရသောနေမျိုးဘိသက္ကသူရနော်ရထာဘွဲ့ခံသမားတော်ကြီးဦးကျော်စိန်၏တိုက်တွန်းခေါ်ဆောင်ချက်အရ မန္တလေးမြို့တော်သို့ လိုက်ပါရာ တောင်ဥယျာဉ်ပန်းခုံတော်တွင် မင်းတုန်းမင်းကြီးအား ဆက်သ သဖြင့် မင်းတရားကြီးက အိမ်ရှေ့ဝန်နတ်မောက်မြို့စားမင်းကြီးမဟာကျော်ထင်အားအပ်၍ စာတော်ဖတ်အရာဖြင့် ထမ်းရွက်စေလေသည်။

သီပေါမင်းလက်ထက်တွင် ဒသမခရိုင်ဝန်မင်းကြီး မဟာမင်းလှမင်းခေါင်ကျော်နှင့် တောင်တွင်းခရိုင်ဝန် သံတော်ဆင့်ရန်လင်း လှေတော်အုပ်မင်းကြီးမင်းလှမဟာမင်းထင်ထံတွင် ရှေ့တော်ဖတ်ဝန်စာရေးကြီးအဖြစ်ထမ်းရွက်ရလေသည်။

ထိုစဉ်က ဦးကြော့၏ ညီအစ်ကိုတော် ဦးပဥ္စင်း ဦးဝိဇယသည် မန္တလေးတောင်ပြင် ကျိုဝန်ခေါ် မိုးထားတိုက်၌ သီတင်းသုံးနေရာ ထိုကျောင်းသို့မကြာခဏ သွား၍ စာပေလေ့လာသင်ကြားလေသည်။

(ဦးကြော့၏သားချင်းများအနက် နှမအငယ် ဒေါ်စမွယ်ဆိုသူမှာ နတ်မောက်မြို့၌ နေထိုင်ခဲ့၍ ၁၂၀၃-ခုနှစ်လောက်တွင် အနိစ္စရောက်လေသည်။)

ဦးကြော့သည် "စုံနှံ့သာမြိုင်" အစချီ ရှာပုံတော်ကြီးကို ရေးသားရာ ထိုစာတပုဒ်တည်းနှင့်ပင် ဂုဏ်ရည်တက်လေသည်၊ မြိတ်သူ့ခေတ်တွင် သမီးမရွှေအိနှင့်အတူ နတ်မောက်မြို့မခေါ် မြို့ကုန်းရွာ၌ နေထိုင်စဉ် ၁၂၅၁-ခုနှစ်တွင် အနိစ္စရောက်လေသည်။

ဦးကြော့ရေးသားခဲ့သော စာပေများအနက် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ရှာပုံတော်ကြီး။ ၂။ မေတ္တာစာများ။
၃။ ဓမ္မစကြာအချီးအမွန်း။ ၄။ ဒွေးချိုးများ။
၅။ အပူတိုက်လေးဆစ်။ ၆။ လေးချိုးကဗျာများ။
၇။ တေးထပ်များ။

---

## ၆၀။ ဦးကျော်လှ
(၁၂၀၃-၁၂၉၁)

ဦးကျော်လှမှာ ကုန်းဘောင်ခေတ်နောက်ပိုင်းတွင် သံချိုရေးသားခြင်းဖြင့် ထင်ရှားခဲ့သော စာဆိုတော်တဦးဖြစ်လေသည်။

သကရာဇ် ၁၂၀၃-ခု သီတင်းကျွတ်လဆန်း ၁၅-ရက် ဗုဒ္ဓဟူးနေ့ည ၁၀-နာရီအချိန်တွင် မုံရွာခရိုင်ဘုတလင်နယ် မောင်းထောင်ခုံမင်းကြီးဦးတောင်ရိပ်နှင့်ဒေါ်မင်းအိတို့မှ ဖွားမြင်လေသည်။

ငယ်စဉ်က စာပေကဗျာလင်္ကာများနှင့် ဗေဒင်ပညာကို သင်ကြားတတ်မြောက်ခဲ့၍ နိမိတ်သံချိုများကို ရေးသားလေသည်၊ သီပေါမင်းလက်ထက်တွင် နာခံတော် ပြော့ကြီးမှူးရာထူးကို ပေးခဲ့သော်လည်း မယူခဲ့ဟု အဆိုရှိလေသည်၊ လက်တန်းကဗျာ ဖွဲ့စပ်ရွတ်ဆိုနိုင်သူဖြစ်လေသည်။

ဦးကျော်လှသည် ၁၂၈၁-ခုနှစ် ဝါခေါင်လဆန်း ၅-ရက်နေ့တွင် ကွယ်လွန်လေသည်၊ ဦးကျော်လှ ရေးသားခဲ့သော စာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ စုတ်ဥပါဒ်လင်္ကာ။ ၂။ ဘဝေါသံချိနှင့်အခြား သံချိများ။

၃။ မောင်းထောင်ပညာရှိများဘွဲ့သံချိ။

---

## ၆၁။ မဟာမင်းလှသင်္ခယာ (လှေသင်းအတွင်းဝန်)

### (၁၂၀၅-၁၂၇၄)

လှေသင်းအတွင်းဝန်ကို ၁၂၀၅-ခုနှစ် သီတင်းကျွတ်လဆန်း ၆-ရက်နေ့တွင်ပြည်လုံးအုံ့လျော်ကားတော်ထောင်ကဲကြီးဗညားဆိမ့်ကြီးရွာစားမဟာမင်းလှမင်းထင်နှင့်ထောင်ကဲကတော်တို့မှစစ်ကိုင်းမြို့ဝါးချက်ရွာတွင်ဖွားမြင်သည်၊ ငယ်စဉ်က အမရပုရမြို့ဗားကရာတိုက်တွင် စာပေသင်ကြားပြီး ၁၅-နှစ်အရွယ်တွင် မင်းတုန်းမင်းတရားထံ၌ လက်ဖက်ရည်တော် အမှုထမ်းအဖြစ် ထမ်းရွက်ရသည်၊ ၁၇-နှစ် အရွယ်တွင် လှေသင်းဝန်ကြီး၏စာရေးအဖြစ် မင်းတပ်ဘွဲ့နှင့်ထမ်းရွက်ရသည့်ပြင် ပယ်ငါးဆယ်ရွာ ဝေါရွှေတိန်ညင်းခတ် လှေတော် လှေအုပ်အဖြစ် ခန့်ထားခြင်းခံရသည်၊ အသက် ၂၀-တွင်ဖောင်ဝန်ရာထူးရ၍ မြင်ကွန်းမင်းသားအရေးတွင် သက်စွန့်ကြိုးပမ်းအမှုတော်ကိုထမ်း၍ ပန်းတိမ်းမင်းသားကို လက်ရဖမ်းယူဆက်သ သဖြင့် မဟာမင်းလှသင်္ခယာဘွဲ့၊ မင်းသားကိုင် ပဒမြားပြောင်းဖူးတန်းစီ ဓားကို သနားတော်မြတ် ခံရသည်၊ အသက် ၂၃-နှစ်တွင် ရွှေဝင်းတော်မှူးအမြင့် မြို့စားသတိုးမင်းကြီးမဟာသမိန်ဖြတ်စက်သမီးမှန်နန်းအပျိုတော် နတ်မောက်မြို့စားနှင့်လက်ထပ်သည်။

အသက် ၂၄-နှစ်အရွယ်တွင်ဖခင်ကွယ်လွန်၍ ဖခင်၏ထောင်ကဲကြီးအရာကိုဆက်ခံရ၍ စစ်ကိုင်းမြို့ရှေးခွန်, ဝါးချက်ရွာရှေ့ကိုင်းမြေခွန်များကိုခံယူရသည်၊ ထိုနောက်မန္တလေးမြို့ကိုတည်ရာတွင် အနောက်မျက်နှာမြေမြို့ရိုးကိုတာဝန်ယူရစဉ် တာဝန်ကျေပြွန်ထူးချွန်သဖြင့် ဗောင်းကတ္တီ

ပါနီ, ရွှေသားကိုးပွင့်, စလွယ်ကိုးသွယ်တွင်တိုး၍ ရွှေသားပန်းဆယ့်နှစ်, တမာရွက်ထောင်ဆယ့်နှစ်, ရွှေစလွယ်ဆယ့်နှစ်တို့ကို သနားတော်မြတ်ခံရပြီး မင်းကြီးသီရိမဟာကျော်ထင်ဘွဲ့ကို ရရှိသည်။

သီပေါမင်းလက်ထက်တွင် ဖေါင်ဝန်,ရွှေမြို့တော်ဝန်ရာထူးနှင့်ပုခန်းငယ်မြို့ကိုစားရသည်၊ ၃၆-နှစ်တွင် စလေမြို့ကိုပါစားရ၍ ရေကြောင်းချုပ်အရာနှင့်၎င်း အသက် ၃၈-နှစ်တွင် စက်ရုံအလုပ်ရုံများကိုဆင့်ဆိုရသောအလုပ်ဌာနချုပ်အရာနှင့်၎င်းထမ်းရွက်ရသည်၊ အသက် ၄၁-နှစ်တွင်ရာဇဝတ်ဌာနချုပ်ရာထူးကို ဆက်ခံရပြန်၍ အတွင်းဝန်ကြီးအရာရလေသည်၊ လှေသင်းအတွင်းဝန်သည် ၁၂၇၄-ခုနှစ် သီတင်းကျွတ်လဆန်း ၉-ရက်နေ့တွင် ကွယ်လွန်လေသည်။

(ဤလှေသင်းဝန်ကား ကျမ်းပြုပုဂ္ဂိုလ်မဟုတ်ချေ၊ ဝေါဟာရလီနတ္ထဒီပနီကျမ်းပြုဆရာဘိုးတော်ဘုရားလက်ထက်လှေသင်းအတွင်းဝန်ဦးချိန် (၁၁၅၈-၁၂၁၇)နှင့်တဦးစီဖြစ်လေသည်။)

---

## ၆၂။ ဦးအုန်း

(၁၂၀၈-၁၂၉+)

ဦးအုန်းကို ရမည်းသင်းစီရင်စု နွားထိုးကြီးတိုက် အလယ်ကုန်းရွာ ဦးတုတ်ပေါ်-ဒေါ်ကူးတို့မှ ၁၂၀၈-ခုနှစ် တော်သလင်းလဆန်း ၈-ရက်နေ့တွင်ဖွားမြင်သည်၊ ငယ်စဉ်က အင်းကုန်းတိုက် ရှင်သုဒဿနထံတွင်စာပေသင်ကြား၍သာမဏေပြုသည်၊၁၂၂၇-ခုနှစ်တွင်မန္တလေးမြို့ မဏ္ဍလာရာမတိုက် ပြည်ဆရာတော်ထံတွင် ပညာသင်ကြား၍ ပထမကျော်အောင်မြင်တော်မူသည်၊ ထိုနောက်ပြည်ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ရဟန်းပြုသည်၊ ဘွဲ့တော်မှာ ရှင်အာဒိစ္စဖြစ်သည်၊ မဟာဇောတိကာရာမတိုက် စံကျောင်းဆရာတော်ထံ၌ ပညာဆက်လက် ဆည်းပူးသည်၊ ၁၂၄၈-ခုနှစ်တွင်လူဝတ်လဲလေသည်၊ ဆရာကြီးသည် အလွန်ထင်ရှားသောအဘိဓမ္မာတံခွန်ကျမ်းကိုပြုစုခဲ့လေသည်။

---

# ၆၃။ ဘိုးဝဇီရ
(၁၂၁၀-၁၂၉၈)

ဘိုးဝဇီရသည် ကုန်းဘောင်ခေတ်နောက်ပိုင်းတွင် ထင်ရှားသော စာဆိုတော်ကြီးတဦးဖြစ်၍ သတင်းစာဆရာအယ်ဒီတာကြီး တဦးလည်း ဖြစ်လေသည်။

သကရာဇ်၁၂၁၀-ခုနှစ် နှောင်းတန်ခူးလဆုတ် ၄-ရက် ဗုဒ္ဓဟူးနေ့တွင် အမရပူရမြို့ပုထိုးတော်ကြီးအနီး သရက်သုံးပင်ရွာ၌ ပုဂံမင်း၏ သေနတ်စာရေးကြီး မင်းလှရာဇာဘွဲ့ခံ ဦးထွန်း-ဒေါ်ခိုတို့မှ ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်လွင်ဖြစ်လေသည်။

ငယ်စဉ်က မန္တလေးမြို့ခင်မကန်တိုက် ဦးဇာဂရထံတွင် စာပေသင်ကြားလျက်အသက် ၁၆-နှစ်အရွယ်တွင် သာမဏေဝတ်လေသည်၊ ဘွဲ့တော်မှာ ရှင်ဝဇီရဖြစ်လေသည်။

ထိုနောက် ဒက္ခိဏာရာမဘုရားကြီးတိုက်,စကုတိုက်, တောင်သမန်တိုက်,ငွေချိုတိုက်များတွင် ဆက်လက်ပညာဆည်းပူးရာစာပေပိဋကတ်ကျမ်းဂန်များကို တတ်ကျွမ်းပေါက်ရောက်လေသည်၊ အာဂုံကျက်မှတ်နိုင်စွမ်းလည်းရှိလေသည်၊အသက် ၂၆-နှစ် အရွယ်တွင် လူဝတ်လဲ၍ ဦးရီးတော်သော နံ့သာနန်း ခုံမင်း ဦးနှင်း၏ ခေါင်ဆောင်ချက်အရ အောက်နယ်မြို့ရွာများသို့ရှေ့ပတ်စာရေးအဖြစ်ဖြင့် လိုက်ပါခဲ့လေသည်။

ထိုနောက် ကင်းဝန်မင်းကြီး၏အကူအညီဖြင့် ရတနာပုံသတင်းစာတွင် စာရေးတော်အဖြစ် ဆောင်ရွက်ရလေသည်၊ ကင်းဝန်မင်းကြီးက မောင်ထင်ဟုအမည်ဖွဲ့သစ်ပေးလေသည်၊ သို့ရာတွင် မောင်ဝဇီရ, ဦးဝဇီရ, ဘိုးဝဇီရစသောအမည်များဖြင့်သာထင်ရှားလေသည်။

၁၂၄၀-ခုနှစ်တွင် နန်းတွင်းအရေးတော်ပုံအတွက် ရာထူးမှထွက်၍ ချမ်းစွာနေလေသည်၊ ထိုနောက် ဆားတောင်ရွာတွင် စာပေပို့ချနေလေသည်၊ အသက် ၃၆-နှစ်တွင်မှမထိန်း-ဆိုသူ အမျိုးသမီးတဦးနှင့် လက်ထပ်ရာ မောင်ကျင့်, မောင်မြင့်နှင့် မကြီးဟူသော သားသမီး သုံးယောက်ရရှိလေသည်၊ ၁၂၉၈-ခုတပေါင်းလတွင် ကွယ်လွန်အနိစ္စရောက်လေသည်။

ဘိုးဝဇီရရေးသားပြုစုခဲ့သောစာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ မှာတမ်းများ။
၂။ လင်္ကာစကားပြေစပ် သတင်းစာကိုယ်များ။
၃။ ဘုရားသမိုင်းများ။
၄။ မေတ္တာစာများ။
၅။ သံချို။
၆။ ဗေဒင်အဟောတေးတပ်များ။
၇။ မော်ကွန်းများ။
၈။ ရာသီဖွဲ့စာတမ်းများ။

## ၆၄။ ဦးရှင်ကလေး (နေမျိုးမင်းထင်ကျော်ခေါင်)

(၁၂၁၀-ခန့်)

နေမျိုးမင်းထင်ကျော်ခေါင်မှာ သီပေါမင်းလက်ထက်တွင် အမှာတော်ရေးအရာဖြင့် ထမ်းရွက်ရသော ပညာရှိတဦးဖြစ်၍ ငယ်မည်မှာ မောင်ရှင်ကလေးဖြစ်လေသည်၊ မင်းတုန်းမင်းလက်ထက်တွင် နေမျိုးမင်းထင်ကျော်ခေါင်ဘွဲ့ရလေသည်။

အမှာတော်ရေးမင်း ရေးသာပြုစုခဲ့သောစာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ သုတမဥ္ဇူဆုမ္ဗစာ။
၂။ လောကနီတိပျို့။
၃။ ရာဇဝင်ညွန့်။(၁၂၄၅)
၄။ အဒ္ဓစန္ဒာသတ်ပုံ။
၅။ အဓိရောဂစာပုံပြင်။

## ၆၅။ ဦးအောင်

(၁၂၁၀-ခန့်)

ဦးအောင်မှာ သတိုးမင်းကြီး မင်းရဲရာဇာ၏ မြေးဖြစ်၍ ထီးလှိုင်မြို့စားမင်းသား အုပ်မင်းကြီး မင်းလှ မဟာဥစ္စနာဘွဲ့ခံ ဦးပေါ်ထင်၏ သားဖြစ်၍ငယ်မည်မှာ မောင်အောင်ဖြစ်လေသည်၊ အရွယ်ရောက်သော် ရဟန်းပြု၍ ရှင်ဇာနိန္ဒာစရိယဘွဲ့ခံယူလေသည်၊ ထိုနောက်အလုံမြို့အရှေ့ဖက် မလဲသာရွာအနီး တောရဆောက်တည်သော ဝိစိတ္တာဘိလင်္ကာရ ကဝိဓဇ အတုလာဓိပတိ ပိဋကဓရသီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ သံဘိုတောရဆရာတော်ကြီးထံတွင် ပညာသင်ကြား၍ မိုး

ကျောင်းဆရာတော် ရှင်နာဂိန္ဒ, ရန်ကုန်ဘုရားဖြူတိုက်အုပ် ဆရာတော် ရှင်နန္ဒိယာဘိဓဇ, မော်လမြိုင်ကမာကျည်ဆရာတော်, ကိုးဆောင်ဆရာတော်ရှင်သုနန္ဒာဘိဓဇတို့ထံ၌လည်းစာပေသင်ကြားဘူးလေသည်။

ဦးအောင်သည် မှတ်ဖွယ်ကျမ်းများကို ပြုစုခဲ့လေသည်၊ ထိုမှတပါး ယောအတွင်းဝန် မေးသောအမေးများကို ၁၂၃၁-ခုနှစ်တွင် မိမိဖခင် မင်းကြီးမင်းလှ မဟာဥစ္စနာဖြေဆိုခဲ့သည့်ကဝိဇ္ဇောပမ မဥ္ဇူသာကျမ်း ပ-ဒု-ကိုလည်း ဦးအောင်ပင် ကြီးကြပ်ရိုက်နှိပ်ခဲ့လေသည်။ (မင်းလှ မဟာဥစ္စနာ၏ဆရာတို့ကား ခင်မကန်ဆရာတော်ရှင် မဏိဇောတ,ဒက္ခိဏာရာမ ဆရာတော် ရှင်ဇာဂရတို့တည်း။)ရေးသား ပြုစုခဲ့သောစာပေများတွင် အောက်ပါစာပေများလည်းပါဝင်လေသည်။

၁။ ကဝိသာရမဥ္ဇူသာ(အယူတော်မင်္ဂလာလျှောက်ထုံး။) (၁၂၇၁)

၂။ ကဝိသေနင်္ဂဗျူဟာကျမ်း၊ (ခုံတော်မောင်ကျာဘမ်း) (၁၂၇၃)

၃။ ကဝိသေတ္တုမဥ္ဇူသာ(ဦးပေါ်ဦးလျှောက်ထုံး)ပ-*ဒု၊(၁၂၆၉၊ ၁၂၇၄)

၄။ ဥပမာသမူဟ ဝစနက္ကမ။ (သင်္ဇာစကားပုံစသည်)

---

## ၆၆။ ဦးအောင်ကြီး(အဝေးရောက်မင်း)

(၁၂၁၅-ခန့်)

ဦးအောင်ကြီးမှာ အဝေးရောက်မင်းဟုထင်ရှားသော စာဆိုပညာရှင်တဦးဖြစ်လေသည်၊ဦးအောင်ကြီးကို ၁၂၁၅-ခုနှစ်နတ်တော်လဆုပ် ၁၀-ရက်နေ့တွင် ရွှေဘိုမြို့အနီး စကု,စလင်း,ကျပင်း,လယ်ကိုင်း ၄-မြို့ ဆိုင်ရာ စာရေးကြီးဦးမှတ်-ဒေါ်စမွယ်တို့မှဖွားမြင်လေသည်။

ငယ်စဉ်က အမရပူရ မင်းတဲကျောင်းတိုက် ရွှေပြည်ဆရာတော် ဦးပညာထံတွင် စာပေသင်ကြား၍ သာမဏေ ဝတ်လေသည်၊ထိုနောက် ရှင်လူထွက်သော် လွှတ်တော်စာရေးကြီးဦးမှုံထံတွင်စာပေဆက်လက်သင်ကြားပြီးလျှင် ကင်းဝန်မင်းကြီး(ဝန်ထောက်ဘဝ)ကခေါ်ယူ

---

* ဒုတိယတွဲကို—ဥပမာသမူဟာဂီရက္ခမ ကျမ်းဆရာ ဆရာသိန်းရေးသည်ဟုလည်း မှတ်ယူကြသည်၊

၍စာပေလေ့လာစေလေသည်၊ ထိုနောက်နာခံတော်ပြေ့ကြီးမှူး ဦးဘိုးထံတွင်ဆက်လက်ပညာသင်ကြားနေစဉ် မင်းတုန်းမင်းကြီး၏ စာတော်ဖတ်အဖြစ် ခန့်အပ်ခြင်းခံရလေသည်၊ ထိုနောက် သီပေါမင်းနန်းတက်ပြီးတနှစ်အကြာတွင် အဝေးရောက် မင်းအဖြစ်ခန့်ထားခြင်းခံရပြန်လေသည်။

ဗြိတိသျှလက်ထက်တွင် ရွှေဘိုမြို့တွင်နေထိုင်လေသည်၊အဝေးရောက်မင်းသည်ဗဟုသုတများ၍ ရှေးသီချင်း, ကဗျာ, ရတု,အဲအန် တို့ကိုကျနစွာသိဆိုနိုင်လေသည်၊ ကဗျာလင်္ကာအချို့နှင့် မဲဇာတောင်ခြေရတုရှင်းတမ်းများကို ရေးသားခဲ့လေသည်။

---

## ၆၇။ ဆတိုင်မှတ်ဦးကူး

(၁၂၁+–၁၂++)

ဦးကူးကား ပြဇာတ်နှင့်ကာရန်နဘေအရာ၌ ထူးချွန်ထင်ရှားသောစာဆိုတော်တဦးဖြစ်သည်၊ ဦးကူးသည် ဟံသာဝတီခရိုင်တွံတေးမြို့နယ်ကွမ်းခြံကုန်းတောင်ပိုင်း မုတ်ကျွန်းရှိ ဆတိုင်မှတ်ရွာတွင်နေ၍ ဆတိုင်မှတ် ဦးကူးဟူ၍ ထင်ရှားလေသည်။

ဦးကူးသည် ရန်ကုန်မြို့ပုဇွန်တောင်တပ်မြေသို့ ပြောင်းရွှေ့နေထိုင်ကာ မြန်မာသံတော်ဆင့် သတင်းစာတိုက်တွင် သတင်းစာဆရာအဖြစ် လုပ်ကိုင်လျက် ပြဇာတ်ကဗျာများကို ရေးသားလေသည်၊ ဦးကူးပြုစုခဲ့သောစာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ လူဝံမောင်နှမပြဇာတ် ၃-တွဲ (၁၂၃၇) ၂။ ပဒုမာစာရီပြဇာတ်။
၃။ ငွေမျိုးဖြူမယ်ထွေးပြဇာတ်။ ၄။ ဘူရိဒတ်ပြဇာတ်။
၅။ ဝေဿန္တရာပြဇာတ် (၁၂၆၀) ၆။ ဗုဒ္ဓဝင်ပြဇာတ်။
၇။ ဥက္ကလာပရာဇဝင်ပြဇာတ်။ ၈။ မဟော်ပြဇာတ်။
၉။ ပုံတော်ရာမပြဇာတ်။ ၁၀။ ဦးပုညရေးသည် ပြဇာတ် ဇာတ်ချင်းများ။

၁၁။ ကာကဝလိယပြဇာတ်။ ၁၂။ မင်းနန္ဒာမယ်မွေ့လွန်း ပြဇာတ်။

၁၃။ ကျောက်ရောဂါဆေးကျမ်း။

(ဦးကုးသည် ယာတင်တာယီဝတ္ထုကို စကားပြေ ချောမွေ့အောင် စီစစ်မွမ်းမံပေးခဲ့၏။)

---

## ၆၈။ ဦးတင် (ပုဂံဝန်ထောက်)

(၁၂၂၃–၁၂၉၅)

ပုဂံဝန်ထောက်မင်းဟု ထင်ရှားသော ဦးတင်ကို ၁၂၂၃-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၁၄-ရက် စနေနေ့တွင် မန္တလေးမြို့၌ အသုံးစာရေးဝမ်းတွင်းငါးမြို့ဝန် မဟာမင်းလှသင့်ယာဘွဲ့ခံဦးမောင်၊ တောင်အင်းတိုက်စား မဟာမင်းခေါင်ရာဇာ ဦးဘဲ၏သမီး ဒေါ်စောတို့မှ ဖွားမြင်သည်၊ ငယ်မည်မှာ မောင်မောင်တင်ဖြစ်၏။

ငယ်စဉ်ကအမရပူရမြို့ ဘုံကျော်တိုက်တွင် သာမဏေပြု၍ စာပေသင်ကြားလေသည်၊ ဘွဲ့တော်မှာ ရှင်နိမလဖြစ်၏၊ အသက် ၁၃-နှစ်တွင် ကင်းဝန်မင်းကြီး၏ အင္ဂလန်ဒေသခံပမွေ့သတ်လက်ာ ၇၂-ပုဒ်ကို အာဂုံဆောင်နိုင်၍ ကင်းဝန်မင်းကြီးက ချီးကျူးလေသည်၊ ၁၅-နှစ်အရွယ်တွင် ရှင်လူထွက်၍ ရွှေတိုက်အတွင်းဝန် တောင်ခွင်မြို့စား မင်းလက်အောက်တွင် အမှုထမ်း၍ အခွန်ရုံး ဗြိတိုက်တော်, လွှတ်တော်များတွင် အသက် ၂၃-နှစ်အထိ စာရေးတော်အရာနှင့် ထမ်းရွက်ရာ နေ်ရထာကျော်ထင်ဘွဲ့ကို ရရှိလေသည်။

ဗြိတိသျှလက်ထက်တွင် မန္တလေးလွှတ်တော်၌ ထမ်းရွက်ပြီး၊ အတွင်းဝန်ရုံး စာတော်ပြန်ဌာနနှင့် ကျောက်စာဌာနတို့တွင် ထမ်းရွက်လေသည်၊ ထိုနောက် ၁၂၅၇-ခုနှစ်တွင် ပုဂံနယ် မြို့အုပ်ရာထူးကို ရရှိပြီး အမှုထမ်းကောင်းတံဆိပ် (အေတီအမ်)ရရှိလေသည်၊ ၄၆-နှစ်အရွယ်တွင် အမြဲတမ်းနယ်ပိုင်ဝန်ထောက်ဖြစ်၍ ၄၉-နှစ်တွင် နယူးဒေလီမြို့၌ ရှောဘုရင်ထံခစားရာ ငွေဘယက်တံဆိပ် ရရှိလေသည်၊ အသက် ၅၂-နှစ်တွင်ကျက်သရေဆောင်ရွှေစလွယ်ရမင်း(ကေ-အက်-အမ်) ဘွဲ့တံဆိပ်ရရှိပြီး အသက် ၆၀-တွင် အငြိမ်းစားခံယူလေသည်၊ ၁၂၉၄-ခုနှစ်တွင် မဟာဝိဇ္ဇာဘွဲ့ချီးမြှင့်ခြင်း ခံရပြန်လေသည်။

ဦးတင်သည် ၁၂၈၅-ခုနှစ် ဝါခေါင်လဆုတ် ၈-ရက်တနင်္ဂနွေနေ့တွင် ကွယ်လွန်ရာ ပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ကဗျာဗန္ဓသာရကျမ်း။
၂။ ကတညုတကတဝေဒီ စာတမ်း။(စုဆောင်း)
၃။ တော်စိန်ခိုအတ္ထုပ္ပတ္တိ။
၄။ ကလျာဏီ ကျောက် စာ အတ္ထုပ္ပတ္တိ။
၅။ ခွဲထားကျော်။
၆။ ဂျုနှင့်ပုထိုးခွဲခြားပုံ။
၇။ ငါးရာ့ငါးဆယ်ဇာတ် အတိုကောက်။
၈။ စတုရာရက္ခစံပြကျမ်း။
၉။ စာစစ်ဆေးနည်း။
၁၀။ တောပု ရှင်ဥက္ကံသမာလာ မေတ္တာစာအဖွင့်။
၁၁။ ဓမ္မဝါဒီစာတမ်း။
၁၂။ နန်းသုံး နိဗ္ဗာန်ကမ္ဗည္ဗာန်း။
၁၃။ ဒေလီသွားကဗျာ။
၁၄။ နတ်စာတမ်း။
၁၅။ ပသင်္ဂဝိသောဓနီ။
၁၆။ ပေါတကောဝါဒ ဆုံးမစာ။
၁၇။ ပုဂံအတ္ထုပ္ပတ္တိအကျယ်။
၁၈။ မြန်မာနှင့် နိုင်ငံခြား ဆက်ဆံပုံ။
၁၉။ မြန်မာမင်းအုပ်ချုပ်ပုံနှင့် ဘိုးတော်ဘုရားကြီး၏ အမိန့်တော်ပြန်တမ်း။
၂၀။ မြန်မာနိုင်ငံ အဆောက်အဦ ၄၈-ခု အကြောင်း။
၂၁။ အောက်မြန်မာပြည်ရှိ ဘုရားများ,ပုဂံနယ်ရှိ ဘုရားများ။
၂၂။ ဝတ္ထုကံမြေစာတမ်း။
၂၃။ ပန်းတမော့စာတမ်း။
၂၄။ မြင်းခြံနယ် ရွာများသမိုင်း။
၂၅။ ဘုန်းတော်မေဃီကွန်း။
၂၆။ မြန်မာစာ အသက်ဆက်စာတမ်း။
၂၇။ မြန်မာမင်း အင်္ဂလိပ်မင်း အုပ်စိုးပုံနှိုင်းယှဉ်ချက်။
၂၈။ ရွှေဘို ဒိုင်းတော်ကြီး ဒိုင်းတော်ကလေးစာတမ်း။
၂၉။ လွှတ်တော်အတ္ထုပ္ပတ္တိနှင့် မဟာဆွေတော်စာရင်း။
၃၀။ ရွှေစတီဂုံ ဝတ္ထု ကံမြေ အကြောင်း။

၃၁။ သံဃာဂိုဏ်းကွဲပုံ။ ၃၂။ သေလက္ခရစာတမ်း။
၃၃။ ဝိဝါဒမင်္ဂလာစာတမ်း။ ၃၄။ သန့်စင်ပန်းမေတ္တာစာ။
၃၅။ ဝေါဟာရပြင်မှုဂရုပြုရန် စာတမ်း။ ၃၆။ လွှတ်တော် အမှတ်အသား အဖြေ။
၃၇။ သမဝါဒီ,သစ္စဝါဒီ စာတမ်း။ ၃၈။ ဘိုးဘပိုင်စာတမ်း။
၃၉။ သံချက်နည်း။ ၄၀။ ယွန်းထည်လုပ်နည်း။
၄၁။ ဝိဇ္ဇာအမျိုးမျိုးလက်ာ။ ၄၂။ အဇ္ဇကောဝါဒ။
၄၃။ အင်္ဂလိပ်မင်းတက်စမြန်မာမင်း မိဖုရားစာရင်း။ ၄၄။ အရာတော်မြေစာတမ်း။
၄၅။ အာနာပါနမော်ကွန်း။ ၄၆။ အသဒ်တနိဗ္ဗာန်။
၄၇။ တရားမှန်မော်ကွန်း။

---

## ၆၉။ ဦးဘိုးဖြူ

(၁၂၂၃-၁၂၈၈)

ဦးဘိုးဖြူကို ၁၂၂၃-ခုနှစ် ဒုတိယဝါဆိုလပြည့်နေ့တွင် ရန်ကုန်မြို့ စစ်ကဲမောင်ထော်လေးလမ်း- ဝန်စာရေးကြီး ဦးအိုနှင့် ဒေါ်မိုးတို့မှ ဖွားမြင်သည်၊ ပဌမမြောက်သားပင်ဖြစ်သည်၊ ငယ်မည်မှာ မောင်ဖိုးဖြူ ဖြစ်သည်၊ ငယ်စဉ်က ကြောင်တရာတန်း (၁၄-လမ်း) ဆရာဖဲကျောင်း တွင်ပညာသင်ကြား၍ အင်္ဂလိပ်မြန်မာ နှစ်ဘာသာသင်ကျောင်းနှင့် ကောလိပ်သပ္ပံတို့တွင် ဆက်လက်သင်ကြားသည်၊ စာပေ အစုအဆောင်း အမှတ်အသားများလေသည်၊ ၁၂၄၈-ခုနှစ်တွင် အတွင်းဝန်ရုံး၌ အစိုးရစာတော်ပြန် မြို့အုပ်အဖြစ် ထမ်းရွက်လေသည်၊ ၄၅-နှစ်ဘိုင် အစိုးရအမှုထမ်းအဖြစ် ဆောင်ရွက်သည်၊ ဦးဘိုးဖြူသည် ပထမဆုံး ဝိုင်အမ်ဘီအေအသင်းသားဖြစ်၍ မြန်မာစာညွန့်ပေါင်းကျမ်း ထုတ်ဝေ ရေးအသင်း၌ ဒုတိယဥက္ကဋ္ဌဖြစ်ပြီး၊ မြန်မာနိုင်ငံသုတေသနအသင်းဝင် တဦးလည်းဖြစ်လေသည်၊၁၂၈၈-ပြည့်နှစ်တွင်အငြိမ်းစားယူလေသည်၊

ဦးဘိုးဖြူပြုစုခဲ့သော ကျမ်းများတွင် အောက်ပါ ကျမ်းများပါဝင် လေသည်။

၁။ လောကုပ္ပတ္တိပကာသနီကျမ်း။ (၁၂၈၈)

၂။ ဗုဒ္ဓပဋ္ဌာန်ပကာသနီကျမ်း။ (၁၂၈၇)
၃။ လောကသာရပျို့အဖြေ။ (၁၂၅၇)
၄။ မဲဇာတောင်ခြေရတု-အင်္ဂလိပ်ဘာသာပြန်။
၅။ ရှင်ဥတ္တမကျော်တောလား-အင်္ဂလိပ်ဘာသာပြန်။
၆။ အိန္ဒိယပဋိညာဉ်အက်ဥပဒေအမေး,အဖြေ။ (၁၂၅၅)
၇။ ဦးပုညဝတ္ထုနှင့် မဃိရတနာပုံကောက်နုတ်ချက်။
၈။ ကန်တော်မင်းကျောင်းမေတ္တာစာ။ (တည်းပြတ်သည်။)

---

## ၇၀။ ဆရာသိန်း (မော်ဝိ)

(၁၂၂၃–၁၃၁၄)

မော်ဝိဆရာသိန်းမှာ ထင်ရှားသော မြန်မာပညာရှိ ကျမ်းပြုပုဂ္ဂိုလ် တဦးဖြစ်လေသည်၊ ဆရာသိန်းကို ၁၂၂၃-ခု နှောင်းတန်ခူးလဆန်း ၂-ရက်၊တနင်းလာနေ့တွင် မော်ဝိမြို့အပိုင် မင်းရွာ-ဦးရွှေကြူ-ဒေါ်ငွေ တို့မှ ဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်ဖိုးသိန်းဖြစ်လေသည်။

ငယ်စဉ်က ဆရာတော်ဦးဝဏ္ဏထံတွင် စာပေသင်ကြားတတ်မြောက် ၍ ၁၉-နှစ်အရွယ်မှစပြီး ၃၆-နှစ်ရွယ်အထိ ဟံသာဝတီ ကြေးတိုင်ရုံး၌ ၎င်း, မော်ဝိမြို့အုပ်ရုံးတွင်၎င်း, ကွမ်းခြံကုန်းမြို့အုပ်ရုံး၌၎င်း, စာရေး အဖြစ်လုပ်ကိုင်ခဲ့လေသည်၊ အသက် ၃၀-အရွယ်ကပင် ပေါရာဏ- ဒီပနီကျမ်းကို ပြုစုရေးသားလေသည်။

၁၂၅၈-ခုနှစ်တွင် အလုပ်မှထွက်၍ ရဟိုင်း, ဇင်းမယ်, လကွန်း, စသော ယိုးဒယားနယ်များသို့ လှည့်လည်၍ ဒေသန္တရဗဟုသုတရှာမှီး လေသည်၊ ထိုနောက် ၁၂၅၉-ခုနှစ်တွင် ရန်ကုန်မြို့ဟံသာဝတီသတင်း စာတိုက်၌ စာရေးအဖြစ်လုပ်ကိုင်ပြီး ၁၂၆၀-ပြည့်နှစ်တွင် ကမ္ဘည်း ကျောက်စာရုံး၌ ကျောက်စာများကို လေ့လာ သင်ကြား လေသည်၊ ၁၂၆၁-ခုနှစ်တွင် ပျဉ်းမနားမြို့၌ လွှစက်တည်ရန်သူဌေးကိုယ်စားလှယ် အဖြစ်သွားရောက်ပြီး၁၂၆၂-ခုနှစ်မှစ၍ဇာတ်လမ်း,ဇာတ်ထုပ်,သီချင်း ကဗျာရေးသားခြင်းပြုလေသည်၊ ၁၂၆၃-ခုနှစ်တွင် တနိုင်ငံလုံးအနှံ့

အပြားလှည့်လည်၍ ဗဟုသုတရှာမှီး၍ ၁၂၆၄-ခုနှစ်တွင် မဟာဗောဓိ သတင်းစာ၌ စာရေးအဖြစ်လုပ်ကိုင်လေသည်။

ထိုနောက်တွင် ရန်ကုန်မြို့ရောဝတီ စာပုံနှိပ်တိုက်တွင် တိုက်အုပ် အဖြစ်ဆောင်ရွက်၍ ဝေါဟာရတ္ထ ပကာသနီစသော ကျမ်းများကို တည်းဖြတ်ရိုက်နှိပ်ရလေသည်၊ ဆရာသိန်းသည် မြန်မာသုတေသန အသင်းတွင်လည်းအသင်းသားတဦးအဖြစ်ပါဝင်လေသည်၊ဆရာသိန်း သည်မြန်မာနိုင်ငံ အရပ်ရပ်သို့ရောက်ရှိဘူး၍ ရှေးမှီပညာရှင်များဖြစ်သော ညောင်ပင်သာ ဦးပုည, အမှာတော်ရေးမင်း, လယ်ဝန်သံတော်ဆင့် ဦးထွန်းအောင်, စာတော်ဖတ်မင်း ဦးအုံ, အုတ်ဝန်ဦးဗိုလ်ကြီး, တောင် တွင်းခရိုင်ဝန်မင်း ဦးအိမ်စသော ပုဂ္ဂိုလ်များထံတွင် ပညာဆည်းပူးခွင့် ရခဲ့လေသည်။

ဆရာသိန်းသည် ၁၃၁၄-ခု ဝါဆိုလဆန်း ၄-ရက် ဗုဒ္ဓဟူးနေ့ (၁-၁-၄၂) တွင် ကွယ်လွန်ရာ ပြုစုခဲ့သောကျမ်းများတွင် အောက်ပါ ကျမ်းများပါဝင်လေသည်။

၁။ နတ်လမ်းညွှန်။
၂။ ပေါရာဏ ဒီပနီ၊ ပဌမတွဲ, ဒုတိယတွဲ။
၃။ ဒွန်းစဏ္ဍားနှင့်မင်းသမီး ညားပုံ-ဝတ္ထု။
၄။ ပစ်ရာဇဝင်၊ပဌမတွဲ, ဒုတိယတွဲ။
၅။ ဗျိုင်းနားမင်္ဂလာ။
၆။ ရှေးဖြစ်စာတမ်း။
၇။ အရှုံးလွယ်အိတ်၊ပဌမတွဲ, ဒုတိယတွဲ။
၈။ ဟင်္သာလေးအိုး။
၉။ နှောင်းဖြစ်စာတမ်း။
၁၀။ ဂီတာလင်္ကာရ။
၁၁။ မြန်မာပညာယှိကြီးများအကြောင်း။
၁၂။ မြန်မာဝန်ကြီးမှူးကြီးများ။
၁၃။ တောသူမ လင်ပျောက်ရှာပုံ။
၁၄။ တောသား မယားပျောက်ရှာပုံ။
၁၅။ ကဗျာဆောင်းပါးများ။

# ၇၁။ တော်စိန်ခို

(၁၂၂၆–၁၂၉၂)

တော်စိန်ခိုကို ၁၂၂၆–ခု နတ်တော်လဆန်း ၉–ရက် (၇–၁၂–၁၈၆၄)နေ့တွင် မော်လမြိုင်မြို့ ရွှေတောင်ရပ်တွင် ဖွားမြင်သည်၊မိခင်, ဖခင်တို့မှာ တရုပ်မဟာနွယ်တော်ဂုတ္တအနွယ်ဝင် တော်စိန်စွန်း–ဒေါ်နုတို့မှ ဖွားမြင်သည်၊ ၁၂၂၈–ခုနှစ်တွင် မိဘများသည် မန္တလေးမြို့သို့ ပြောင်းရွှေ့ကြ၍ တော်စိန်ခိုအား ပြည်မြို့တွင် ပညာသင်ကြားစေသည်၊ ထိုနောက် နေပြည်တော်ဆရာမှတ်ကျောင်းတွင် ပညာဆက်လက် သင်ကြားသည်၊ ဉာဏ်ပညာထက်မြက် ထူးချွန်သည်၊ ၁၂၃၇–ခု နှစ်တွင် ဖခင် ကွယ်လွန်သဖြင့် ပြည်မြို့သို့ပြောင်းရွှေ့နေထိုင်သည်၊ အလယ်တန်းစာမေးပွဲကို ထူးချွန်စွာအောင်မြင်ပြီးနောက် ရန်ကုန်မြို့တွင် မက်ထရစ်ကူလေးရှင်း စာမေးပွဲကို အမှတ်အများဆုံးဖြင့် အောင်မြင် ပြန်လေသည်၊ အစိုးရ၏ထောက်ပံ့မှုဖြင့် အက်ဖအေ စာမေးပွဲကို ပဌမဆုံး ပဌမဂုဏ်ထူးဖြင့် အောင်မြင်လေသည်။

တော်စိန်ခိုသည် နောက်သော် ကျောက်စာဝန် ဖြစ်လာသည်၊ ပါဠိဆရာကြီး ဖေါချမာ၏ တပည့်ရင်းဖြစ်သည်၊ ရှေးဦးစွာ ကျောင်းဆရာအဖြစ် အမှုထမ်းရာမှ စာတော်ပြန်မြို့အုပ် ခန့်ထားခြင်းခံရသည်၊ ဗြိတိသျှတို့ အထက်မြန်မာနိုင်ငံကို သိမ်းပိုက်သောအခါ မန္တလေးလွှတ်တော်၌ စာတော်ပြန် ဝန်ထောက် ဖြစ်လာသည်၊ မြန်မာ ဗြိတိုက်တော် အရာရှိ သံတော်ဆင့်ဟောင်း ဦးမွေတောင် ထံတွင်လည်း မြန်မာ စာပေများကို ဆည်းပူးသည်၊ ထိုနောက် အင်္ဂလန်ပြည်တွင် ပညာဆက်လက် သင်ကြား၍ ၁၂၅၅–ခု နှစ်တွင် ဒုတိယအတွင်းဝန် ဖြစ်လာ လေသည်၊ ၁၂၅၉–ခုနှစ်တွင် တရုပ်ပြည်သို့ သွားရောက်၍ တရုပ်စာကို သင်ကြားပြန်သည်၊ ထိုနောက်တွင် စာတော်ပြန်အဖြစ်ဂင်း,ကျောက်စာဝန်အဖြစ်ဂင်း, တရုပ်ရေးရာ အတိုင်ပင်ခံ အဖြစ်ဂင်း ဆောင်ရွက်ရ လေသည်၊ တော်စိန်ခိုသည် ၁၂၆၁–ခုနှစ်တွင် ကျောက်စာဝန် အလုပ်နှင့် တရုပ်နယ်ခြားဝန် အလုပ်များကို ပူးတွဲဆောင်ရွက် ရလေသည်၊ ဗြိတိသျှအစိုးရ၏–ကေအိုင်အိပ်ဘွဲ့,အိုင်အက်အိုဘွဲ့, အိန္ဒိယမဟာရဋ္ဌသဟာယ–စီအိုင်အီးဘွဲ့များကိုလည်း ရရှိသည်။

တော်စိန်ခိုသည် မြန်မာစာ, တရုပ်စာ, ရှမ်းစာ, အင်္ဂလိပ်စာများ အပြင် ပါဠိနှင့် သက္ကတကိုလည်း လေ့လာခဲ့လေသည်၊ ၁၂၉၂-ခုနှစ် (၂၉-၅-၃၀)တွင် ကွယ်လွန်လေသည်။

တော်စိန်ခိုသည် မြန်မာ ဘာသာဖြင့် ကိုယ်တိုင် ကျမ်းမပြုစုသော်လည်း အင်္ဂလိပ်ဘာသာဖြင့်—

၁။ ပုဂံသုတေသနမှတ်စု။

၂။ မန္တလေးသုတေသနမှတ်စု။

၃။ မဟာ ဇနက ဇာတ်တော် ဘာသာပြန်။

၄။ မြန်မာဘာသာသင်လက်စွဲ။

၅။ ကလျာဏီ ကျောက် စာ ဘာသာပြန်။

၆။ ရာမည ဒေသ ခရီးလှည့် မှတ်တမ်း။

၇။ အမရပူရစံကျောင်းတော်။

၈။ မြန်မာနိုင်ငံသရုပ်ဖော်။

စသည်တို့ကိုပြုစုခဲ့လေသည်၊ မြန်မာမင်းလွှတ်တော် အမှတ်အသားများကိုလည်း စုဆောင်း၍ မြန်မာဘာသာဖြင့် စီစင်ရိုက်နှိပ်ခဲ့လေသည်၊ တော်စိန်ခို၏ တောင်းပန်မေတ္တာရပ်ခံချက်ကြောင့် ကျော်အောင်စံထား ဆရာတော်၏ ဝေါဟာရတ္ထ ပကာသနီကို တောင်ဘီလူး ဆရာတော်ကြီးကြပ်သုတ်သင်၍ ရိုက်နှိပ်ခဲ့လေသည်။

---

## ၇၂။ ဆရာသင် (ဆင်ဖြူကျွန်း)

(၁၂၂×-၁၃၀၇)

ပြဇာတ်ဆရာ ဆင်ဖြူကျွန်းဆရာသင်ကို ဆင်ဖြူကျွန်းမြို့တွင် အဝယ်တော်ပဲ့နင်း မောင်စုနှင့် ဇနီး မိဖုရားဆံတော်ရှင်း မယ်ခွေးတို့မှ ဖွားမြင်သည်၊ ငယ်စဉ်က စာပေပရိယတ္တိသင်ကြားဆည်းပူး၍ လွှတ်စာရေးအဖြစ် ထမ်းဆောင်ခဲ့လေသည်၊ ယောအတွင်းဝန် ဦးဘိုးလှိုင်သည်ဆရာသင်၏ဆရာပင်ဖြစ်သည်၊သီပေါမင်းအရေးတော်ပုံတွင်အမည်မသိ ရန်သူများကဖမ်းဆီးပြီးနောက် မျက်လုံးကို ဖောက်ကြသဖြင့် မျက်စိကွယ်ရရှာလေသည်၊ ထိုနောက် အောက်မြန်မာနိုင်သို့ စုံဆင်းလာ၍ ခနဲ့ဖြူမြို့ ကျုံ့ယှဆရာ ဘုန်းတော်ကြီးထံတွင် နက္ခတ်ဗေဒင်ပညာများ သင်ကြားယင်း သီချင်းများ, ဇာတ်လမ်းများ, ကွက်စိတ်, ဇာတ်နိပါတ်တို့ကို ရေးသားလေသည်။

ထိုနောက် ရန်ကုန်မြို့သို့ရောက်ရှိလာ၍ ခင်ဆုံဆိုသူ အမျိုးသမီးတယောက်နှင့် အိမ်ထောင်ကျလေသည်၊ ဟင်္သာတမြို့သို့သွားရောက်၍ ရှပ်သေးထောင်ကာ အရပ်ရပ်သို့လှည့်လည်ပြသည်၊ ကျောက်တန်းနယ်သုံးခွမြို့သို့ရောက်သောအခါ ကျောင်းဆရာအဖြစ် နေထိုင်ပြန်ရာ ဒေါ်မြည္ဆိုသူ အမျိုးသမီးတဦးနှင့် အိမ်ထောင်ကျလေသည်၊ ထိုမှဓာဖန်ပဲခူးမြို့သို့ ပြောင်းရွှေ့နေထိုင်ပြီး ၁၂၆၉- ခုနှစ်တွင် သံလျင်အနီး ဗိုလ်ချုပ်ရွာတွင် စာသင်ကျောင်းတည်ထောင်လေသည်။

ဆရာသင်သည် ၁၃၀၇-ခုနှစ်တွင် ကွယ်လွန်ရာ ရေးသားခဲ့သော စာများတွင် အောက်ပါစာမူများ ပါဝင်လေသည်။

၁။ သုဝဏ္ဏသျှံဟောစာသစ် ပ-ဒု။
၂။ ဇနကဟောစာသစ်၊ ပ-ဒု။
၃။ ဗုဒ္ဓဝင်တောထွက်ခန်းဟောစာ။
၄။ ရှင်ဥပဂုတ်မဟာဝင်ပြောနည်း။
၅။ ဥတုဘောဇနအကောက်, ဥတုသာရကျမ်း။
၆။ ဗုဒ္ဓဝင်သံပေါက်ကျမ်း။
၇။ *စိန်ယင်းမာမင်းသမီးပြဇာတ်၊ (၁၂၄၄)
၈။ *ပန်းရွှေမြိုင်, နန်းကေခိုင်ပြဇာတ်၊ (၁၂၄၄)
၉။ *ဇနကမင်းသားပြဇာတ်၊ (၁၂၄၄)
၁၀။ *မောင်သုဝဏ်ပြဇာတ်၊ (၁၂၄၅)
၁၁။ *မောင်နန္ဒာ, ရှင်မွေးလွန်းပြဇာတ်(၁၂၄၅)
၁၂။ *ရခိုင်မောင်နှမပြဇာတ်၊ (၁၂၄၅)
၁၃။ *ရွှေဖျဉ်းညီနောင် နတ်ဖြစ်ခန်း, မယ်ဥကျားချီခန်း၊ ၂- တွဲ (၁၂၅၀)
၁၄။ *ဘီလူးဖြစ်နေဗိမာန်မင်းသားကြီးပြဇာတ်၊ (၁၂၅၀)
၁၅။ *သုဝဏ္ဏသျှံပြဇာတ်၊ (၁၂၅၄)
၁၆။ *သူရိယကုမ္မာနှင့် စန္ဒကုမ္မာပြဇာတ်၊ (၁၂၅၄)

* ပြဇာတ်ရေးသားသူဆင်ဖြူကျွန်းဆရာသင်ဟူ၍ အခြားတယောက်ရှိသေးကြောင်း၊ ၎င်းဆရာသင်မှာ လူအသတ်ခံရသော မြန်မာ့အလင်္ကာအယ်ဒီတာ ဆရာသင်ဟူ၍ရောထွေးမှတ်ယူကြသည်။

၁၇။ *ချင်းရွှေဖန်နှင့် မနန်းစိန်ပြဇာတ်(၁၂၅၉)
၁၈။ *ဥစ္စာစောင့်မောင်ရွှေအုပ်,မယ်ဖေါ့ပြဇာတ်(၁၂၅၉)
၁၉။ *တစ္ဆေကလေးမောင်ဖေဘပြဇာတ်(၁၂၅၉)
၂၀။ *နှင်းနွယ်သာဂရပြဇာတ်(၁၂၆၁)
၂၁။ *ကံဆိုးမောင်နမပြဇာတ်(၁၂၆၁)
၂၂။ *ပတ္တမြားသာတိမင်းကြီးပြဇာတ်(၁၂၆၁)

---

## ၇၃။ ဦးလတ်

(၁၂၂၈-၁၂၈၃)

ဦးလတ်မှာ ထင်ရှားသော ဝတ္ထုရေးဆရာကြီးတဦးဖြစ်၍ ၁၂၂၈-ခုနှစ်တွင် ရန်ကုန်မြို့ ၂၁-လမ်း ဘယဆေးတန်းတွင် ငွေပန်းထိမ် ဆရာကြီး ဦးမြတ်စံ-ဒေါ်ထွေးတို့မှဖွါးမြင်သော ဒုတိယ သားငယ်ဖြစ်လေသည်၊ ငယ်စဉ်ကပင် မြန်မာကဗျာ,လင်္ကာ,စာပေတို့ကို လေ့လာလိုက်စားခဲ့သူဖြစ်၍ ရာဇဝတ်ဝန်ထောက်ရာထူးနှင့် တောင်ငူ, ကသာ, ရွှေဘို စသောမြို့များ၌ အမှုထမ်းယင်း ဗဟုသုတဆည်းပူးခဲ့ပြန်လေသည်၊ ဦးလတ်သည် မြန်မာပင်ကိုယ်ဟန်ဖြင့် ကာလပေါ်ဝတ္ထုများရေးသားရာ၌ ထင်ရှားလေသည်။

ဦးလတ်သည် ၁၂၈၃-ခုနှစ် ကဆုန်လတွင် ညောင်လွန်မြို့၌ ကွယ်လွန်ရာ ရေးသားခဲ့သော ဝတ္ထုများတွင် အောက်ပါဝတ္ထုများ ပါဝင်လေသည်။

၁။ စပယ်ပင်။ ၂။ ရွှေပြည်စိုး။
၃။ တနန်းပျော်။ ၄။ ရင်သွေးတော်။
၅။ သုံးဘုံ။

---

## ၇၄။ ဦးကျော်ရန်

(၁၂၂၉-၁၂++)

ဦးကျော်ရန်ကို ၁၂၂၉-ခု ဝါခေါင်လပြည့်ကျော် ၅-ရက် တနင်းလာနေ့တွင်သာယာဝတီခရိုင် ခုနစ်ရွာမြို့၌ ရွှေတောင်ဆရာကြီးနှင့်ဇနီးတို့မှဖွားမြင်သည်၊ ငယ်စဉ်က ခုနစ်ရွာဘုန်းတော်ကြီး ဦးမာလာ

ထံတွင် စာပေသင်ကြားပြီးနောက် ၁၂၄၄-ခုနှစ်တွင် ရန်ကုန်မြို့ အစိုးရနော်မံကျောင်းမှ ဆရာဖြစ်အောင်လေသည်၊ ၁၂၅၅-ခုနှစ်အထိ ကျိုက်ထို, ရန်ကုန်, သုံးဆယ်, ရေကင်း, စစ်ကွင်း, ရွှေတောင်မြို့များတွင် အစိုးရ လက်ထောက်ဆရာအဖြစ်၎င်း, ထိုမှတဆင့် ဒုတိယပညာအုပ်, ပညာအုပ်ရာထူးများသို့တိုးတက်၍ မြိတ်, ထားဝယ်, မြင်းခြံ, မိုးကုပ်, မန္တလေးမြို့များတွင်၎င်း ဆောင်ရွက်လုပ်ကိုင်ခဲ့လေသည်။

၁၂၆၇-ခုနှစ်တွင် အငြိမ်းစားခံယူ၍ နေမျိုးဇမ္ဗူဘိသက္ကရာဇာဘွဲ့ခံ သမားတော်ဆရာပေါ်ကိုမှီလျက် လက်ဝါးတံဆိပ် ဆေးတိုက်ဖွင့်လှစ် လေသည်၊ မြင်းခြံမြို့တွင်ကလျာဏသင်္ဂဟအသင်းကြီးကိုတည်ထောင်၍ မိုးကုပ်မြို့၌ ရှင်အရဟံ ဗုဒ္ဓဘာသာကျောင်းကိုတည်ထောင်ခဲ့သည့်ပြင် ၁၂၆၅-ခုနှစ်တွင် မြန်မာ့ဟိတကာရီသတင်းစာကို တလနှစ်ကြိမ် ထုတ်ဝေခဲ့လေသည်၊ မန္တလေးမြို့တွင် ဗေဒင်ပညာရှိအဖွဲ့ဝင်အဖြစ်လည်း ဆောင်ရွက်ခဲ့၍ ၁၂၆၈-ခုနှစ်တွင် သူကောင်းပြု တရားသူကြီးအဖြစ် ခန့်အပ်ခြင်း ခံရလေသည်၊ ၁၂၇၂-ခုနှစ်တွင် အမှုထမ်းကောင်း တံဆိပ်ရမင်းဘွဲ့ကို ရရှိလေသည်၊ အသင်းအဖွဲ့ပေါင်းများစွာတွင် ဦးစီး ခေါင်းဆောင်အဖြစ် တင်မြှောက်ခြင်းခံရလေသည်၊ ဦးကျော်ရန်သည် ဝံသာနုအသင်းများပေါ်လာသောအခါ ရာထူးဘွဲ့ထူးများကို ဗြိတိသျှ အစိုးရအားပြန်၍ ပေးအပ်ခဲ့လေသည်။

ဦးကျော်ရန် ကွယ်လွန်သောနှစ်ကိုကား မသိရချေ၊ ပြုစုခဲ့သော ကျမ်းများတွင် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ လထပ်ရက်ငင်အကျဉ်း တွက်ပုံကျမ်း။
၂။ ဆေးနည်းတိုလားကျမ်း။
၃။ စကားပုံ ၁၀၀၀-ကျမ်း။
၄။ မှတ်ကြီး ၁၀၈-လုံး။
၅။ မူလပေါ်ရာဏဒီပနီ။
၆။ ဥက္ကာဥကြတ်စာတမ်း။
၇။ မြင်းလက္ခဏာကျမ်း။

---

## ၇၅။ ဆရာပွား

(၁၂၃၃-၁၃၁၂)

ဆရာပွားမှာ မြန်မာစာပေလောကတွင် ထင်ရှားသော ပညာရှင် ပုဂ္ဂိုလ်တယောက်ဖြစ်လေသည်၊ ဆရာပွားကို ၁၂၃၃-နှစ် ဝါခေါင်

လဆန်း ၆-ရက် စနေနေ့တွင် ရမည်းသင်းခရိုင် ရွာတန်းရွာ ဦးကျူး-ဒေါ်စံငြိမ်းတို့မှ ဖွားမြင်လေသည့် သားချင်း ၆-ယောက်အနက် အထွေးဆုံးဖြစ်လေသည်။

ငယ်စဉ်က ရွာတန်းပင် ကျောင်းဆရာတော် ဦးသာသနထံတွင် ပညာသင်ကြားပြီးနောက် ထိန်ကန်ဆရာတော်အရှင်စက္ကိန္ဒ, အုတ်ဖို ဦးဝိသုဒ္ဓ,မန္တလေးငွေချိုတိုက်အရှင်စာရိတ္တာဘိဓဇ, အုတ်ရှစ်ပင်တိုက် ဆရာတော်အရှင်သီလာစာရဘိဓဇ မဟာရာဇာဓိရာဇဂုရုတို့ထံ၌ စာပေများကိုဆက်ကာသင်ကြားဆည်းပူးခဲ့လေသည်။

အသက် ၁၇-နှစ်အရွယ်တွင် မိခင်ကြီးအားလုပ်ကျွေးရန် ကိုရင်ဘဝမှလူဝတ်လဲပြီးနောက် ပျဉ်းမနားမြို့နှင့် တောင်ငူမြို့များတွင်နေထိုင်ခဲ့ရာ တောင်ငူမြို့ကုန်သည်ကြီးတဦး၏သမီး ဒေါ်ရွှေအိမ်နှင့်အိမ်ထောင်ပြုလေသည်။

တောင်ငူမြို့တွင် နှစ်ပေါင်း ၂၀-ခန့်နေထိုင်ခဲ့စဉ် မြန်မာသတင်းစာတွင် အယ်ဒီတာအဖြစ် သုံးနှစ်ဆောင်ရွက်ပြီး တဖန်ကေတုမတီ ပုံနှိပ်တိုက်တွင် စာပြင်ဆရာအဖြစ် ဆက်လက်လုပ်ကိုင် လေသည်၊ အသက် ၄၇-နှစ်ရွယ်တွင် ဇနီးကွယ်လွန်လေသည်၊ ထိုနောက်တွင် ရန်ကုန်မြို့ အစိုးရစာတော်ပြန် အလုပ်အတွက် စာမေးပွဲဝင်ရောက်ဖြေဆိုရာ ပဌမ အောင်မြင်ပြီးထိုရာထူးတွင် ၁၂၈၁-ခုနှစ်မှစ၍ ထမ်းရွက်ရာ ၁၂၈၅-ခုနှစ်တွင် ရန်ကုန်ကောလိပ်ကျောင်း၌ မြန်မာစာနည်းပြဆရာအဖြစ် ပြောင်းရွှေ့ခန့်ထားခြင်း ခံရလေသည်၊ တက္ကသိုလ်ကျောင်းဆရာအဖြစ် ပြောင်းလွှဲသောအခါ၌ ဂုဏ်ထူးဆောင်နည်းပြဆရာအဖြစ်ဖြင့် ဆက်လက်လုပ်ကိုင်ခဲ့ပြီး ၁၂၉၇-ခုနှစ်တွင်အငြိမ်းစားယူလေသည်။

ဆရာပွားသည် တိုင်းကျိုးပြည်ကျိုးဆောင် (တီ-ပီ-အက်စ်)ဘွဲ့ရ၍ ၁၉၃၈-ခုနှစ်တွင် ဂုဏ်ထူးဆောင်မဟာဝိဇ္ဇာဘွဲ့ကိုပါ ရရှိလေသည်၊ ဆရာပွားသည် ၁၃၁၂-ခုနှစ်တော်လဆန်း ၁-ရက်နေ့တွင်ကွယ်လွန်ရာပြုစုခဲ့သောစာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ ဝေလမင်းသားရတု။

တည်းဖြတ်ခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

၁။ ဦးကုလားမဟာရာဇဝင် ပ-ဒု။
၂။ အင်းဝမြို့ဘွဲ့ဆယ့်နှစ်ရာသီလူးတား။
၃။ ကျည်းကန်ရှင်ကြီးမေတ္တာစာ။
၄။ ကန်တော်မင်းကျောင်းမေတ္တာစာအဖြေ။
၅။ ရေစကြိုခုံတော်ဖြတ်ထုံး။
၆။ ဥတိန္နပျို့။
၇။ အထူးကောက်နုတ်ချက်ဇာတ်ဝတ္ထု။
၈။ စိန္တကျော်သူဆိုရတုများ။

---

## ၇၆။ ဆရာဘီ

(၁၂၃၅-၁၃၁၂)

ဆရာဘီမှာထင်ရှားသော ပါဠိဆရာပညာရှင်ကြီးတဦးဖြစ်လေသည်၊ ဆရာဘီမှာ ၁၂၃၅-ခုနှစ် ပြာသိုလဆန်း ၄-ရက် ကြာသပတေးနေ့တွင် ပြည်မြို့အနီး ဆင်မြီးဆွဲရွာတွင် ဦးရွှေဝင်းနှင့်ဇနီးတို့မှ ဖွားမြင်လေသည်။

ငယ်စဉ်က ရှင်သာမဏေဝတ်၍ စလင်းမြို့မင်းကြီးဆရာတော်ဦးလှဲ့ ထံတွင် ပညာဆည်းပူးကာ ဆရာတော်နှင့်အတူ လိုက်ပါနေရာမှ ရဟန်းဘောင်သို့ တက်ရောက်လေသည်၊ ရဟန်း ၁၀-ဝါအရတွင် စလင်းကံကြောင် ကျောင်းတွင် ကျောင်းထိုင်ပြီး ဝါ ၂၀-အရတွင် ဒေဒရဲမြို့သို့ ရောက်ရှိခဲ့လေသည်၊ ဒေးဒရဲမြို့တွင် ဘုရားကြီးကျောင်းတိုက်ကို ကံကြောင်ကျောင်းဟု သမုတ်၍ကျောင်းထိုင်ကာ စာပေပို့ချလေသည်၊ ရဟန်းဘွဲ့မှာ ဦးပဏ္ဍိစ္စဖြစ်လေသည်။

ဝါတော် ၃၀-အရတွင် လူဝတ်လဲနေပြီး ၃-နှစ် အကြာတွင် ကျောက်တန်းသုံးခွ ဇွဲသရေရွာသူ ဒေါ်ဆိတ်နှင့် အိမ်ထောင်ပြုပြီး ရန်ကုန်မြို့ ဇမ္ဗူမိတ်ဆွေ ပိဋကတ်တိုက်တွင် ပါဠိဆရာအဖြစ်ဖြင့် ပိဋကတ်ကျမ်းများ ပုံနှိပ်ရာတွင် ကြပ်မဆောင်ရွက်ရလေသည်၊ ထိုနောက်ထိုအလုပ်မှ ထွက်၍ အစိုးရစာပြန်ပွဲများတွင် စာစစ်ဆရာတဦးအဖြစ်ဆောင်ရွက်လေသည်။

ဆရာဘီသည် ၁၃၁၂-ခုနှစ် တပေါင်းလပြည့်ကျော် ၃-ရက်နေ့တွင် ကွယ်လွန်ရာပြုစုခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင်လေသည်။

သုသောမိတရာဇဝင် ပဋ္ဌမတွဲ
ဒု။ တ။ စ။ မ။ ဆ။

---

## ၇၇။ ဆရာလင်း

(၁၂၃၇-၁၃၁၆)

ဆရာလင်းမှာ မြန်မာစာပေလောကတွင် ထင်ရှားသော ပညာရှိပုဂ္ဂိုလ်ကြီးတဦးဖြစ်လေသည်။

ဆရာလင်းကို ၁၂၃၇-ခုနှစ် ဝါဆိုလပြည့်ကျော် ၁၃-ရက် သောကြာနေ့တွင် မန္တလေးမြို့ မဟာနွယ်စဉ်ရပ် ဦးစံလှ-ဒေါ်တုတ်တို့မှဖွားမြင်လေသည်၊ ငယ်မည်မှာ မောင်မြသာထွန်း ဖြစ်လေသည်၊ ငယ်စဉ်က မိုးထားသာသနာပိုင် ဆရာတော်ထံတွင် ပညာဆည်းပူး၍ ၁၈-နှစ်အရွယ်တွင် ယက်ထောက်စာချအဖြစ် ခန့်ထားခြင်းခံရလေသည်။

အသက် ၂၀-ရွယ်တွင် ရဟန်းဘဝသို့ တက်ရောက်၍ စာပေပို့ချခဲ့လေသည်၊ ထိုနောက် ၈-ဝါအရတွင်ရန်ကုန်မြို့သို့ ဆင်းလာကာ လူဝတ်လဲပြီးနောက် ကမာရွတ် မယ်စီကုန်းရွာတွင် နေထိုင်လေသည်၊ ထိုရွာတွင် ဒေါ်လှရင်နှင့် ထိမ်းမြား၍ သားသမီး လေးယောက်ထွန်းကားလေသည်၊ဆရာကြီးသည် ဒုတိယအိမ်ထောင်ကို ဒေါ်လှခင်နှင့်၎င်း, တတိယအိမ်ထောင်ကို ဒေါ်သုန်နှင့်၎င်း အိမ်ထောင်ပြုခဲ့သော်လည်း သားသမီးများမရရှိခဲ့ပေ။

ဆရာကြီးသည် ရန်ကုန်မြို့ ဟံသာဝတီပိဋကတ်တိုက်၌ ဝင်ရောက်လုပ်ကိုင်၍ ပိဋကတ်တော်များကိုကြီးကြပ် ပုံနှိပ်ရလေသည်၊ ထိုနောက် ကဝိမျက်မှန်တိုက်တွင် ပါဠိဆရာကြီးအဖြစ် လုပ်ကိုင်ရာမှ ပညာမင်း

ကြီးရှိုးတွင် အယ်ဒီတာအဖြစ်ဆောင်ရွက်ကာ ဦးရွှေကြူးနှင့် တွဲဖက်၍ ပဌမတန်းမှ ဆဋ္ဌမတန်းအထိ ဖတ်စာအုပ်များကို ရေးသားခဲ့လေသည်။

၁၂၉၆-ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်၌ မြန်မာစာပေနည်းပြဆရာအဖြစ်ဆောင်ရွက်ခဲ့ပြီးနောက် ကထိကအဖြစ်တိုးတက် ခန့်ထားခြင်းခံရလေသည်၊ ဆရာကြီးသည် ၁၂၉၀-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကိုရင်း,၁၃၁၃-ခုနှစ်တွင် ဂုဏ်ထူးဆောင်မဟာဝိဇ္ဇာဘွဲ့ကိုရင်း၊ ၁၃၁၅-ခုနှစ်တွင် စာပေပါရဂူဘွဲ့ကိုရင်း ရရှိခဲ့လေသည်၊ ၁၃၁၆-ခုနှစ်တွင် ဆဋ္ဌသံဂါယနာတင်ရာ၌ ပိဋကတ်ဘာသာပြန် ဌာနတွင် အယ်ဒီတာချုပ်အဖြစ်ဆောင်ရွက်၍ ဘာသာပြန်လုပ်ငန်း, ဗုဒ္ဓဝင်စာပြုလုပ်ငန်း, ပါဠိအဘိဓာန်စာ ပြုလုပ်ငန်းတို့ကို ကြီးကြပ်ဆောင်ရွက်ရလေသည်။

ဆရာကြီးသည် ၁၃၁၆- ခုနှစ် နတ်တော်လဆန်း ၁၁-ရက် (၆-၁၂-၅၄) နေ့တွင် ကွယ်လွန်ရာပြုစုခဲ့သော ကျမ်းစာပေများအနက် အောက်ပါစာပေများပါဝင်လေသည်။

၁။ ဖတ်စာများ။ ၂။ ရွှေတိဂုံစိန်ဖူးတင်မော်ကွန်း။
၃။ အထက်တန်းမြန်မာကဗျာ ၄။ လောကသာရပျို့အဖြေ။
ကောက်နုတ်ချက်အဖြေ။

---

## ၇၀။ ဦးကြီး-ဝန်စာရေးကြီး

(၁၂၃+--၁၂++)

ဦးကြီးသည်သီပေါမင်းတရားလက်ထက်တွင် ရာဇဝတ်ရေး၌ါနနှင့် အမြောက် ဆင်မြင်း ဝင်းဒိုင်းခုနစ်စို့ဆိုင်ရာ ကုန်းကြောင်းစစ်သည် ဌာနချုပ်တာဝန်ခံ တိုင်းတားမြို့စားမင်းကြီး သတိုးမင်းကြီးမဟာ စည်သူအဘာယဘွဲ့ခံ ဦးဖိုး၏ဝန်စာရေးဖြစ်လေသည်၊ ဦးကြီး၏မိခင်မှာ ကိုးခရိုင်မြို့စား သံရွာမင်းသား၏ သမီးဖြစ်သူ အထိန်းတော် မိုးကြီးခေါ် ဒေါ်ခင်ခင်ဖြစ်လေသည်။

ဦးကြီး၏ဖွား လွန်သက္ကရာဇ်များကို အတိအကျမသိရှိရပေ၊ ဦးကြီးသည်မန္တလေးမြို့တွင် နေထိုင်ခဲ့ရာမှ ရန်ကုန်သို့စုန်ဆင်းလာ၍ ဟံသာဝတီပုံနှိပ်တွင်ဝင်ရောက်လုပ်ကိုင်သည်၊ ဉာဏ်ထက်သန်၍ ဝတ္ထုများကို ရေးသားသောအခါ တောက်လျှောက်ပြောပြ၍ စာရေးကြီးမောင်သံချောင်းက လိုက်၍ရေးရလေသည်။

ဦးကြီးရေးသားခဲ့သော စာမူများတွင် အောက်ပါစာမူများ ပါဝင်လေသည်။

၁။ သာသနာနုဂ္ဂဟအတိဝေပုလ္လစာတမ်း။

၂။ မောင်မှိုင်းဝတ္ထု ပဌမတွဲ၊ ဒုတိယတွဲ၊ တတိယတွဲ၊ (၁၂၆၆)

၃။ မြကလေးဝတ္ထု ပဌမတွဲ၊ ဒုတိယတွဲ။(၁၂၇၃)

၄။ စိန်ကလေးဝတ္ထု ပဌမတွဲ၊ ဒုတိယတွဲ။

၅။ မောင်ဘသန်းမသန်းမေဝတ္ထု ပဌမတွဲ၊ ဒုတိယတွဲ၊ (၁၂၇၆)

၆။ စကား တောင်းစားဝတ္ထု။

၇။ ခင်ခင်ညွန့်ဝတ္ထုပဌမတွဲ။

၈။ မောင်ဖန်ကလေးဝတ္ထု ပဌမတွဲ။

၉။ လိမ္မာသော ကြက် တူရွေး ဝတ္ထု။

၁၀။ လိမ္မာသော သာ လိ ကာ ဝတ္ထု။

---

## ၇၉။ ဝမ်းပြည့်ဆရာဖိုး

(၁၂+--၁၂၇၃)

ဇာတ်စာဆိုတော် ဝမ်းပြည့်ဆရာဖိုးမှာ မြင်းမူမြို့အပိုင် ဝမ်းပြည့်ရွာ ဦးရော-ဒေါ်ငြိမ်းတို့မှဖွားမြင်သည်၊ စာပေပရိယတ္တိနှံ့စပ်၍ ကဗျာဉာဏ်ထက်သန်သည်၊ဇနီးမှာ ရွှေယင်းမာရွာမှ မပေါ်ဖြစ်၍မအေးစိန်ဟူသော သမီးတယောက်ဖွားမြင်ပြီး ဇနီးကွယ်လွန်၍ ရွှေယင်းမာရွာသူ မသွင်ဆိုသူနှင့်အိမ်ထောင်ပြုပြန်ရာ သမီးမမယ်မကို ဖွားမြင်ပြန်လေသည်၊ ဦးဘိုးစိန်ဇာတ်အဖွဲ့တွင် လိုက်ပါ၍ ဇာတ်ထုပ်များ ရေးသားနေခဲ့ရာ ၁၂၇၃-ခုနှစ်တွင် ကျုံမငေးမြို့ တဖက်ကမ်း ကျွန်းပြာသာဒ်ရွာတွင် ကွယ်လွန်လေသည်။

ဆရာကြီးရေးခဲ့သောဇာတ်ထုပ်များတွင် အောက်ပါဇာတ်ထုပ်များ ပါဝင်လေသည်။

၁။ အမယ်ကြီးဇာတ်။
၂။ ကိုးသန်းရှင်။
၃။ စက်ဖြတ်သေတ္တာဖွင့်။
၄။ ဆဒ္ဒန်ဆင်မင်း။
၅။ ဟတ္ထိပါလဇာတ်။ (၁၂၆၁)
၆။ စက်ဖြတ်သေတ္တာဖွင့်။
၇။ အဿမုခိဇာတ်(၁၂၆၄)
၈။ ကိန္နရာကြီးဇာတ် (၁၂၆၁)
၉။ ကြောင်ဖြူဇာတ်။ (၁၂၆၄)
၁၀။ ရာဇတမန်ဇာတ်(၁၂၆၂)
၁၁။ စန္ဒကျီးဖြူဇာတ်။ (၁၂၆၅)
၁၂။ ဒါသိမနှင့်ကောသလ။
၁၃။ နာဂသူဇာဇာတ်။ (၁၂၆၂)
၁၄။ မောင်ဇန် (၁၂၆၅)
၁၅။ သီတာရာမ။
၁၆။ ကုသဇာတ်။
၁၇။ ရတ္တမယ်ကိန္နရာကြီး (၁၂၆၁)
၁၈။ ကိန္နရာသက်ပြောင်း၊ (၁၂၆၅)
၁၉။ သီဟဗာဟုဇာတ်။
၂၀။ စမ္ဗေယျဇာတ်။
၂၁။ ပေါရိသာဒဇာတ်။
၂၂။ သောရေယျဇာတ်။
၂၃။ ရှင်ကစ္စည်းဇာတ်။
၂၄။ ကျန်စစ်သားဇာတ်။
၂၅။ ဝါးဖြူဇာတ်(၁၂၅၄)
၂၆။ ဝေဘူလထေရ်ပျို (၁၂၆၃)
၂၇။ ပြည့်အောင်စွာဇာတ်။
၂၈။ ကလျာဏီသိမ်ဇာတ်။
၂၉။ သူရရူပဇာတ်။
၃၀။ စောရဇာတ်(၁၂၆၂)
၃၁။ ဝံသာကီဇာတ်။
၃၂။ သုမဏာဇာတ်။
၃၃။ အိုးစာမင်းခေါင်ဇာတ်။ (၁၂၆၂)
၃၄။ မောင်ကြီးဇာတ်။ (၁၂၆၆)
၃၅။ ဝိဋ္ဋူပဇာတ်။
၃၆။ ဖိုးတူဇာတ်(၁၂၆၆)
၃၇။ မောင်ပုည။
၃၈။ တံငါလိမ်။
၃၉။ မောင်မစ္စက။
၄၀။ ဇူသိသိဂ်။

၄၁။ ဖဝေး။
၄၂။ သမ္ဘူလ။
၄၃။ ငမိုးရိပ်။
၄၄။ မောင်တင့်တယ်။ (၁၂၆၉)
၄၅။ သုတကုဏ္ဍ။ (၁၂၆၇)
၄၆။ စကြဝဠေး။
၄၇။ ထိလပ်ပိုးအူ။
၄၈။ နှင်းအေးဖိုးချိန်မယ်စိန်။
၄၉။ ဖိုးချိန်မယ်စိန်။
၅၀။ ပဒမြားသမင်။
၅၁။ ရွှေလေးပင်။
၅၂။ ပဋိက္ခရား။
၅၃။ မောင်ဥဖွား။
၅၄။ ရှာန်ပုံ။
၅၅။ သုံးပန်လှ။
၅၆။ ဥမ္မာဒန္တီ။
၅၇။ ပဌာစာရီ။
၅၈။ ဥပကဆာဝါ။
၅၉။ ဇမ္ဗူသိတာ။
၆၀။ နှင်းနွယ်သာဂရ။
၆၁။ ကုက္ကုစ္ဆပုဏ္ဏား။
၆၂။ ကောလိယ။
၆၃။ ဒွေးလှပြန်။
၆၄။ နန္ဒိယ။
၆၅။ ကာလိဒါသ။
၆၆။ ဖုတ္တပန်းဆက်။
၆၇။ နန္ဒရွှေမှန်။
၆၈။ ငါးပါဒ။
၆၉။ ချင်းရွှေဖန်။
၇၀။ ပါသာဒ။
၇၁။ ကာကလ္လိယဇာတ်။
၇၂။ မြနန်း-ဒါရှ။
၇၃။ ဝိသယှ။
၇၄။ မစိန်ရွှေ။
၇၅။ အောင်ဖြူ။
၇၆။ ရေချမ်း။
၇၇။ မမ္ဗသိဒ္ဓိ။
၇၈။ နှင်းနွယ်မိုးမြ။
၇၉။ စမ္မေယျဇာတ်။

---

## ၈၀။ ဆရာမြို့

(၁၂၃၇-၁၂၉၇)

ဆရာမြို့မှာ-ကျမ်းတတ် ဓမ္မကထိကပုဂ္ဂိုလ်ကြီးတဦးဖြစ်၍ ပိဋကတ်ဘာသာပြန်ပုဂ္ဂိုလ်တဦးလည်း ဖြစ်လေသည်။

ဆရာမြို့ကို ၁၂၃၇-ခုနှစ် တပေါင်းလတွင် ရွှေကျင်မြို့၌ဖွားမြင်လေသည်၊ ငယ်စဉ်က ရွှေကျင်မြို့ရွှေတောင်ဦးစေတီအနီး မန္တလေးကျောင်းဆရာတော်ထံတွင် စာပေသင်ကြား၍ သာသနာ့ဘောင်သို့ တက်ရောက်လေသည်၊ ထိုနောက် ညောင်လေးပင်တောရနှင့် မန္တလေးမြို့များတွင်

စာပေဆက်လက်သင်ကြား၍ ၈-ဝါအရတွင် ရွှေကျင်မြို့၌ ရွှေဂူချောင်အမည်ဖြင့် စာသင်တိုက်ဖွင့်လေသည်။

၁၂၆၅-ခုနှစ်တွင် လယ်တီဆရာတော်ဒီထံ၌ တပည့်ခံ၍ တရားဟောပြောလေသည်၊ ၁၂၆၈-ခုနှစ်တွင် ရန်ကုန်မြို့၌ ဓမ္မသာဝန အသင်းနှင့် ဗုဒ္ဓဘာသာသာသနာပြု စာပုံနှိပ်တိုက်ကို တည်ထောင်လေသည်၊ လူဝတ် လဲပြီးနောက် ၁၂၀၂-ခုနှစ်တွင် မော်လမြိုင် ကတိုးကော့နှပ်သူဌေးကြီး ဦးရွှေလှေး အထောက်အပံ့ဖြင့် ပိဋကတ်သုံးပုံကို ဘာသာပြန်ရာ ၁၁-နှစ်အတွင်း ကျမ်းပေါင်း ၃၀-ကျော်ပြီးစီးလေသည်၊ ဆရာမြို့သည် ဝေလမင်းသားဆုငွေ ၁၀၀၀ိ-နှင့် အိန္ဒိယဘုရင်ခံချုပ်၏ အဂ္ဂမဟာပဏ္ဍိတဘွဲ့ ချီးမြှင့်ခြင်းခံရလေသည်။

ဆရာမြို့သည် ဇနီး ၃-ဆက် အိမ်ထောင်ပြုခဲ့၍ ၁၂၉၈-ခု တန်ခူးလပြည့်ကျော် ၁၁-ရက် (၅-၄-၃၇)နေ့တွင် ကွယ်လွန်ရာ ပြုစုခဲ့သောကျမ်းများအနက် အောက်ပါကျမ်းများ ပါဝင်လေသည်။

၁။ ပိဋကတ်တော် မြန်မာပြန်များ။

---

## ၈၁။ ဦးပြိုးချို
### (၁၂၄၀-၁၂၀၉)

ဦးပြိုးချိုသည် မဟာဂီတပေါင်းချုပ်ကျမ်းကို ပြုစုခဲ့သော ပုဂ္ဂိုလ်ကြီးဖြစ်လေသည်၊ ဦးပြိုးချိုကို ၁၂၄၀-ပြည့်နှစ်တွင် ကျိုက်လပ်မြို့၌ ဆရာစိ-ဒေါ်ထွေးတို့မှ ဖွားမြင်သည်၊ ဦးပြိုးချို၏ဘေးမှာ ဗန္ဓုကျိုဝန် ဦးရွှေရှပ်ဖြစ်လေသည်၊ ဦးပြိုးချိုသည် ၁၁-နှစ်သားအရွယ်ကပင် မေးရိုက်မေးဝဲသီချင်းများကို ရေးသားနိုင်ခဲ့လေသည်၊ ဂီတပညာကိုလည်း လေ့လာတတ်မြောက်လေသည်၊ ပန်းချီပညာကို တတ်ကျွမ်းလေသည်၊ ပန်းပဲပညာ, အင်ဂျင်နီယာပညာများကိုလည်း လေ့လာဆည်းပူးခဲ့လေသည်၊ ငယ်စဉ်ကပင် မိမိအသက်မွေးဝမ်းကျောင်းကိုမိမိရှာဖွေကာ အရပ်ရပ်လှည့်လည်၍ ပညာဆည်းပူးလေသည်၊ ဦးပြိုးချိုသည်ဆေးပညာ တတ်မြောက်၍ ဆေးဝါးကုသခြင်းဖြင့်၎င်း,ဇာတ်အုပ်ချုပ်သူအဖြစ်၎င်း နေထိုင်ရာမှ တေးဘုမ္မာသီချင်းကြီးကို ရေးသားခဲ့လေသည်၊ ထိုနောက်ပညာ့အလင်း သတင်းစာ, မြန်မာ့အလင်း သတင်းစာနှင့် မောရဝတီသတင်းစာတိုက်များတွင် အယ်ဒီတာအဖြစ် ဆောင်ရွက်ခဲ့၍ စိန္တာသတ္တ

အမည်၊ ဘိုးမင်းကျော်အမည်၊ အရှုးတော်နေဒွန်း အမည်များဖြင့် ဆောင်းပါးများ ရေးသားခဲ့လေသည်၊ သူရိယသတင်းစာတိုက်တွင်လည်း လုပ်ကိုင်ဘူးလေသည်။

ဦးပြုံးချိုသည် ဒေါ်သော်နှင့် လက်ထပ်ရာ သားသမီး ၁၁-ယောက် ထွန်းကားလေသည်၊ ဦးပြုံးချိုသည် စာပေများကို ရေးသားနေဆဲတွင် ၁၂၈၉-ခု တပို့တွဲလဆန်း ၄-ရက်နေ့တွင် ကွယ်လွန်အနိစ္စ ရောက်လေရာ၊ ဆရာကြီး ရေးသားခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

၁။ တေးဘုမ္မာ သီချင်း။
၂။ နေအေးလိမ်နည်း။
၃။ မဟာဂီတတ္ထ ဒီပနီ (မပြီးဆုံး)။
၄။ မဟာဂီတပေါင်းချုပ်။
၅။ ကျိုက်ထီးရိုးနတ်လမ်းညွှန်။

---

## ၈၂။ ဦးအောင်မြတ်တွတ် (အမတ)
### (၁၂၄၄-၁၃၁၃)

ဦးအောင်မြတ်တွတ်မှာ- လောကုတ္တရာစာပေကျမ်းပေါင်း ၄၀၀-ကျော်ပြုစုခဲ့သော ပညာရှင်ပုဂ္ဂိုလ်ကျော်တဦးဖြစ်လေသည်။

ဦးအောင်မြတ်တွတ်ကို သကရာဇ် ၁၂၄၄-ခုနှစ် နယုန်လပြည့်ကျော် ၁၁-ရက်နေ့တွင် ရမည်းသင်းခရိုင် မြို့လှပင်းစုရွာနေ၊ ဦးလာ-ဒေါ်အုပ်တို့မှ ဖွားမြင်လေသည်။

ငယ်စဉ်က ရွာဦးကျောင်းတွင် ခေတ္တနေထိုင်ခဲ့ပြီး ရမည်းသင်းမြို့ ရွှေဂူရန်အောင် ဇောင်ချမ်းတောင် ၃-ဂိုဏ်းချုပ် ဓမ္မကထိက မဟာဝိဘင်္ဂရေဘုံရ အရှင်ဝိလာသထံ၌၎င်း,မန္တလေးမြို့ သစ်ဆိမ့်တိုက်စာချဆရာတော်အရှင်အာစာရထံ၌၎င်း,အရှင်စန္ဒောဘာသထံ၌၎င်း,ပညာသင်ကြားခဲ့လေသည်။

အရွယ်ရောက်လျှင် အရှင်အာဒိစ္စဝံသဘွဲ့ဖြင့် ရဟန်းဘဝသို့ တက်ရောက်၍ မန္တလေးမြို့ ဘုရားကြီးကျောင်းတိုက်- အရှင်ဝိသုဒ္ဓမထေရ်၊ ပခုက္ကူမြို့ အရှင်ဂန္ဓသာရမထေရ်၊ ညောင်တုန်း ရွှေဟင်္သာတောရကျောင်းတိုက် အရှင်ဉာဏိန္ဒာသဘမထေရ်တို့ထံတွင် ပိဋကတ်စာပေများသင်ကြားတတ်မြောက်ခဲ့လေသည်။

ရန်ကုန်မြို့ကျောင်းတော်ရာ ရွှေကျင်တိုက်ဆရာတော်ကြီး, မန္တလေးမြို့မစိုးရိမ်တိုက်ဆရာတော် ဦးသောမ မထေရ်မြတ်တို့ထံတွင် ပိဋကတ်နိဿယည်းယူပြီးလျှင် မစိုးရိမ်တိုက်တွင်၎င်း,ညောင်တုန်းမြို့ ရွှေဟင်္သာတောရတိုက်တွင်၎င်း,မော်လမြိုင်မြို့တွင်၎င်း,စာပေပို့ချနေခဲ့ပြီး ရန်ကုန်မြို့သို့ကြွရောက်လာကာ ပုဇွန်တောင် တောင်လုံးပြန် သုသာန်မြေဟောင်း၌ ကျောင်းတိုက်တည်၍ သီတင်းသုံးလေရာ ထိုကျောင်းတိုက်မှာ အရှင်အာဒိစ္စဝံသကျောင်းတိုက်ဟု တွင်လေသည်။

အရှင်အာဒိစ္စဝံသသည် အိန္ဒိယပြည်သို့ကြွရောက်၍ဟင်ဒီ,အင်္ဂလိပ်,သက္ကတ,ပြာကရိတ်,ဘင်္ဂါလီ,အူရဒူ,ဂုရု,မုခီဘာသာများကို သင်ကြားပြီး ဥရောပတိုက်နှင့် အင်္ဂလန်နိုင်ငံတွင် ၁၀ နှစ်ကြာမျှ လှည့်လည်ကာ ၁၂၉၀-ပြည့်နှစ်တွင် မြန်မာနိုင်ငံသို့ပြန်ကြွလာလေသည်။

ဆရာတော်သည် တကမ္ဘာလုံးတွင် သာသနာပြုရေးနှင့် ရဟန်းတုရဟန်းယောင်များ ပပျောက်ရေးအတွက် အထူးကြိုးပမ်းခဲ့လေသည်၊ ဘိက္ခုနီသာသနောပဒေသကျမ်းကိုရေးသားရာတွင် ရဟန်းတော်အချို့မနှစ်သက်ကြသဖြင့် ကန့်ကွက်ခြင်းခံရလေသည်၊ ၁၃၀၄-ခုနှစ်တွင် လူဝတ်လဲ၍ ဦးအောင်မြတ်တွတ်အမည်ဖြင့် စာပေကျမ်းဂန်များ ဆက်လက်ပြုစုလေသည်၊ ထိုနောက် ဒေါ်ငွေတင်နှင့်အိမ်ထောင်ပြုလေသည်။

ဦးအောင်မြတ်တွတ်သည် ၁၃၁၃-ခုနှစ် ဝါခေါင်လပြည့်ကျော် ၄-ရက်နေ့တွင် ကွယ်လွန်ရာ ကျမ်းပေါင်း ၄၁၇-ကျမ်းပြုစုခဲ့သည့်အနက် အောက်ပါကျမ်းများပါဝင်လေသည်။

၁။ မိလိန္ဒပဥှာနိဿယ။
၂။ ပဒသင်္ဂဟပါဌ်။
၃။ ပဒသင်္ဂဟနိဿယ။
၄။ ပါဠိသိက္ခာနယပဒေသ။
၅။ ပဋိသမ္ဘိဒါမဂ် မြန်မာပြန်။
၆။ မဇ္ဈိမနိကာယမြန်မာပြန်။
၇။ ပရိတ္တသင်္ဂဟနိဿယ။
၈။ ဝိမုတ္တိ[illegible]ပဒေသ။
၉။ ဓမ္မစကြာမြန်မာပြန်။
၁၀။ ဓမ္မဝိနယမြန်တမ်း။
၁၁။ ပဌမကျော် အရေးတော်ပုံ။
၁၂။ သရဏဂုံနှင့်သုံးစွဲထုံး။
၁၃။ ဂုဏ်တော်နှင့်သုံးစွဲထုံး။
၁၄။ မြန်မာသတိပဋ္ဌာန်။
၁၅။ ဥပါသကာလက်စွဲ။
၁၆။ အသောကကျောက်စာတော်။

၁၇။ ဘာသန္တရလမ်းညွှန်။
၁၈။ ဘိက္ခုနီသာသနောပဒေသ။
၁၉။ ဘိက္ခုနီအရေးတော်ပုံ။
၂၀။ ကဗျာချိန်ခွင်။
၂၁။ ကဗျာမှန်။
၂၂။ တရားမှန်တော်ကြီး၁၆-တွဲ
၂၃။ အာဒိစ္စဝံသထေရာပဒါန်။
၂၄။ နိဗ္ဗာနသုတ္တသင်္ဂဟ။
၂၅။ ပဋ္ဌ နိကာယ ဒပ္ပနခေါ် နိကာယမှန်တော်ကြီး။
၂၆။ အလင်္ကာနိသျ။
၂၇။ ဆန်းနိသျ။
၂၈။ ကစ္စာယနသင်္ဂဟပါဌ်။
၂၉။ ကစ္စာယနသင်္ဂဟနိသျ။
၃၀။ မဟာဝံသဂါထာ
၃၁။ ဂေါတမဗုဒ္ဓဝင်ချုပ်။
၃၂။ ကျောင်းတော်ရာထေရုပ္ပတ္တိ ပါဌ်,နိသျ။
၃၃။ မြန်မာသတ်ပုံ။
၃၄။ မြန်မာအဘိဓာန်။

---

## ၈၃။ ပီမိုးနင်း

(၁၂၄၅-၁၃၀၁)

ပီမိုးနင်းမှာ မြန်မာစာပေလောကတွင် ဝတ္ထုရော ကျမ်းများပါ စွယ်စုံကျွမ်းကျင်သော စာရေးဆရာကြီးတဦးဖြစ်လေသည်။

ပီမိုးနင်းကို ၁၂၄၅-ခု တန်ဆောင်မုန်းလဆန်း၆-ရက်တနင်းလာနေ့တွင် သုံးဆယ်မြို့ဦးရွှေခမ်း-ဒေါ်စိန်နုတို့မှ ဖွားမြင်လေသည်၊ မွေးဖွားစအခါက မိုးနှင်းများထူထပ်စွာ ကျနေသောကြောင့် မိုးနှင်းဟူ၍၎င်း, နေ့နံအရ မောင်ကျော်ညွန့်ဟူ၍၎င်း မှည့်ခေါ်လေသည်။

ငယ်စဉ်က သုံးဆယ်မြို့အာစီအမ်ကျောင်းတွင် ၃-နှစ်, မော်လမြိုင်မြို့ ဆင်မီနာရီကျောင်းတွင် ၃-နှစ် ပညာသင်ကြားရာ လက်တင်ဘာသာကိုလည်းတတ်မြောက်လေသည်၊ ထိုနောက်ပီနံမြို့ရှိ ဂျင်နရယ်ကောလိပ်ကျောင်းတွင် ပညာဆက်လက်သင်ကြားရာ လော့ဂျစ် ဖီလော်ဆော်ဖီပညာများကိုတတ်မြောက်လေသည်၊ ထိုနောက် သုံးဆယ်မြို့သို့ ပြန်ရောက်လာရာ မိခင်၏နောက်အိမ်ထောင် ဦးမြို့ကမြန်မာစာသင်ကြားပေးလေသည်။

ထိုနောက် သာမဏေဝတ်ရာ ဆရာရင်းဘရင်ဂျီ ဘုန်းကြီးကျောင့် လူဝတ်လဲကာရုံးစာရေးအဖြစ် လုပ်ကိုင်ရလေသည်၊ ထိုနောက် ပြည်မြို့ ဆေးရုံတွင် စာရေးအဖြစ်လုပ်ကိုင်ပြန်လေသည်၊ ထိုနောက် ဒေါ်မေ ဆိုသူအမျိုးသမီးတဦးနှင့် လက်ထပ်လေသည်၊ ပြည်မြို့တွင် လယ်တီ ဆရာတော်ဘုရား တရားဟောကြားသည်နှင့်ကြုံကြိုက်၍ ကြည်ညိုသဖြင့် ဆရာတော်ထံတွင် ပဉ္စင်းဝတ်၍နေရာ ဇနီးသည် သေဆုံးသွားသော ကြောင့် ဆရာတော်နှင့်အတူ ရန်ကုန်မြို့သို့လိုက်ပါလာလေသည်။

ထိုနောက်သုံးဆယ်မြို့,ဓနိုဗြူမြို့များတွင် ကျောင်းဆရာအဖြစ်လုပ်ကိုင် ယင်း ဒေါ်စိန်တင့်နှင့်နောက်အိမ်ထောင်ပြုလေသည်၊ ထိုအိမ်ထောင် နှင့်သားသမီး ၇-ယောက်ဖွားမြင်၍ ဇနီးသည်ကွယ်လွန်ပြန်ရာ နောက် ၃-နှစ်ကြာသောအခါ ဒေါ်သီနှင့်အိမ်ထောင်ပြုပြန်လေသည်။

ဆရာကြီးသည် ၁၃၀၁-ခုနှစ် နတ်တော်လပြည့်ကျော် ၁၂-ရက် နေ့တွင်ကွယ်လွန်ရာ ရေးသားခဲ့သော စာပေများတွင် အောက်ပါ စာပေများပါဝင်လေသည်။

| | |
|---|---|
| ၁။ အင်္ဂလိပ်စကားသင်။ | ၂။ သခင်စိတ်။ |
| ၃။ လက်တွေ့ကြီးပွားရေးကျမ်း။ | ၄။ သူရဲကောင်း ၃-ယောက် ဘာသာပြန်။ |
| ၅။ ကမ္ဘာ့မင်တံ။ | ၆။ ကမ္ဘာ့အလင်း။ |
| ၇။ ထူးချွန်ရေး။ | ၀။ သမီးဂုဏ်ရည်။ |
| ၉။ သားဂုဏ်ရည်။ | ၁၀။ ကာမသိဒ္ဓိ။ |
| ၁၁။ မိန်းမစိတ်ကျမ်း။ | ၁၂။ လောကီလမ်းညွှန်။ |
| ၁၃။ လူပျို့ကြေးမုံ။ | ၁၄။ အပျိုလမ်းညွှန်။ |
| ၁၅။ မနောမယိဒ္ဓိ။ | ၁၆။ စိတ်ပညာ။ |
| ၁၇။ ကြီးပွားချမ်းသာရေး။ | ၁၀။ ထူးချွန်ရေး။ |
| ၁၉။ လူမှုရေးရာ။ | ၂၀။ ကိုယ့်ထူးကိုယ်ချွန်။ |
| ၂၁။ အရင်းမစိုက်-လျှော်ထိုးလိုက်။ | ၂၂။ အချစ်လမ်းညွှန်။ |
| ၂၃။ အာဂလူ။ | ၂၄။ တက်လမ်း။ |
| ၂၅။ ဝိမိုးနင်၏ဝိမိုးနင်း။ | ၂၆။ ဝတ္ထု,သတင်းစာရေးနည်း။ |
| ၂၇။ အချစ်သျှတ္တရ။ | ၂၀။ ဇာတ္တာသယ။ |

၂၉။ တကဲ့လူ့ချွန်။
၃၀။ လူစွမ်းလူစ။
၃၁။ စကားပြောနည်း။
၃၂။ ဟန်ကျပန်ကျ။
၃၃။ ကြီးပွားချမ်းသာစိတ်ပညာ။
၃၄။ တိုးတက်ရေးလက်စွဲ။
၃၅။ လောကမျက်မှန်။
၃၆။ ထိပ်ဆုံးကလူ။
၃၇။ *ပိမိုးနင်းနီတိ။
၃၈။ ကုန်သည်အိတ်ဆောင်။
၃၉။ မသိသူကျော်သွား။
၄၀။ သိသူဖေါ်စား။
၄၁။ နောလိပ်စာစောင်များ။
၄၂။ အချစ်ဖြတ်လမ်း။

## ဝတ္ထုများ

၁။ ပွဲစားကြီးဂရာရွတ်ကို မြာချွတ်သောချစ်ချစ်။
၂။ ကြိုလေဘုံဘွေ၊
၃။ †နေရီရီ၊
၄။ †ပွဲစားကြီး သားအဖနှင့် မြမြ၊
၅။ နဖူးစာ။
၆။ အိုသြဘွယ်။
၇။ ရေနတ်သူ။
၈။ မျိုးချစ်။
၉။ မျိုးချစ်လက်ျာ။
၁၀။ စိုးပါနှင့်မေ။
၁၁။ ကျုပ်အသက်ကလေး။
၁၂။ ဝါသနာ။
၁၃။ သွေးဆောင်ခြင်း။
၁၄။ မိတ်ဆွေနှင့်ရည်စား။
၁၅။ စိတ်ပြောင်းလဲခြင်း
၁၆။ ဝါးရမ်းပြေ ။
၁၇။ ဟေမဝန်ဇွဲ။
၁၈။ သင်းတို့အကြို။
၁၉။ ‡ခင်ထား
၂၀။ †ဘားမားဒေး
၂၁။ ‡ဘိအေမောင်တင့်နှင့် ကချေသည် မယ်မြင့်-
၂၁။ ‡ပ င် လ ယ် ကူးခတ်ပုံ
၂၂။ နေညိုညို။
၂၃။ တကိုယ်တော်။
၂၄။ ချစ်ပန်းနွယ်။
၂၅။ တနိုင်ငံမြိုင်ယံခြား။
၂၆။ လူလား,နတ်လား,ဂူ္ဘာန်လား။
၂၇။ ချစ်တဲ့မယား။

---

* ပင်ကိုရေးမဟုတ် နောင်အခါကျမ်းများမှစုပေါင်းထုတ်ဝေခြင်းဖြစ်သည်။
† ပိုက်ဆံကြီး အမည်နှင့် ရေးသည်။ ‡ မောင်ကျော်အမည်နှင့် ရေးသည်။

၂၀။ ရွှေဖူးစာကံ ဆော်စီမံ သွင်း။
၂၉။ ယယ်ကကျွမ်းကို လွမ်းလို့ ခွေကာယိုင်။
၃၀။ ကျွန်းငွေသောင်။
၃၁။ တဖြစ်လဲ။
၃၂။ ကျားကြီးရာဇာ။
၃၃။ တခုလပ်နှင့် တလင်ကွာ။
၃၄။ ဝက်ပါကံ။
၃၅။ တို့တောင်ပေါ်။
၃၆။ သဲမြည္။
၃၇။ တက်လူကွ။
၃၈။ ယောကျ်ားကောင်း သုံးယောက်။
၃၉။ ဒို့ယောဂီ။
၄၀။ ဟားဟားဟား။

---

## ၈၄။ ဦးမောင်ကြီး (လယ်တီပဏ္ဍိတ)
## (၁၂၄၈–၁၃၈၁)

လယ်တီပဏ္ဍိတ ဦးမောင်ကြီးမှာ လောကီလောကုတ္တရာ စွယ်စုံ တတ်မြောက်သောကျမ်းပြု ပုဂ္ဂိုလ်ကျော် တဦးဖြစ်လေသည်။

ဦးမောင်ကြီးကို သကရာဇ် ၁၂၄၈-ခုနှစ် တပို့တွဲလဆန်း ၉-ရက် ကြာသပတေးနေ့တွင် မုံရွာခရိုင် ချောင်းဦးမြို့အနီး ညောင်ဖြူပင်ရွာနေ လယ်ပိုင်ရှင်ဦးရောက်ကလေးနှင့် မင်းတုန်းမင်း၏အပျိုတော် စာတော် ဖတ် ဒေါ်ထပ်ကြီးတို့မှဖွားမြင်ရာ ငယ်မည်မှာ မောင်သန့်စင် ဖြစ်လေ သည်။

ငယ်စဉ်ကညောင်ဖြူပင်ရွာ ဘုန်းတော်ကြီး ဦးသီရိကျောင်းတွင် စာ ပေသင်ကြား၍ ၁၀-နှစ်ရွယ်တွင် သာမဏေဝတ်ရာ ဆရာဘုန်းတော် ကြီးက လယ်တီဆရာတော် ဘုရားထံ အပ်နှံလေသည်၊ လယ်တီဆရာ တော်ထံတွင် ပညာဆည်းပူးရာ ထူးချွန်လှ၍ အရွယ်ရောက်လျှင် ဆရာ တော်ကိုယ်တိုင် ရဟန်းဒါယကာခံ၍ သာသနာဘောင်သို့ သွတ်သွင်း လေသည်၊ ဘွဲ့မှာ ရှင်ပဏ္ဍိတဖြစ်သည်။

ရဟန်း ၇-ဝါတွင် လူဝတ်လဲ၍ ပျဉ်းမနားမြို့သူ ဒေါ်မမကြီးနှင့် အိမ်ထောင်ပြုရာ သားတယောက်ထွန်းကားလေသည်၊ ထိုနောက်ဇနီး ကွယ်လွန်ပြီး ၃-နှစ်အကြာတွင် ဒေါ်အေးနှင့် အိမ်ထောင်ပြုပြန်ရာ သမီးတယောက် ထွန်းကားလေသည်။

ဦးမောင်ကြီးသည် ပဋ္ဌမကမ္ဘာစစ်ကြီးဖြစ်စက ဦးရွှေကြူး ထုတ်ဝေသော မြန်မာ့အလင်းမဂ္ဂဇင်းတွင်ဝင်ရောက်လုပ်ကိုင်၍ မောင်သောက အိမ်မက်ခဏ်းကို တာဝန်ယူ၍ရေးသားလေသည်၊ ထိုနောက်ပိမိုးနင်း နှင့်အတူ ပညာမဂ္ဂဇင်းတွင်ဂုဏ်၊ ထိုနောက် ဒဂုန်မဂ္ဂဇင်းတွင်ဂုဏ် အယ်ဒီတာအဖြစ် ဆောင်ရွက်လေသည်။

ဦးမောင်ကြီးသည် ရာဇဝင်ဝတ္ထုနှင့် ရှစ်လုံးဘွဲ့ကဗျာများကို စတင် ရေးသားခဲ့လေသည်၊ယုဝတီခင်တုတ်အမည်,မန္တလေး မောင်ခင်မောင် အမည်တို့ဖြင့်လည်း ဆောင်းပါးများရေးသားခဲ့လေသည်၊ ပါဠိဘာ သာပြန်များ,ခေတ်ဝတ္ထုနှင့် ရာဇဝင်ဝတ္ထုများ,ဗုဒ္ဓဘာသာကျမ်းစာများ နှင့် ကဗျာများကိုရေးသားခဲ့၍ ကျမ်းပေါင်း ၃၀၀-ကျော်ပြုစုခဲ့လေ သည်ဗြိတိသျှအစိုးရက ဂုဏ်ထူးဆောင် မဟာဝိဇ္ဇာဘွဲ့ဖြင့် ချီးမြှင့်ခြင်း ပြုလေသည်၊ဦးမောင်ကြီးသည်မှတ်ဉာဏ်နှင့် ထိုးထွင်း တီထွင်ဉာဏ်လွန် စွာထက်မျက်လေသည်။

ဦးမောင်ကြီးသည် ၁၃၀၁-ခုနှစ်ကဆုန်လဆန်း ၄-ရက်နေ့တွင်မုံရွာ မြို့၌ကွယ်လွန်ရာ ရေးသာပြုစုခဲ့သော ကျမ်းများတွင် အောက်ပါကျမ်း များပါဝင်လေသည်။

| | |
|---|---|
| ၁။ မောင်သောကဝတ္ထု။ | ၂။ နေတာရီဝတ္ထု။ |
| ၃။ ခင်မြင့်ကြီးဝတ္ထု ၅-တွဲ။ | ၄။ ရွှေပြည်ကြီးဝတ္ထု၃-တွဲ။ |
| ၅။ သကုဏ္ဍလဝတ္ထု ၂-တွဲ။ | ၆။ သန်းသန်းဝတ္ထု၄-တွဲ။ |
| ၇။ တင်တင်မြဝတ္ထု၃-တွဲ။ | ၈။ နတ်သျှင်နောင်ဝတ္ထု-(၁၂၈၁) |
| ၉။ ဗညားနွဲ့ဝတ္ထု။ | ၁၀။ တပင်ရွှေထီးဝတ္ထု-၅တွဲ) |
| ၁၁။ ထေရီဘာသာပြန် (၅-တွဲ) | ၁၂။ ထေရာဘာသာပြန်-(၄-တွဲ) |
| ၁၃။ ပရမတ္ထသံခိပ်အဖြေ။ | ၁၄။ ပဋ္ဌာန်းအမေး,အဖြေ။ |
| ၁၅။ သတိပဋ္ဌာန်အမေးအဖြေ။ | ၁၆။ ဓမ္မစကြာအမေး, အဖြေ။ |
| ၁၇၊ အနတ္တလက္ခဏာသုတ်အမေး အဖြေ။ | ၁၈။ အနတ္တစက္ခုကျမ်း။ |
| ၁၉။ ယမိုက်အဖြေကျမ်း။ | ၂၀။ ပါဠိအဘိဓာန်ချုပ်။ |

၂၁။ ပရမတ္ထသံခိပ်ဋီကာ ၃-တွဲ။
၂၂။ သမ္ဗာဒိဋ္ဌိဒိပနီ။
၂၃။ ပါဠိစာရေးသင်။
၂၄။ ပါဠိစကားသင်။
၂၅။ သဒ္ဒသံခိပ်။
၂၆။ ကုသဂီတိ။
၂၇။ ဝေဿန္တရာဂီတိ။
၂၈။ သာသနသမ္ဘတ္တိဒိပနီ။
၂၉။ မြန်မာရာဇဝင်သံခိပ်-(၁၂၀၇)
၃၀။ သူရဿတီနီတိ။
၃၁။ သုတ္တန္တနီတိ။(၁၂၀၇)
၃၂။ နီတိမဉ္ဇူရီ။
၃၃။ နီတိမာလာ(၁၂၈၁)
၃၄။ တိပိဋကနီတိ။
၃၅။ သာရသုန္ဒရီ(၆)တွဲ။
၃၆။ ဒေသနာမဉ္ဇူရီ။
၃၇။ သဒ္ဒမဉ္ဇူရီ။
၃၈။ စာဏကျနီတိဘာသာပြန်(၃-တွဲ)
၃၉။ ဆန်းချနက်။
၄၀။ အလင်္ကာချနက်။
၄၁။ သောတမာလာ။
၄၂။ ဝိထိမဉ္ဇူရီ။
၄၃။ ပစ္စယမဉ္ဇူရီ။
၄၄။ မဟာဝိသုဒ္ဓါရာမိက ထေရုပ္ပတ္တိဒိပနီ။

## ၇၅။ ဦးဖိုးကျား

(၁၂၅၂-၁၃၀၄)

ဦးဖိုးကျားမှာ ထင်ရှားသော မြန်မာကျမ်းပြုပညာရှင်တဦးဖြစ်လေသည်။

ဦးဖိုးကျားကို ၁၂၅၂-ခုတန်ခူးလဆန်း ၄-ရက်နေ့တွင် ဟင်္သာတခရိုင် နိဗ္ဗာန်ရွာတွင် ဦးဖေ-ဒေါ်ဒေါင်းတို့မှ ဖွားမြင်လေသည်။

ငယ်စဉ်က အသုတ်ဆရာတော် ဦးစန္ဒောထံတွင် ဗုဒ္ဓဘာသာစာပေများသင်ကြားပြီး ပုသိမ်မြို့ အင်္ဂလိပ်ကျောင်းတွင် ဆယ်တန်းအောင်မြင်သည်အထိ သင်ကြားကာ ရန်ကုန်မြို့ ဂျပ်ဆင်ကောလိပ်မှ ဘီအေအောင်မြင်ခဲ့လေသည်။

ဦးဖိုးကျားသည် မျိုးချစ်စိတ် ထက်သန်လှသည့်အတိုင်း ၁၉၂၀-ပြည့်နှစ် ကျောင်းသားသပိတ်တွင်ပါဝင်ခဲ့၍ အမျိုးသား ကျောင်းများ ပေါ်ပေါက် လာသောအခါ အမျိုးသားပညာဝန်အဖြစ် အစိုးရ

ရာထူးမယူဘဲဆောင်ရွက်ခဲ့ပြီး ကျမ်းပေါင်းများစွာကိုရေးသားပြုစုလေသည်။

ဦးဖိုးကျားသည်-ဒေါ်အေးကြည်နှင့်လက်ထပ်ခဲ့ရာ သားတယောက်ထွန်းကားလေသည်၊ ဒုတိယကမ္ဘာစစ်အတွင်းကထန်းတပင်မြို့သို့တိမ်းရှောင်နေ၍ ၁၉၄၂-ဧပြီလ ၁၀-ရက်နေ့ ၁၃၀၄ခုနှစ်တွင်ကွယ်လွန်ရာ ပြုစုခဲ့သောစာပေများတွင်အောက်ပါစာပေများပါဝင်လေသည်

၁။ ပုသိမ်ရာဇဝင်နှင့်ဦးထွန်းရှိန်အထ္ထုပ္ပတ္တိ။
၂။ ပေါရာဏအဘိဓာန်။
၃။ အလယ်တန်းမြန်မာရာဇဝင်။
၄။ မြန်မာ့ဂုဏ်ရည်ဖတ်စာများ။
၅။ မြောက်ပိုင်းဗုဒ္ဓဘာသာ။
၆။ ကိုယ်တွေ့-ဝတ္ထုများ။
၇။ ငါးရာငါးဆယ်ကောက်နုတ်ချက်များ။
၈။ ပါတော်မူအရေးတော်ပုံ။
၉။ ဦးပုညအထ္ထုပ္ပတ္တိ။
၁၀။ ခေတ်မှီမြန်မာရာဇဝင်အကျဉ်း။

---

## ၈၆။ ဦးဘချို

(၁၂၅၅-၁၃၀၉)

ဦးဘချိုမှာ ဗြိတိသျှခေတ်တွင်ထင်ရှားသော မြန်မာပညာရှိတဦးဖြစ်၍ နိုင်ငံတော်လွတ်လပ်ရေးအတွက် ဆောင်ရွက်ခဲ့သော ခေါင်းဆောင်တဦးလည်းဖြစ်လေသည်။

သကရာဇ် ၁၂၅၅-ခုနှစ် ကဆုန်လဆန်း ၁၀-ရက် တနင်းလာနေ့တွင် မြောင်းမြမြို့ ခုံမင်ကြီးဦးခို-ဒေါ်လုံတို့၏ သမီး ဒေါ်မြစ်နှင့် သမားတော်ကြီး ဦးဘိုးစာတို့မှ ဖွားမြင်လေသည်။

ငယ်စဉ်က မြောင်းမြမြို၌ ပညာသင်ကြားခဲ့၍ ရန်ကုန်မြို့ စိန်ပေါ်ကျောင်းတွင် ဆက်လက်သင်ကြားပြီးနောက် ရန်ကုန်တက္ကသိုလ်သို့ရောက်ရှိရာ မျက်စိရောဂါကြောင့် ဘီအေတန်းမှ ထွက်ခဲ့ရလေသည်၊ ၁၂၈၂-နှစ်တွင် အမျိုးသားတက္ကသိုလ်ကို ထူထောင်စဉ်က ပါဝင်ဆောင်ရွက်၍ပေါင်းတည်နှင့်ဟင်္သာတမြို့များတွင် ကျောင်းဆရာအဖြစ်ဆောင်ရွက်ခဲ့လေသည်။

ဦးဘချိုသည် လောကီ၊လောကုတ္တရာ စာပေနှံ့စပ်၍ မြန်မာ့အလင်း၊ ဓမ္မဇင်၊ နှစ်ပါးကြည်ဂျာနယ်၊ ဗန္ဓုလဂျာနယ်များတွင် ရေးသားခဲ့ရာမှ ၁၂၇၇-ခုနှစ်တွင် ဒီးဒုတ်ဂျာနယ်ကို စတင်ထုတ်ဝေလေသည်၊ ဒီးဒုတ်ဦးဘချိုအမည်အပြင် ဒိုးဒိုးဒေါက်၊ ကျူကောက်၊ ကေသာ၊ စပယ်၊ ဥက္ကလာ မခင်စိန်၊ အမိုက်မကလေးစသော အမည်များဖြင့် ဝတ္ထုဆောင်းပါး ကဗျာများစွာ ရေးသားခဲ့လေသည်။

၁၂၀၂-ခုနှစ်တွင် ဒေါ်လှမေနှင့် အိမ်ထောင်ပြု၍ စာရေးဆရာ အသင်းဖြစ်ပေါ်စေရန်လည်း အားပေးထူထောင်ခဲ့လေသည်။

ဦးဘချိုသည် အမျိုးသားစိတ်ထက်သန်၍ နိုင်ငံရေးဆောင်ရွက်ခဲ့ရာ ဒုတိယကမ္ဘာစစ်ကြီးအပြီးတွင် ဖ-ဆ-ပ-လအဖွဲ့ချုပ်ကြီးတွင် ပါဝင်ဆောင်ရွက်၍ ပြန်ကြားရေးဝန်ကြီးအဖြစ် ဆောင်ရွက်နေခိုက် ၁၃၀၉-ခုနှစ်ဝါခေါင်လဆန်း ၂-ရက်နေ့တွင်ဗိုလ်ချုပ်အောင်ဆန်းတို့နှင့်အတူ လုပ်ကြံခြင်းခံရသည်၊ ရေးသားပြုစုခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

၁။ ကပ္ပါလက်ာရဝတ္ထုနာကျမ်း။ ၂။ စမအဖွင့်ကျမ်း။
၃။ ဦးပုညသာသနာလျှောက်အဖြေ။ ၄။ ဂီတဝိသောဓနီကျမ်း။
၅။ ဇွေသီဟာဝတ္ထု။ (စပယ်အမည်ဖြင့်ရေးသည်။)

---

## ၈၇။ ဦးစိန်တင် (သိပ္ပံမောင်ဝ)
(၁၂၆၁-၁၃၀၄)

သိပ္ပံမောင်ဝအမည်ခံ ဦးစိန်တင်ကို ၁၂၆၁-ခုနှစ်တွင်မော်လမြိုင်မြို့ မုပွန်နတ်ကျွန်းအရပ်၌ ဦးအုန်းရွှေ-ဒေါ်ဒေါ်သစ်တို့မှ မွေးဖွားလေသည်၊ ၁၂၈၂-ခုနှစ်တွင် ရှင်မဟာဗုဒ္ဓဃောသ ကျောင်းမှ ဆဋ်ယတန်းစာမေးပွဲကို အောင်မြင်ခဲ့လေသည်၊ ငယ်စဉ်ကပင် ဝဇီရာတင့်အမည်ဖြင့် သတင်းစာများတွင် ဆောင်းပါးများရေးခဲ့လေသည်၊ ရန်ကုန်တက္ကသိုလ်၌ ဆက်လက် ပညာသင်ကြားရင်း ပဋ္ဌမကျောင်းသားသပိတ်အရေးတော်ပုံတွင် ဗဟိုနေရှင်နယ်ကျောင်း၌ ကျောင်းဆရာအဖြစ်အမှုထမ်းလေသည်၊ ထိုနောက် ၁၂၈၆-ခုနှစ်တွင် ပဋ္ဌမတန်း

မြန်မာစာဂုဏ်ထူးဖြင့် ဝိဇ္ဇာဘွဲ့ကိုဆွတ်ခူးခဲ့လေသည်၊ ထိုနောက်အင်္ဂလန်ပြည် အောက်စဖို့တက္ကသိုလ်တွင် အိန္ဒိယပဋိညာဉ် ခံဝန်ထမ်းပညာကို သင်ကြားပြီးနောက် ၁၂၉၁-ခုနှစ်တွင် နိုင်ငံတော် ဝန်ထမ်းအဖွဲ့၌ ဆောင်ရွက်လုပ်ကိုင်လေသည်၊ မိမိအတွေ့အကြုံများမှ အစမ်းစာအများအပြားကို ရေးသားလေသည်၊ စာပေ ဝေဘန်ချက်များကိုလည်း သိပ္ပံမောင်မြသွင်အမည်ဖြင့် ရေးလေသည်၊ လမ်းညွှန်စာပေများကိုလည်း တင်မောင်မြင့်အမည်ဖြင့် ရေးလေသည်၊ မြန်မာစာပေ တိုးတက်ရေးကို အထူးဆန္ဒထက်သန်စွာဆောင်ရွက်သည်။

ဦးစိန်တင်သည် ၁၃၀၄-ခုနှစ်တွင် ရွှေဘိုခရိုင် ကန့်ပလူမြို့အနီး ဂါဒါးဆည်ကြီးရွာတွင် ဓားပြလူဆိုးတို့ လက်ချက်ဖြင့် ကွယ်လွန်ရရှာလေသည်။

သိပ္ပံမောင်ဝပြုစုခဲ့သောစာပေများကို စာတစောင်တဖွဲ့အဖြစ် ရိုက်နှိပ်ကြရာ အောက်ပါစာအုပ်များထွက်ခဲ့လေသည်။

၁။ ခေတ်စမ်းရာဇဝင်ရေးများ။ (၁၃၁၇)
၂။ ခေတ်စမ်းပုံပြင်(၁၂၉၈)
၃။ အောက်စဖို့တက္ကသိုလ်မှတ်တမ်း။
၄။ သုံးပွင့်ဆိုင်စာပေ(၁၃၂၀)
၅။ ဝတ္ထုဆောင်းပါးများ(၁၃၂၃)

---

## ၈၈။ မဟာဆွေ

(၁၂၆၂-၁၃၁၅)

မဟာဆွေကို ၁၂၆၂-ခု ဝါခေါင်လဆန်း ၈-ရက်နေ့တွင်စစ်ကိုင်းမြို့အရှေ့မြောက် မင်းစံရပ်တွင် ဦးအောင်ငြိမ်း-ဒေါ်မြင်တို့မှ ဖွားမြင်သည်၊ မဟာဆွေသည် တတိယသားရတနာဖြစ်၍ ငယ်မည်မောင်မြသန်းဖြစ်၍ နောင်သော်မောင်ဘရှိန်ဟု ခေါ်လေသည်၊ ငယ်စဉ်ကရွှေတောင်ဦးကျောင်းတွင်၎င်း, စစ်ကိုင်းအလယ်တန်းကျောင်းတွင်၎င်း, မန္တလေးနော်မန်ကျောင်းတွင်၎င်း ပညာသင်ကြားလေသည်၊ထိုနောက်ဝက်လက်မြို့တွင် ကျောင်းဆရာအဖြစ် လုပ်ကိုင်ခဲ့လေသည်၊ မဟာဆွေသည် ရွှေဖူးစာပြိုင်ဝတ္ထုမှစ၍ ဝတ္ထုများရေးသားကာ (၁၂၉၁) ၁၉၂၉-ခုနှစ် ဇူလိုင်လထုတ် သူရိယမဂ္ဂဇင်းပါ မနန်းဝါဝတ္ထုမှစ၍

မဟာဆွေအမည်ကို ခံယူလေသည်၊ ထိုနောက်တွင်ရန်ကုန်မြို့သို့ရောက်ရှိလာ၍ ရဲသတင်းစာတွင် အယ်ဒီတာအဖြစ် ဆောင်ရွက်လေသည်၊ မဟာဆွေသည် မွန်းသော်တာအမည်,နေသူရိန်အမည်တို့ဖြင့်လည်း စာများရေးလေသေးသည်။

မဟာဆွေသည် ၁၃၁၅-ခုနှစ်တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

မဟာဆွေသည် ဝတ္ထုရှည်ပေါင်း ၆၀-ကျော် ဝတ္ထုတို၅၀၀-ကျော်နှင့် ဆောင်းပါးအများရေးသားခဲ့ရာ အောက်ပါဝတ္ထုနှင့် ကျမ်းများပါဝင်လေသည်။

ဒို့မေမေ, သူပုန်ကြီး, ဈေးချိုသူ, ပျိုတောင်ပြိုး, နတ်ရွာစံ, မောင်တို့ပြည်, မယ်တို့ပြည်, ရတီမှန်၊ မောင်နေမျိုး, အိုဘဲ့ဖူးစာ, စစ်ထွက်သူ, (၁၀)စာရေးကြီး,စောရသက်ပြင်း, စောရလက်ဝဲ, သုံးရွှေလယ်, ချစ်ရေလယ်, မြူဘိုမောင်, ဒါဒို့ပြည်, တောနဲ့တောင်စွယ်, သူပုန့်အိမ်, ကာလပြောင်းပြန်,(၂၀) ချစ်ပွေလီ, ချစ်လောကီ, ဒမစကြာ, နှစ်ဆင့်မေတ္တာ, ဝေ့ရွှေယောက်ဖ, အကျိုးဆောင်ကြီး, ထောင်နန်းစံ, ချစ်ဇွဲကံ, မ-စိတ်, စစ်မြေပြင်နှင့် ချစ်ရေစင်, (၃၀) ချစ်ရေစင်, ချစ်ကြောင်းကုန်စင်, ဗိုးမောင်မောင်, ချစ်ကလိန်, ချစ်သန့်စင်, လေးပွင့်ဆိုင်, မင်းခေါင်နော်ရထာ, ညီလာခံသဘင်, စားတတ်သူ, ငါမင်းဖြစ်လျှင်,(၄၀)ချစ်သူပုန်, ကိုးသန်းရှင်၊မဟာဆွေ့,အချစ်ပြဿနာ, လူကြီးချီချီစို့နည်း။

---

## ၁၉။ ဦးချစ်မောင် (ဂျာနယ်ကျော်)

(၁၂၇၄-၁၃၀၇)

ဦးချစ်မောင်မှာ ဗြိတိသျှလက်ထက်တွင်ထင်ရှားသော စာရေးဆရာနှင့်သတင်းစာဆရာတဦးဖြစ်လေသည်။

ဦးချစ်မောင်ကို ဦးမြနှင့်ရွှေကျင်ဝန်ကြီး၏သမီး ဒေါ်စောယုတို့မှ ၁၂၇၄-ခုနှစ် ပြာသိုလဆန်း ၁၃-ရက်နေ့တွင် ဖွားမြင်လေသည်၊ ငယ်စဉ်က လက်ပန်တန်းမြို့ အစိုးရအထက်တန်းကျောင်းတွင် ပညာ

သင်ကြားပြီးနောက် ရန်ကုန်မြို့သို့လာရောက်ကာ နေ့ရထာသတင်းစာတိုက်တွင် ဝင်ရောက်လုပ်ကိုင်လေသည်။

ထိုနောက် ရွေးနှုန်းသတင်းစာနှင့် မြန်မာ့အလင်း သတင်းစာတိုက်များတွင် ဝင်ရောက်လုပ်ကိုင်လေသည်၊ ၁၃၀၁-ခုနှစ်တွင် မြန်မာ့အလင်းသတင်းစာတိုက်မှနှုတ်ထွက်၍ ဂျာနယ်ကျော်အမည်ဖြင့် ဂျာနယ်စာစောင်ထုတ်ဝေရာမှ ဂျာနယ်ကျော်ဦးချစ်မောင်ဟု ထင်ရှားလာလေသည်၊ ရွှေလင်းယုန်ဟူသော ကလောင်အမည်ကိုလည်းယူ၍ ဆောင်းပါးများနှင့် စာအုပ်များရေးသားလေသည်။

တော်လှန်ရေး အရေးတော်ပုံတွင်ပါဝင်၍ ဖ-ဆ-ပ-လ-ဗဟိုဦးစီးအဖွဲ့တွင် ပါဝင်ဆောင်ရွက်ခဲ့လေသည်၊မြန်မာနိုင်ငံစာရေးဆရာအသင်း၏ဥက္ကဋ္ဌလည်းဖြစ်ခဲ့လေသည်။

ဦးချစ်မောင်သည် ၁၃၀၇-ခုနှစ် နှောင်းတန်ခူးလဆန်း ၂-ရက်နေ့တွင်ကွယ်လွန်ရာ ရေးသားပြုစုခဲ့သောစာပေများတွင် အောက်ပါစာပေများပါဝင်လေသည်။

၁။ ရှာရှာဖွေဖွေ။
၂။ ကမ္ဘာကြီးပျက်စီးလုနီးပြီးလော။
၃။ နိုင်ငံတော်သစ်သို့။
၄။ မှိုင်းမှုံမှုံဝတ္ထု။
၅။ သူ-ဝတ္ထု။
၆။ ဒိုင်ယာရီ။

# အမျိုးသမီးစာဆိုတော်များ

## အမှာ

အမျိုးသမီးစာဆိုတော်များ၏အတ္ထုပ္ပတ္တိများကို ရှာဖွေစုံစမ်းရာတွင် အတ္ထုပ္ပတ္တိဟု ဆိုရလောက်အောင် သိမှိနိုင်သော အမျိုးသမီးစာဆိုတော်များမှာ အနည်းငယ်သာ တွေ့ရှိရသဖြင့် စာပေလောကတွင် ထင်ရှားသော အောက်ပါအမျိုးသမီး စာဆိုတော် ၃၆-ဦးအနက်မှ ခရေပွင့်ပြထားသော စာဆိုတော်အမျိုးသမီး ၈-ဦး၏ အတ္ထုပ္ပတ္တိများကိုသာ ဖေါ်ပြလိုက်ရပေသည်။

## စာဆိုအမျိုးသမီးများ။

၁။ စောပြည့်ညို (၁၅၀-ခန့်)။
၂။ ရွှေပြည့်ရှင်မယ် (၈၀၀-ခန့်)။
၃။ မယ်ထွား (၉၀၀-ခန့်)။
၄။ လင်းဇင်းမင်းသမီး (၉၀၀-ခန့်)။
၅။ မိဖြူ (၉၀၀-ခန့်)။
၆။ မိညို (၉၀၀ခန့်)။
၇။ ပဲခူးမိဖုရား (၉၃၀-ခန့်)။
၈။ *ရာဇဓာတုကလျာ (၉၃၀-ခန့်)။
၉။ ထွေးလှနှင့်ခင်မထွေး (၉၃၀-ခန့်)။
၁၀။ စောမင်းနှစ်(၉၃၀-ခန့်)။
၁၁။ သရေစည်သူကတော် (၉၃၀-ခန့်)။
၁၂။ တန်ဆောင်းမိဖုရား (၉၃၀-ခန့်)။
၁၃။ ပြည်မိဖုရား (၉၃၀-ခန့်)။
၁၄။ *ရွှေဆင်းတု (၁၀၀၀-ခန့်)။
၁၅။ မိပန်းရန် (၁၁၂၀-ခန့်)။
၁၆။ *ရှင်မင်း (၁၁၅၀-ခန့်)။
၁၇။ မယ်လုပ် (၁၁၅၀-ခန့်)။
၁၈။ ပုခန်းသူမ (၁၁၅၀-ခန့်)။
၁၉။ *မယ်ခွေ (၁၁၅၀-ခန့်)။
၂၀။ ရဝေရှင်ထွေး (၁၁၅၀-ခန့်)။
၂၁။ *ခင်ဆုံ (၁၁၅၀-ခန့်)။
၂၂။ *ကြည့်ညွှပ်မင်းသမီး (၁၁၇၁-၁၂၀၃)။

၂၃။ *မမြကလေး (၁၁၇၁-၁၂၀၆)။
၂၄။ *လှိုင်ထိပ်ခေါင်တင် (၁၁၉၅-၁၂၃၇)။
၂၅။ မယ်တော်လယ်နန်း (၁၂၀၀-ခန့်)။
၂၆။ စည်သူကတော် (၁၂၀၀)။
၂၇။ ယမ်းပြိုမင်းမြောက် သားတော် (၁၂၀၀-ခန့်)။
၂၈။ မြင်စိုင်းမင်းသမီး (၁၂၀၀-ခန့်)။
၂၉။ သီလရှင်မယ်ကင်း။
၃၀။ ပင်းသာမြို့စားခင်ဖူး။
၃၁။ မတ္တရာကခြေသည်မ။
၃၂။ တောင်ဆောင်မိဖုရား။
၃၃။ တပင်တိုင်မင်းသမီး။
၃၄။ ခင်ခင်ကြီး။
၃၅။ ဦးကြေ့သမီး။
၃၆။ *မမိ(၁၂၂၀-၁၂၅+)။

---

## ၁။ ရာဇဓာတုကလျာ

(၉၅၀-ခန့်)

ရာဇဓာတုကလျာသည် တောင်ငူခေတ်တွင် ထင်ရှားသော အမျိုးသမီး စာဆိုတော်တဦးဖြစ်လေသည်။

သကရာဇ် ၉၂၁-ခုနှစ်တွင် ဟံသာဝတီ ဆင်ဖြူရှင်နှင့် ဒိဗ္ဗယင်းစတုကာမဏိ၏ သမီးရှင်ထွေးလှ (ရာဇဒေဝီ)တို့မှဖွားမြင်သော သမီးတော်ဖြစ်၍ ဓာတ် - တော်များ ကြွချီလာသည့်နေ့တွင် ဖွားမြင်သောကြောင့် ရာဇဓာတုကလျာဟု အမည်ပေးလေသည်။

သကရာဇ် ၉၄၀-ပြည့်နှစ်တွင် မောင်တော် နော်ရထာစောသည် ဇင်းမယ်ကိုအုပ်ချုပ်ရသဖြင့် ရာဇဓာတုကလျာကို ဇင်းမယ်ဘုရင်၏နှမဟူ၍လည်းခေါ်လေသည်၊၉၄၆-ခုနှစ်တွင် ငါးဆုဒါယကာမင်း၏သားတော်အိမ်ရှေ့ ဥပရာဇာမင်းကြီးစွာက သိမ်းပိုက်လေသည်၊ ၉၅၄-ခုနှစ်တွင် အိမ်ရှေ့မင်းကံကုန်သဖြင့် နတ်သျှင်နောင်နှင့် အကြောင်းပါပြန်လေသည်၊နတ်သျှင်နောင်သည် ၉၇၁-ခုနှစ်တွင် ခမည်းတော်နတ်ရွာစံသဖြင့် တောင်ငူတွင် နန်းတက်ရလေသည်။

ရာဇဓာတုကလျာသည် ရတုများကိုရေးသားခဲ့သည်ဟုဆိုသည်။

---

## ၂။ ရွှေဆင်းတု

(၁၀၀၀-ခန့်)

ရွှေဆင်းတုမှာ ညောင်ရမ်းခေတ်တွင် ထင်ရှားသော စာဆိုတော်မင်းသမီးတပါးဖြစ်လေသည်။

သကရာဇ် ၉၉၅-ခုနှစ်တွင် နန်းတက်သော သာလွန်မင်းတရားနှင့် မိုးနဲစော်ဘွားသမီး မြောကြီးကတော် ခင်သက်နှင်းတို့မှ ဖွားမြင်သော သမီးတော်ဖြစ်လေသည်။

ရွှေဆင်းတုမင်းသမီးသည် အနောက်ဖက်လွန်မင်းနှင့် မိုးကောင်းပန်ထွာစား ခင်မျိုးမြတ်တို့၏သား မင်းရဲအောင်တင်ထံသို့ ပြန်ကြားသောလွယ်လွယ်ကူကူချီရတုပိုဒ်စုံကို ရေးသားခဲ့လေသည်။

သာလွန်မင်းသည် ၁၀၀၂-ခုနှစ် နတ်တော်လတွင် ရွှေဆင်းတုနှင့် မင်းရဲအောင်တင်ကို လက်ထပ်ပေးပြီးနောက် စည်ပုတ္တရာမြို့ကို အပိုင်စားပေး၍ ကွမ်းခွက်လက်ဖက်အိုး စသည်ကိုလည်းပေးလေသည်။

---

## ၃။ ရှင်မင်း

(၁၀++-၁၁၄၃)

ရှင်မင်းမှာ ကုန်းဘောင်ခေတ်တွင် ထင်ရှားသောစာဆို မိဖုရားတပါး ဖြစ်လေသည်၊ ရှင်မင်းသည် စဉ့်ကူးမင်း၏ မိဖုရားဖြစ်၍ မြင်းစုဝန်ကြီးသမီး သီရိစန္ဒာ ဒေဝီရှင်ဖွားနှင့် ကျီအတွင်းဝန် နန္ဒကျော်ထင်မောင်ထွန်းတို့မှ ဖွားမြင်လေသည်။

သကရာဇ် ၁၁၃၈-ခုနှစ်တွင် စဉ့်ကူးမင်း နန်းတက်တော် မူရာ ရှင်မင်းကို မဟာရတနာ စန္ဒာဒေဝီဘွဲ့ဖြင့် မိဖုရားမြှောက်လေသည်၊ သမီးတော် မင်းရွှေနှစ်ကိုဖွားမြင်လေသည်။

၁၁၃၉-ခုနှစ်တွင် ရှင်မင်းသည် ကျောက်စံကတော် ကျောင်းရာဟောင်းတွင်သုံးထပ်ကျောင်းတော် ဆောက်လုပ်၍ ရတနာစံလွတ်ဟု သမုတ်ပြီးလျှင် မင်းပူးဆရာတော်ကလျာဏ လောကစိန္တာဘိ ဓဇမဟာဓမ္မရာဇဂုရုအား တင်လှူတော်မူလေသည်။

၁၁၄၃-ခုတပေါင်း လဆန်း ၃-ရက်နေ့တွင် ဘိုးတော်ဘုရား ထီးနန်းရယူရာ၌ စဥ့်ကူးမင်းနှင့်အတူ ကွပ်မျက်ခြင်းခံရလေသည်။

မိဖုရား ရှင်မင်းသည် တေးထပ်လေးဆစ်,ဘုရားတိုင်ရတု, မိုးဘွဲ့ ရတု,များကို ရေးသားခဲ့လေသည်။

---

## ၄။ မယ်ခွေ
(၁၁၅၀-ခန့်)

* မယ်ခွေသည် ဘိုးတော်ဘုရား လက်ထက်တွင် ထင်ရှားသော နန်းတွင်းသူ အမျိုးသမီးစာဆိုတော်တဦး ဖြစ်လေသည်။

မယ်ခွေသည် ရွှေဘိုမြို့နေ စစ်တောင်းဝန်၏ သမီးဖြစ်၍ အမွေဝန် ဟောင်း မောင်စွက်နှင့် လက်ထပ်သည်။

မယ်ခွေ ရေးသားခဲ့သော စာပေများတွင် အောက်ပါ စာပေများ ပါဝင်လေသည်။

၁။ ဆယ့်နှစ်ရာသီအဲချင်း။
၂။ ရှစ်ဆယ်ပေါ်အဲ(လပအဲ)။
၃။ မိုးနဲ့ဝန်ကတော် ကွယ်လွန်ရာ ငိုချင်း။
၄။ ဘိုးတော်၏ မိထွေးတော် ဒလမြို့စား လွန်ရာ ငိုချင်း။
၅။ ပြင်စည် မြင်းမှူး မင်းသား မင်းရဲ မင်းလှ ရွှေတောင် သေလွန်ရာ ငိုချင်း။
၆။ ရှင်နှင်းပွင့်,ရှင်သဲတို့ သေလွန်ရာ ငိုချင်း။
၇။ အမြင့်မင်းသား မောင်ကြီး သေလွန်ရာ ငိုချင်း။
၈။ မင်းကွန်း စေတီတျာဘွဲ့။
၉။ အမရပူရ ဘုရား လေးဆူ တိုင်အဲ။
၁၀။ ဆေးတံဘွဲ့, ဆေးလိပ်ဘွဲ့။
၁၁။ ကျေးစေဘုရားတိုင် မယ်ဘွဲ့ မောင်ဘွဲ့ မိုးဘွဲ့ ရတုများ။

---

## ၅။ ခင်ဆုံ
(၁၁၅၀-ခန့်)

ခင်ဆုံမှာ ဘိုးတော်ဘုရားလက်ထက်တွင်ထင်ရှားလှ၍ရွာအပိုင်စား ရသော စာဆိုတော်အမျိုးသမီးတဦး ဖြစ်လေသည်။

ခင်ဆုံသည် ဇလွန်မြို့စား ရွှေလှံ့ဗိုလ်နှင့်လက်ထပ်သည်၊ ထို့ကြောင့် ရွှေလှံ့ဗိုလ်ကတော်ဟူ၍လည်း ခေါ်တွင်လေသည်။

မြဝတီဦးစနှင့် ခင်ဆုံတို့ စာဆိုဖက် ဖြစ်လေသည်၊ ရွှေလှံ့ဗိုလ်မှာ ခင်ဆုံထက် စောစွာ ကွယ်လွန်လေသည်၊ ရွှေလှံ့ဗိုလ်သည် ကောင်းတုံဝန်မင်းကြီးဖြစ်သဖြင့် ကောင်းတုံမင်းကြီးကတော်ဟုလည်း ခင်ဆုံအား ခေါ်လေသေးသည်။

ခင်ဆုံသည် ကွပ်ရွာမြို့ကို စားရ၍ မင်းတုန်းမင်း လက်ထက်တွင်မှ ကွယ်လွန်လေသည်။

ပတ်ပျိုး၊ လေးဆစ်၊ တေးထပ်၊ သီချင်းခံ စသည်များကို ရေးသားခဲ့လေသည်။

## ၆။ ကြီးညှပ် မင်းသမီး

(၁၁++-၁၂၀၃)

ကြီးညှပ်မင်းသမီးမှာ ဘိုးတော်ဘုရားလက်ထက်တွင် ထင်ရှားသော စာဆိုအမျိုးသမီးတပါးဖြစ်၍ ဘိုးတော်ဘုရား၏သားတော် မက္ခရာမင်းသား မဟာသီရိသုဓမ္မရာဇာ၏ မျောက်သားတော်စ် ဖြစ်လေသည်၊ သမီးတော် ပန်းတောင်းလေးမြို့စားကို ဖွားမြင်သည်။

၁၂၀၂-ခုနှစ် ဝါဆိုလဆန်း ၁၅-ရက်နေ့တွင် အနိစ္စရောက်သည်၊ ရှုတုပိုဒ်စုံများကို ရေးသားခဲ့သည်။

## ၇။ မမြကလေး

(၁၁၇၁-၁၂၀၇)

မမြကလေးမှာ ကုန်းဘောင်ခေတ်တွင် ထင်ရှားသော စာဆိုတော် အမျိုးသမီးတဦးဖြစ်လေသည်။

ပုသိမ်နယ် သာရဝေါ-ပွဲနင်းမင်းပုံရှိဘွဲ့ခံ သမိန်ထောရာဇာနှင့် မယ်အိတို့မှ ၁၁၇၁-ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၂-ရက် တနင်းလာနေ့တွင်မမြလေးကိုဖွားမြင်လေသည်၊ငယ်မည်မှာမမြကြွတ် ဖြစ်လေသည်။

သာယာဝတီမင်း မြို့စားအဖြစ်နှင့်စံစဉ် နှစ်သက်သဖြင့် ကောက်ယူ၍ ၁၁၉၉-ခုနှစ်တွင်အထွတ်အမြတ်သို့ရောက်သောအခါသုရတနာ-စန္ဒာဒေဝီဘွဲ့နှင့် အနောက်နန်းတော်ကို ချီးမြှောက် ပေးအပ်သောကြောင့် အနောက်နန်းတော်မမြလေးဟု တွင်လေသည်၊ သမီးတော် လှိုင်ထိပ်ခေါင်တင်ကို ဖွားမြင်လေသည်။

မမြကလေးသည် ၁၂၁၇-ခုနှစ် ဝါခေါင်လတွင် အထင်တော်လွဲမှား ကွပ်မျက်ခြင်းခံရလေသည်။

ပတ်ပျိုးများ,တေးထပ်,ဒွေးချိုး, လေးချိုးနှင့် ဘုန်းတော်ဘွဲ့ သီချင်းခံကြီးများကို ရေးသားခဲ့လေသည်။ ]မမြလေးရေး ပတ်ပျိုးများတွင် အောက်ပါတို့ ပါဝင်လေသည်။

၁။ ရှိစုံရွက်ကြာချီပတ်ပျိုး။
၂။ နဝရတ်ရောက်စုံချီပတ်ပျိုး။
၃။ ဂန္ဓမာရိပ်သာဖလ်ဂုနန်းက လေချီပတ်ပျိုး။
၄။ ရွှေဖိဂေါဇင်ချီပတ်ပျိုး။
၅။ ဂန္ဓမာတောင်ချီပတ်ပျိုး။
၆။ ချစ်သမျှကိုချီပတ်ပျိုး။

---

## ဂ။ လှိုင်ထိပ်ခေါင်တင်

(၁၁၉၅-၁၂၃၇)

လှိုင်ထိပ်ခေါင်တင်မှာ ကုန်းဘောင်ခေတ်တွင် ထင်ရှားသော စာဆိုတော်မင်းသမီးတပါးဖြစ်လေသည်။

သကရာဇ် ၁၁၉၅ - ခုနှစ်တွင် အိမ်ရှေ့စံ သာယာဝတီမင်းနှင့် မိဖုရားမမြလေးတို့မှ ဖွားမြင်လေသည်၊ ငယ်မည်မှာ မဖွားကြီးဖြစ်လေသည်၊ ခမည်းတော်,မယ်တော်တို့က တင်တင်ဟုခေါ်လေသည်။

တင်တင်သည် တေးကဗျာနှင့် ဂီတဖက်တွင် ထူးချွန်လေသည်၊ ခမည်းတော် အထွတ်အမြတ်သို့ ရောက်သောအခါ သီရိသုမြတ်စွာ-ရတနာဒေဝီဘွဲ့ဖြင့် လှိုင်မြို့ကို အပိုင်စားပေးသဖြင့် လှိုင်မင်းသမီး, လှိုင်ထိပ်ခေါင်တင်ဟု အမည်တွင်လေသည်။

အသက် ၁၂-နှစ်အရွယ်တွင် မယ်တော်ကွပ်မျက်ခံရ၍ မင်းတုန်းမင်းကြီး၏မိဖုရားကြီးက ကောက်ယူမွေးစားကာ ၁၂၁၅-ခုနှစ်တွင် အိမ်ရှေ့စံ ကနောင်မင်းသားနှင့် လက်ထပ်လေသည်၊ ထန်းတပင်မင်း

ခေါ်သားတော်တပါးထွန်းကားသည်၊ ထိုနောက် ကနောင်မင်းသား မှာ မြင်ကွန်းမင်းသား အရေးတော်တွင် လုပ်ကြံခံရ၍ အနိစ္စရောက် လေသည်။

လှိုင်ထိပ်ခေါင်တင်သည် သကရာဇ် ၁၂၃၇-ခုနှစ် ပြာသိုလဆန်း ၅-ရက်နေ့တွင် အနိစ္စရောက်သည်။

ရေးသားခဲ့သော စာပေများတွင် အောက်ပါစာပေများ ပါဝင် လေသည်။

၁။ ဝိဇယကာရီနန်းတွင်း ဇာတ်တော်။
၂။ ရှန္ဒာဝံသနန်းတွင်းဇာတ်တော်။
၃။ သီချင်းခန့်များ။
၄။ ပတ်ပျိုးများ။
၅။ ယိုးဒယားသီချင်းများ။
၆။ ဘောလယ်များ။
၇။ တေးထပ်များ။
၈။ ကဗျာလင်္ကာများ။

---

## ၉။ မမိ

(၁၂၂၀-၁၂၅+)

မမိသည် ကုန်းဘောင်နှောင်းခေတ်နှင့် ဗြိတိသျှခေတ်အကူးကာလ တွင် ထင်ရှားသောအမျိုးသမီးစာဆိုတော်တဦးဖြစ်လေသည်။

သကရာဇ် ၁၂၂၀-ခု တပို့တွဲလပြည့်ကျော် ၉-ရက် ဗုဒ္ဓဟူးနေ့တွင် သုံးဆယ်မြို့၌ ဦးလူငယ်-ဒေါ်ရွှေမယ်တို့မှ ဖွားမြင်လေသည်၊ စာပေ လေ့လာ သင်ကြား တတ်မြောက်၍ ဝန်ထောက် မောင်ငွေခိုင်နှင့် လက်ထပ်လေသည်၊ မီးဖွားစဉ် သုံးဆယ်မြို့တွင် ကွယ်လွန်လေသည်။

မမိသည် မေတ္တာစာများကိုရေးသားခဲ့ရာ အောက်ပါတို့ ပါဝင် လေသည်။

၁။ မမိက မယ်စိန်ပေးမေတ္တာစာ။
၂။ ပွဲစားဦးသိုင်းက မယား ပေးမေတ္တာစာ။
၃။ စံရွှေးစစ်ကဲတော်မင်းသားများ ထံပေးမေတ္တာစာ။
၄။ မမိက မင်းလှမြို့သို့ ပန်း တောင်းမေတ္တာစာ။

၅။ မမိကရန်ကုန်မြို့မသိန်းသို့ပေး မေတ္တာစာ။

၆။ ပရိတ်ရွတ်ကြွမေတ္တာစာ။

၇။ မအှုပင်မြို့အခွန်ဝန်မင်းကသားများထံပေးမေတ္တာစာ။

၈။ သာယာဝတီ စာရေးကြီး ကရန်ကုန်မြို့ ဘထွေးထံ ပေးမေတ္တာစာ။

၉။ စံရွှေးမြို့ကို ဘိုးမြင့်သားရှင်ပြု ဘိတ်စာ။

၁၀။ မမိက မဖွားထူသို့ ပေး မေတ္တာစာ။

၁၁။ မမိကမပိုးဖြူထံပေးမေတ္တာစာ။

၁၂။ ဥပုသ် အမများကို ပေး မေတ္တာစာ။

၁၃။ သမာဂီတပရိကံ တေးသစ်။

# အထွေထွေအပြည့်အစုံစုံစမ်းမရရှိသော ကျမ်းပြုလုပ်ဂ္ဂိုလ်အချို့

၁။ ကုလား၊ဦး။ ။တနင်္ဂနွေမင်း လက်ထက်။ ။ရာဇဝင်ကြီး၊ ရာဇဝင်လတ်၊ရာဇဝင်ချုပ်။

၂။ ကင်း၊ မောင်။ ။ဆင်ဖြူရှင်လက်ထက်။ ။ဆင်ဖြူရှင်မယ် ချင်း၊ ကျေးဇူးတော်မင်္ဂလာမော်ကွန်း။

၃။ ကောင်း၊ဦး ။ ။စာရေးကြီး၊ ၁၁၇၃။ ။နရသုခ၊ နရမာလာ၊နရရာသီ၊နရဩသဓ၊နရတန်ဆောင်။

၄။ ကို၊မောင် (ပုဂံ)။ ။ရတုများ၊ ဓာတုသမ္ဗန္ဓကျမ်း။

၅။ ကျော်စွာမင်း(၅၉၆-၆၁၂)။ ။ဇေယျသင်္ခမင်း၏သား။ ။သဒ္ဒဗိန္ဒု စာကိုယ်ပါဌ်၊ပရမတ္ထဗိန္ဒုစာကိုယ်ပါဌ်။

၆။ ကျော်၊ မောင်။ ။မြောက်ထားဝယ် သွေးသောက်ကြီး။ ။ မြင်းပတ်တိုက်လင်္ကာ။

၇။ ကျော်၊ဦး။ ။မန္တလေးမြို့၊ မြန်မာမဟာ မင်္ဂလာ မင်းခန်းတော်။

၈။ နိုင်ဦး။ ။ရွှေကျင်မြို့စားဝန်ကြီး။ ။ညည်းချင်းများ။

၉။ ခွေးပု၊ဦး။ ။ကန်နီ၊ရေပုပ်ရွာ၊မရဏာသန္တသာချင်း။

၁၀။ စလင်းမင်းသား။ ။မောင်အို။ ။ရာဇဝံသဒီပက။

၁၁။ စည်သူဂါမဏိ သင်္ကြန်။ ။ရတနာပုံတိုက်စိုး။ ။ဇင်းမယ်ရာဇဝင်၊ ရခိုင်ရာဇဝင်။

၁၂။ စည်သူစွမ်းတောင် ။ ။ညောင်ရမ်းမင်း သံဆင့်။ ။ရတု အမျိုးမျိုး။

၁၃။ စည်သူသင်္ချာ။ ။အနောက်ဝန်။ ။လောက ချမ်းသာ ဒါယကာမင်းတရားချင်း။

၁၄။ စံတင်၊မောင်။ ။ဗာရာဏသီမော်ကွန်း။

၁၅။ စံထိန်၊ မောင်။ ။ မန်ကျည်းတောတိုက် ကျောင်းစာရေး၊ (ပုဂံမင်းလက်ထက်)။ ။သားရွှေကျူဆုံးမစာ။

၁၅။ **စံလှ၊မောင်။** ။ပဲခူးဗိုင်းဂနိုင်း၊သာရနယစကားပုံ ပ-ဒု။

၁၆။ **ဆီးကိုင်းစား။** ။ကျည်တောင်ဇာတ်။ ။နတ်ရှင် မယ်တော်ချောင်း။

၁၇။ **ဇေယျနန္ဒမိတ်။** ။စလွယ်တော်ဆင် မော်ကွန်း။

၁၈။ **ဇေယျပျံချီ။** ။အမတ်။ ။ပကိဏ္ဏကသြဝါဒမွေ့သတ်။

၁၉။ **ဇေယျပျံချီ။** ။ကန်တော်မင်းကျောင်းသူကြီး။ ။လှံတော်စကြာမော်ကွန်း။

၂၀။ **ဇေယျရန္တမိတ်ကျော်သူ။** ။လောက ချမ်းသာ ဒါယကာမင်းတရားချောင်း။

၂၁။ **ဇေယျသင်္ခယာ။** ။ဘိုးတော်ဘုရားလက်ထက်။ ။ရွှေဘုံနိဒါန်း၊ တောင်ငူဆိုရတုအဖြေ။

၂၂။ **ညို၊မောင်။** ။အတွင်းဝန်၊ ရွှေမင်းဘုန်းဆင်တော်မော်ကွန်း။

၂၃။ **တူ၊မောင်။** ။တံဆိပ်စာရေး။ ။သမ္ဗူလပျို့။

၂၄။ **တုတ်၊ဆရာ။** ။ရှင်ဝရသမ္ဘောဓိ (ရေစကြို) တပည့်။ ။နရကောဝိဒဒီပနီ။

၂၅။ **ထွန်း၊ဖေ၊ဦး(ဦးနတ်သား)။** ။ရှင်နာဂိန္ဒလူထွက်။ ။အတိသုန္ဒရကျမ်း၊ ဥက္ကံသမာလာကျမ်းတေးတပ်များ။

၂၆။ **နေမျိုးစည်သူရာဇာ။** ။ဆကာရန္တနယသတ်ပုံ။

၂၇။ **နေမျိုးနော်ရထာ။** ။ရတုများ။

၂၈။ **နေမျိုးနန္တမိတ်။** ။(မောင်ဘူးကလေး)အတွင်းဝန်တောက်။ ။မယ်တော်မာယာပျို့၊ဥမ္မာဒန္တီပျို့ဟောင်း။

၂၉။ **နေမျိုးမင္ဂကျော်သူ။** ။မောင်ဖား (ရှင်ဝဇီရဉာဏလူထွက်) သာယာဝတီနှင့် မင်းတုန်းမင်း လက်ထက်။ ။ဇာတိဝုတ်ပါဠိတော်နိသျှသစ်၊ ဝိထိစိတ္တဝိကာသနီ။

၃၀။ **နေမျိုးမင္ဂကျော်သူ။** ။စာတော်ပြင်၊ (မင်းတုန်းမင်းလက်ထက်)။ ။မူလမောဂ္ဂလာန်နိသျှ၊ ဝုတ္တိမောဂ္ဂလာန်နိသျှ၊ ကွာဒိမောဂ္ဂလာန်နိသျှ။

၃၁။ နေမျိုးမင်းကျော်ဇေယျသူ။ ။ဦးကျော်အေး၊ သံတော်ဆင့် (သီပေါမင်းလက်ထက်)။ ။မင်္ဂလာပျို့။

၃၂။ နေမျိုးသီရိဇေယျ ကျော်ထင်။ ။အင်းဝမြို့ရတုများ၊

၃၃။ နေမျိုးသီဟသူ။ ။ အတွင်းဝန်၊ (ဘိုးတော်ဘုရား လက်ထက်)။ ။အမရပူရမြို့သမိုင်း၊ ရာဇဝသတီပျို့။

၃၄။ နဲ၊မောင်။ ။ဝန်ကြီး။ ။ဆင်ကြွန်လင်္ကာ။

၃၅။ နန္ဒမိတ်။ ။ထားကလူးတား။

၃၆။ နန္ဒသူ။ ။မြို့စာရေး။ ။မင်းကွန်းစေတီတော် မော်ကွန်း၊ မင်းကွန်းဘုရားမော်ကွန်း။

၃၇။ နိုး၊ဦး။ ။ဘိုးတော်ဘုရား လက်ထက်။ ။ဝေဿန္တရာ ပျို့၊ ဇနကပျို့၊ ရှင်မာလဲပျို့၊ မဟာမြတ်မုနိသမိုင်းပျို့၊ ပဋာစာရီပျို့၊

၃၈။ ပု၊ဦး။ ။ရွှေကျောင်း၊ ရဲကျင်းဇာတိ။ ။စန္ဒကုမာရပျို့၊ ကုသပျို့၊ အလောင်းစည်သူလူးတား။

၃၉။ မိုး၊မောင်။ ။အလုံခင်မွန်ရွာဇာတိ၊ ဘိုးတော်ဘုရား သားတော်ရွှေတောင်မင်းသား၏ အကြီးတော်။ ။ဝါရိရူ ဓမ္မသတ် လင်္ကာ၊ ရာဇနီတိပျို့။

၄၀။ မိုက်၊ မောင်။ ။ဘိုးတော်ဘုရား သမီးတော်၏အကြီးတော် ။ ။မိတ္တိလာ ကာမ မင်းသမီးချောင်း။

၄၁။ ပုံချီမင်းသား။ ။ရွှေပြင်ထောင်မှူး။ ။ပုံချီဓမ္မသတ်။

၄၂။ ပုံချီရွှေတောင်။ ။အရေးတော်မော်ကွန်း။

၄၃။ ဖြေ၊ ဦး။ ။ဆယ့်နှစ်ရာသီဖွဲ့များ။

၄၄။ ပြည့်၊မောင်။ ။တောင်လေးလုံး ဆရာတော်တပည့်။ ။ စမွေယျပျို့။

၄၅။ ဖေါငယ်မောင်။ ။တောင်သမန် လယ်စား၊ (သီပေါမင်း လက်ထက်)။ ။တေးထပ်များ။

၄၆။ ဗညားဒလ။ ။ရာဇာဓိရာဇ် အရေးတော်ပုံကျမ်း။
၄၇။ ဘယကျော်သူ။ ။တရားသူကြီး။ ။ဓမ္မသတ်အင်းစောက်ချ ခွဲပုံ၊ ယသေဝီဓရောတမ်းချင်းပျို့။
၄၈။ ဘိုးမင်း၊ဦး။ ။နရသုခ အဓိပ္ပါယ်၊ အဘိဓမ္မာခတ်ကျမ်း၊ ရူပဝိနိစ္ဆယကုထုံး၊ ပရမတ္ထခတ်ကျမ်းနှင့် ပုလိပ်တပ်ကုထုံး။
၄၉။ ဘုန်း၊ဦး။ ။ဘကြီးတော်မင်းလက်ထက်။ ။လေးချိုးများ။
၅၀။ မနော်ဒေဝ်။ ။တရားစစ်။ ။ဂုတ္တိလပျို့၊နာရဒပျို့။
၅၁။ မဟာပညာကျော်။ ။ငါးဆူဒါယကာ မင်းလက်ထက်။ ။ လျှောက်ထုံး၊ ရတုများ။
၅၂။ မဟာမင်းလှရာဇာ။ ။ရွှေကျင်မြို့စား၊ ဟံသာဝတီဝန်ကြီး။ ။ ဘုန်းတော်ဘွဲ့ လေးချိုးများ။
၅၃။ မဟာသိရိဇေယျသူ။ ။မင်းကြီး။ ။စစ်ဆင်နည်း။
၅၄။ မဟာသမ်ယာ။ ။သာမုဒ္ဒိကလက္ခဏာကျမ်း။
၅၅။ မိုးနဲ့ဆရာကြီး။ ။ဘေသဇ္ဇကထာ။
၅၆။ မင်း၊မောင်။ ။မြင်းကြန်လကာ။
၅၇။ မင်းထင်သက်ရှည်။ ။လေးချိုးများ။
၅၈။ မင်းမင်္ဂလာ။ ။အယူတော်မင်္ဂလာ။ ။ရတုများ။
၅၉။ မင်းရာဇာ။ ။ဟံသာဝတီပါမင်းလက်ထက်။ ။ဟိတကာ ရီပျို့၊ ဂိုဏ်းရှစ်ပါးရွေးနည်းလကာ။
၆၀။ မင်းရဲနရသူ။ ။ဇမ္ဗူပတိပျို့။
၆၁။ မင်းရဲမင်းလှကျော်ခေါင်။ ။ရတုများ။
၆၂။ မင်းရဲမင်းလှကျော်ထင်။ ။ဟံသာဝတီပါမင်းလက်ထက်။ ။ မင်းထိပ်ဦးတင်ချေင်း၊ မင်းထိပ်ဦးနေချေင်း။
၆၃။ မင်းရဲမင်းလှကျော်ထင်။ ။ဟံသာဝတီပါမင်းလက်ထက်။ ။ မင်းရဲရတနာချေင်း။

၆၆။ မင်းလှမဟာဥဇ္ဇနာဝန်ကြီး။ ။မင်းတုန်းမင်းလက်ထက်။ ။ကဝိန္ဒောပမ မဥ္ဇူသာ။
၆၇။ မင်းလှမင်းထင်။ ။စာရေးတော်ကြီး။ ။ကိုးခန်းပျို့ အဖြေ။
၆၈။ မင်းလှရာဇကျော်ထင်။ ။မင်းတုန်းမင်းလက်ထက်။ ။အဘိရုပပျို့။
၆၉။ မောင်ဦး။ ။မင်းတုန်းမင်း လက်ထက်။ ။ပဋ္ဌမသင်္ဂါယနာတင် လေးချိုး, ဒုန်းချင်းများ။
၇၀။ မောင်ကလေးဦး။ ။စာရေးတော်ကြီး။ ။ရှစ်ဆယ်ပေါ်တေးတပ်, ရာသီဖွဲ့များ။
၇၁။ မြတ်ခေါင်၊ ရှင်။ ။ပယ်သူငယ်စား။ ။သခင်ကြီးချေင်း။
၇၂။ မြတ်ဘွယ်၊ မောင်။ ။ဘိုးတော်ဘုရားလက်ထက်။ ။ဘိုးတော်မယ်ချေင်း။
၇၃။ မြတ်အောင်၊ မောင်။ ။(ဝဏ္ဏဓမ္မ ကျော်ထင်) ဆင်ဖြူရှင်လက်ထက်။ ။မနုသာရဓမ္မသတ် ကျမ်းသစ်ပါဌ်, မနုဝဏ္ဏနာဓမ္မသတ်ကျမ်းပါဌ်,နိသျ, ဝိနိစ္ဆယ ပကာသနီကျမ်းပါဌ်, နိသျ။
၇၄။ မှည့်၊ ဆရာ။ ။ခြောက်လုံးကောက် ငွိကာခတ်ကျမ်း။
၇၅။ ရာဇပလ္လကျော်ထင်။ ။သက်ပန်း ရွာစား အတွင်းဝန်။ ။သုတ်သီလက္ခန် အဋ္ဌကထာဂဏ္ဌိ, မုဒ္ဒါဘိသေကမော်ကွန်း, မဟာပုရိသလက္ခဏာပျို့။
၇၆။ ရာဇဝေသော်။ ။ရှင်ဖြူဘုရားမော်ကွန်း။
၇၇။ ရာဇသူရိယ။ ။သီပေါမင်း လက်ထက်။ ။ရတနာ မာရ်အောင်ဒါယကာ ချေင်း။
၇၈။ ရေး၊ မောင်။ ။ပုခန်းကြီးဇာတိ၊ ဟသ်ာတ မင်းသမီး အကြီးတော်။ ။ရာဇဝံသဒီပက, (မောင်အိုနှင့် အတူပြုသည်) အပဏ္ဏကပျို့, ဒွါသဋ္ဌိဒိဋ္ဌိပျို့။
၇၉။ ရှည်၊ မောင်။ ။ဆည်သည်ရွာစား၊ ပြည်မင်း၏ သံတော်ဆင့်၊ (ဘိုးတော် ဘုရားလက်ထက်)။ ။ထိပ်တင်ဖွားချေင်း,အဝမြို့ဖွဲ့ ၁၂-ရာသီလူးတား။
၈၀။ ရက္ခမိတ်ကျော်ထင်။ ။နရောသခေတ်ကျမ်း။
၈၁။ ရန်အောင်မလ။ (အလောင်းဘုရား လက်ထက်)။ ။ဟံသာဝတီပါရတု အလိုက်ရတု, နိမိတ်ဖတ်ကေပိုဒ်, သီချင်းခန့်။

၈၁။ ရမ္မာသီရိကျော်ထင်။ ။ချောင်းဦးဆယ်ရွာစား၊ ပိဋကတ်တိုက်စိုး၊ (ဆင်ဖြူရှင် လက်ထက်)။ ။ဆဒ္ဒန် ပြောင်ကျော် ဆင်တော်မော်ကွန်း၊ သာသနဝံသကျမ်း၊ မဟာ ဝိနိစ္ဆယ စကားပြေ ဓမ္မသတ်ကျမ်း။

၈၂။ ရွှေတောင်သီဟသူ။ ။(အလောင်းဘုရား လက်ထက်)။ ။ရတနာကြေးမုံ ဝတ္ထု။

၈၃။ ရွှေထွန်း၊မောင်။ ။ဆင်ဖြူ ကျွန်း။ ။ကွန်ခြာ ဓာတ် ကျမ်း၊ ဓာတုဗေဒဓာတ်ကျမ်း။

၈၄။ ရွှေနီ၊ဦး။ ။နာခံတော်(သီပေါမင်းလက်ထက်)။ ။အတွေ့ဝါဒ ဆုံးမစာ၊ ပဋ္ဌာပါဠိရကန်။

၈၅။ ရွှေပု၊ဦး။ ။မုံရွေးဆရာတော်ဒါယကာ၊သူကြီး။ ။အမွေခွဲပုံ ဓမ္မသတ်။

၈၆။ ရွှေပု၊ဦး(ဦးပု-ရူ)။ ။

၈၇။ ရွှေမောင်ကြီး၊ဦး။ ။မှာတမ်းများ။

၈၈။ ရွှေလှ၊ဦး။ ။သံတော်ဆင့်၊ (ပုဂံမင်း လက်ထက်)။ ။ဇာတ်ချင်းများ။

၈၉။ လူ၊မောင်။ ။မြင်စိုင်းမင်းစာဆိုတော်။ ။မာလာလင်္ကာရပျို။

၉၀။ လက်ဝဲဘိုနန်သူ။ ။တရားသူကြီး၊ (အလောင်းဘုရား လက်ထက်)။ ။ဓမ္မဝိနိစ္ဆယ ဓမ္မသတ်။

၉၁။ လန်း၊ဦး။ ။ရွှေဘိုမင်းလက်ထက်။ ။ရတု၊ရကန်၊ဒုန်းချင်းများ။

၉၂။ လှ၊မောင်။ ။သံတော်ဆင့်။ ။မြင်းကြန် လင်္ကာ၊ ဆင်ကြန်လင်္ကာ။

၉၃။ လွှမ်းပြေ၊ဦး။ ။ဘိုးတော်ဘုရား လက်ထက်။ ။သီချင်းများ။

၉၄။ ဝိုင်း၊ဦး။ ။သာယာဝတီမင်းလက်ထက်။ ။ကုရင်ညြသံများ၊ သီချင်းများ။

၉၅။ သမန္တစက္ခု။ ။နဘက်မြို့သူကြီး။ ။ရေလားရတု။

၉၆။ သမန္တသူ။ ။တောင်တွင်းမြို့သမိုင်း။

၉၇။ **သာအောင်၊မောင်။** ။တောင်ခွင်မြို့စား။ ။လောကမာရဇိန်စေတီတော်မော်ကွန်း၊ သိမ်တော်မော်ကွန်း။

၉၈။ **သီရိစည်သူ။** ။ဆင်ဖြူရှင်လက်ထက်။ ။ရတုများ။

၉၉။ **သီရိနန္ဒကျော်ထင်။** ။လောကချမ်းသာဒါယကာချောင်း။

၁၀၀။ **သီရိမဟာသီဟသူ။** ။မဏိကက်ပျို့သစ်။

၁၀၁။ **သီရိဝေသူကျော်။** ။(စဉ့်ကူးမင်းလက်ထက်)။ ။သခင်မယ်ကေး ချောင်း၊ စဉ့်ကူးမင်းရွှေနန်းတော်သွင်း။

၁၀၂။ **သော်၊ဦး။** ။ဇော်တပဗန္ဓု၊ စင်တော်ကြီး။ ။မယ်ဘွဲ့၊ ဇာတ်ချင်းများ။

၁၀၃။ **သခ်ယာ။** ။တလုပ်မြို့စား။ ။မဟာဥပရာဇာချောင်း။

၁၀၄။ **သခ်သာရ။** ။မြို့စာရေး (ဘိုးတော်ဘုရား လက်ထက်)။ ။ဂရုဓမ္မပျို့။

၁၀၅။ **သံပျင်အမှတ်။** ။(နရပတိစည်သူလက်ထက်)။ ။သံပျင်ဋီကာ။

၁၀၆။ **အတုလမဟာဓမ္မိကရာဇာ။** ။မြင်းခုန်တိုင်မြို့စား တရားသူကြီး၊ (မောင်အေး)။လက်ဝဲသုန္ဒရ၏သား၊ ရာဇဝင်သံပေါက်၊ဘကြီးတော်ချောင်း၊ လွမ်းချင်းများ။

၁၀၇။ **အိ၊မောင်။** ။ရာသီဘွဲ့များ။

၁၀၈။ **ဦးကဒူ၊မောင်။** ။(ဘကြီးတော်လက်ထက်)။ ။တေမိပျို့သစ်။

၁၀၉။ **အေး၊မောင်။** ။လွှတ်စာရေး။ ။ကုရုမိဂပျို့သစ်။

၁၁၀။ **အောင်ဖြိုး၊မောင်။** ။ဟန်လင်းသမိုင်းပျို့။

# ဖြည့်စွက်ဖတ်ရှုရန်

အောက်ပါကျမ်းပြုပုဂ္ဂိုလ်များ၏ ကျမ်းစာရင်းများတွင် ယှဉ်တွဲဖေါ်ပြထားသောကျမ်းများကိုပါ ဖြည့်သွင်းမှတ်ယူစေလိုပါသည်။

၁။ ဝေဖျက်နှာ၁၁၆-ရှင်စန္ဒမဏ္ဍုသာ။ ။ယသော်ဓရာ ကန်တော့ခန်းပျို့။

၂။ ၃၁-တောင်လေးလုံးဆရာတော်။ ။၄။ မရှိပိဋ္ဌကရှုဖွယ်။ ၅။ နိဗ္ဗာန်ဆိပ်ဦးရှုဖွယ်။ ၆။ စတုဂီရိရှုဖွယ်။ ၇။ ယထာဘူတရှုဖွယ်။ ၈။ စာယဉ်ပန်းရှုဖွယ်။ ၉။ နမောတဿအဓိပ္ပါယ်ရှုဖွယ်။ ၁၀။ မဟာဓမ္မဒါနရှုဖွယ်။ ၁၁။ နိဗ္ဗိန္ဒရှုဖွယ်။ ၁၂။ ဗြဟ္မစရိယရှုဖွယ်။ ၁၃။ သမ္မာဒိဋ္ဌိရှုဖွယ်။ ၁၄။ သဉ္ဇောဇနရှုဖွယ်။ ၁၅။ ဓမ္မနီတိရှုဖွယ်။ ၁၆။ ရာဟုလောဝါဒရှုဖွယ်။ ၁၇။ ပကိဏ္ဏကရှုဖွယ်။ ၁၈။ အမတဒွါရရှုဖွယ်။ ၁၉။ မဟာဓမ္မ သံဝေဂရှုဖွယ်။ ၂၀။ ဝိပဿနာဘုရားရှိခိုးမှတ်စု။ ၂၁။ ကလျာဏအင်္ဂါသစ္စာအနက် ၁၆-ချက်။

၃။ ၆၄-သင်္ကြန်ကျောင်းဆရာတော်။ ။၃။ ဆန်းနိသျချနက်။ ၄။ တရားမတရားသူကြီး လျှောက်ထုံး။ ၅။ သလွန်ဖြူဖြတ်ထုံး။

၄။ ၁၀၈-စရွှေကျောင်းဆရာတော်။ ။၃၇။ ပဋိပတ္တိပကာသနီ။ ၃၈။ ဓမ္မပါနရှုဖွယ်။ ၃၉။ မဂ်ရောဝါဒဓမ္မကထာ။ ၄၀။ သမဇ္ဇဒါသဒီပနီ။ ၄၁။ ကာမာဒိနဝကထာ။ ၄၂။ ဥပသကာစရိယ။ ၄၃။ စက္ကဝဋ္ဋနာထောမနာ။ ၄၄။ နဝဂုဏဝဋ္ဋနာ။ ၄၅။ ဝိနည်းသာသနာလျှောက်။ ၄၆။ ဒွိဇောဝါဒသံဝေဂကထာပါဌ်၊ ၄၇။ နေက္ခမတ္တဒီပနီပါဌ်။ ၄၈။ ဇာဂရဂ္ဂသံယုတ်ပါဌ်၊ဋီကာ။ ၄၉။ ဣန္ဒြိယောဝါဒကထာပါဌ်။ ၅၀။ ရာဇောဝါဒဓမ္မကထာ။ ၅၁။ ပစ္စဝေက္ခဏာသံပေါက်။ ၅၂။ ဂရွာရောစနကထာ။ ၅၃။ ကုလဒူသကဝိနိစ္ဆယဒီပနီ။ ၅၄။ သာသနပဋ္ဌာနဒီပနီ။ ၅၅။ ဒသသီလဝိနိစ္ဆယ ဩဝါဒကထာ။ ၅၆။ သမ္ဗန္ဓနယ

ဒီပနီ။ ၅၇။ သဒ္ဒမေဒနီ။ ၅၈။ ရွှေကျင်နိဿယသစ်။ ၅၉။ အာ
စေရဝန္ဒနာပါဌ်။ ၆၀။ အာစေရဂုဏလင်္ကာရဒီကထာ။
၆၁။ နရာသိသဂါထာပါဌ်။ ၆၂။ နိဿယမုစ္စက ပဋိပတ္တိ
ပကာသနီ။ ၆၃။ ရာဇ၊ ရာဇာဒေဝီ၊ ဒေဝီမာတာ၊ မေတ္တာဘာဝနာ
ပါဌ်အနက်များ။ ၇၄။ တဗ္ဗကိတ္တကမေတ္တာ ဘာဝနာပါဌ်,
အနက်။ ၆၅။ နိဂ္ဂဟောဝါဒစာတမ်း။ ၆၆။ ဥပသကောဝါဒ
ရှုဖွယ်။ ၆၇။ လောကကြေးမုံ။ ၆၈။ သာသနာပြုဥပဒေများ။
၆၉။ မေတ္တာစာများ။ ၇၀။ ဆေးကျမ်းများ။

၅။ ၁၁၆-မန်လည်ဆရာတော်။ ။ပကိဏ္ဏက နိဿယံနှင့် ဋီကာကျော်
နိဿယံ။ ၃၀။ လောကသမုဒ ယကျမ်းပါဌ်နိသျ။ ၃၁။ ကဝိနိသျ
ကဗျာကျမ်း။ ၃၂။ တရားတောင်းနှင့် ရေစက်ချများ။
၃၃။ ရောင်ခြည်တော်ဖွင့်နှင့် ဘုရားရှိခိုးများ။

၆။ ၁၄၃-ညောင်လွန့်ဆရာတော်။ ။၆။ သီမဝိနိစ္ဆယကျမ်း။

၇။ ၁၄၄-လေသာဆရာတော်။ ။၁။ သီရိမင်္ဂလာသန္ဓိစာစပ်ကျမ်း။
၂။ သီရိမင်္ဂလာကျမ်းတက်။

၈။ ၁၄၆-သေက္ခ၂တောင်ဆရာတော်။ ။၁၀။ ဓမ္မရာသီကျမ်း။
၁၁။ လက္ခဏာဒီပနီကျမ်း။ ၁၂။ အဘိဓမ္မတ္ထ သစ္စဒီပနီ။
၁၃။ နိရုတ္တိပဒဗျူဠနီသဒ္ဒါပါဌ်နိသျ။ ၁၄။ စတုဗ္ဗိဓပုစ္ဆာဗျာ
ကရဏ။

၉။ ၁၅၅-မြဝတီဆရာတော်။ ။၁၃။ ရာဟုလာချွတ်ခကျော်း ဓါတ်
ကမ္မဋ္ဌာန်းကျမ်း။ ၁၄။ ခန္ဓာဝါးပါးကမ္မဋ္ဌာန်း။ ၁၅။ ဓမ္မ
ရာသီကျမ်း။ ၁၆။ ဓမ္မစကြာဋီကာ။ ၁၇။ ဓမ္မသေတ္တု အနှစ်
စုကျမ်း။

၁၀။ ၁၇၅-မိုးနံကုန်းဆရာတော်။ ။တိပိဋကပကိဏ္ဏကဒီပနီ။

၁၁။ ၁၇၈-ဒုတိယသဒ္ဓမ္မဇောတိကာရာမဆရာတော်။ ။
၂၂။ သန္ဓေသ သမုစ္စယ။ ၂၃။ သီဟဠကပုစ္ဆာဝိသဇ္ဇနာ။
၂၄။ ဝိထိဝိကာသနီ။ ၂၅။ သမ္မာဝေသျှတ္တဝိနိစ္ဆယ။ ၂၆။ အာ
ရာမဝိနိစ္ဆယ။ ၂၇။ ဆပညာသကုသလဝိနိစ္ဆယ။ ၂၈။ အနု
ရုဒ္ဓါဒိဝိသဇ္ဇနာ။ ၂၉။ ဒွေဠှကစ္ဆေဒနီဝိနိစ္ဆယ။ ၃၀။ မိစ္ဆာ

ဇီဝ အဆုံးအဖြတ်။ ၃၁။ ဋီကာပါဌ်ဝိသဇ္ဇနာ။ ၃၂။ ဒွါ သဋ္ဌိဒိဋ္ဌိဘေဒ။ ၃၃။ ဗုဒ္ဓပမုခဒါနာဒိ။ ၃၄။ စေတီပြင်ကောင်း မပြင်ကောင်း။ ၃၅။ ဗောဓိစ္ဆေဒဝိသဇ္ဇနာ။ ၃၆။ မာလာ ဓာရဏဝိနိစ္ဆယ။ ၃၇။ သီလအများမှအနည်းဆောက်တည် အပ်မအပ်။ ၃၈။ ပရောသဟဿဂုတ္တာဒိဝိသဇ္ဇနာ။ ၃၉။ သဟ ဇာတပ္ပဘေဒဝိနိစ္ဆယ။ ၄၀။ ဝိနယာနုလောမဝိနိစ္ဆယ။

၁၁။ **၁၀၄-သိလုံးဆရာတော်။** ။ဝိနည်းဖြတ်ထုံး။ ဒွတ္တိံသကာယ ကျမ်း။ ကုလဒူသကဝိနိစ္ဆယ။

၁၂။ **၁၀၇-ရှင်ပညာဒီပ။** ။ပဗ္ဗဇ္ဇာဒိဝိနယကထာ။ မဟာဓမ္မစက္က ပဝတ္တနသုတ်နိဿယ၊ မင်္ဂလသုတ်,ရတနသုတ်နိဿယ။ သန္ဓိနိဿယသစ်။ မဟာကစ္စာယနအပါဒါန်။

၁၃။ **၁၀၉-ရှင်ဣဝိန္ဒ။** ။မဟာသမယသုတ်နိဿယ။

၁၄။ **၂၉၂-ဦးချစ်မောင်။** ။၇။ အိမ်ကြီးမာယာ၊ ၈။ မင်းသား တန်မဲ့လူပျိုလှည့်။

---

# စာဆိုတော်များ ခွဲခြားသိရန်

## ဘုရင်စာဆိုတော်များ

ငါးစီးရှင်ကျော်စွာ(၇၀၄-၇၀၂)
ပဉ္စမ မင်းခေါင်ကြီး (အင်းဝ) (၇၆၃-၇၈၃)
တောင်ငူ နတ်သျှင်နောင်။ (၉၄၀-၉၇၄)
ဟံသာဝတီပါမင်း။ (၁၀၉၅-၁၁၁၃)
မင်းတုန်းမင်း။ (၁၂၁၄-၁၂၄၀)

---

## စစ်မှုထမ်းစာဆိုတော်များ

၁။ ဦးရှုန်း။ (ဗိုလ်ဝန်)
၂။ လက်ဝဲသုန္ဒရ။ (အရာအထူးကိုအတိအကျမတွေ့ရသေး)
၃။ ဦးစ။ (လက်ျာစစ်ကဲကြီး)
၄။ နတ်သျှင်နောင်။(ဗိုလ်မှူး)
၅။ မင်းဇေယျရန္တမိတ်။ (ကောင်စစ်ဒိုင်းမှူး)
၆။ လှော်ကား ၃၀၀၀-မှူး။ (လှော်ကားမှူး)
၇။ ရွှေတောင်နန္ဒမိတ်။ (ရဲဘက်တော်)
၈။ ဦးပေါ်ဦး။ (အဂ္ဂမဟာသေနာပတိဗိုလ်မှူးဝန်ကြီး)
၉။ မဟာသီဟသူရ။ (စစ်ကဲကြီး)
၁၀။ ဥက္ကာပျံ။ (တပ်မှူး)
၁၁။ ရှင်သူရဲ။ (စစ်သည်)
၁၂။ ပြင်စည်မင်းသား။ (မြင်းမှူး)

---

## မင်းမှုထမ်း စာဆိုတော်များ

| | |
|---|---|
| အနန္တသူရိယ | အထိန်းတော်သား (မင်းယဉ်နရသိင်္ခ) |
| စတုရင်္ဂဗလ | အမတ်ကြီး (ပုဂံဆင်ဖြူ လေး စီးရှင် သီဟသူ) |
| နဝဒေး | အထိန်းတော်သား (မင်းဘစော၊ ပြည် ဘုရင်ယောက်ဖ) |

| | | |
|---|---|---|
| ဥက္ကာပျံ | အကြီးတော် | (မင်းခမောင်း) |
| ရှင်သံကို | လက်ဆောင်ယူမှူး | (အနောက်ဖက်လွန်မင်း) |
| ပဒေသရာဇာ | ဝန်ကြီး | (ဟံသာဝတီပါမင်း) |
| ရွှေတောင်နန္ဒမိတ် | အတွင်းဝန် | (စဉ့်ကူးမင်း) |
| မဟာစည်သူ | တွင်းသင်းမင်း | (ဘိုးတော်ဘုရား) |
| ဦးသြ | အကြီးတော် | (ဗဒုံမြို့စား) |
| ဦးယာ | မြို့ဝန် | (ဘိုးတော်ဘုရား) |
| ဘုမ္မဇေယျ | ကျုံးဝန် | (အလောင်းမင်းတရား) |
| ဝဏ္ဏဓမ္မကျော်ထင် | အတွင်းဝန် | (ဆင်ဖြူရှင်) |
| ဦးဖျော် | အကြီးတော် | (စဉ့်ကူးမင်း) |
| ဦးညို | အတွင်းဝန် | (စဉ့်ကူးမင်း) |
| ဦးတိုး | ရွှေတိုက်စိုး | (ဘိုးတော်ဘုရား) |
| ဒုတိယ နဝဒေး | တွင်းသင်းဝန် မဟာစည်သူ နောက်မှဖြစ်သည် | (ဘိုးတော်ဘုရား) |
| ရွှေတောင်နန္ဒသူ | ဝန်ထောက် | (စဉ့်ကူးမင်း) |
| ဦးရောက်ကြီး | မြို့ဝန် | (ဘကြီးတော်) |
| ဦးရွှေခြည် | တံဆိပ်ဝန် | (ရွှေဘိုမင်း-ပုဂံမင်း) |
| ဦးချိန် | အတွင်းဝန် | (မင်းတုန်းမင်း) |
| ဦးပုည | လက်ဖက်ရည်တော် | (မင်းတုန်းမင်း) |
| ဦးယမ် | ပိဋကတ်တော်အုပ် | (မင်းတုန်းမင်း) |
| ဦးကောင်း | ဝန်ရှင်တော်မင်းကြီး | (မင်းတုန်းမင်း) |
| ဦးလှိုင် | အတွင်းဝန် | (မင်းတုန်းမင်း) |
| ဦးသံမှို | အကြီးတော် | (မြင်ကွန်း မင်းသား) |
| ဦးစီ | လယ်ဝန် | (မင်းတုန်းမင်း) |
| ဘိုးဝဇီရ | စာရေးတော် | (မင်းတုန်းမင်း) |
| ဦးကြီး | မြို့စာရေး | (သီပေါမင်း) |
| ဦးခြိမ့် | ဝန်ထောက် | (သီပေါမင်း) |

| | | |
|---|---|---|
| ဦးကြော့ | ဝန်စာရေး | (သီပေါမင်း) |
| ဦးရှင်ကလေး | အမှာတော်ရေး | (သီပေါမင်း) |

---

## ရွာစားစာဆိုတော်များ

| | |
|---|---|
| ဥက္ကာပျံ | စိန်တင်ရွာ။ |
| ပဒေသရာဇာ | မန်ကျည်းရုံရွာ၊ ဇရွံ့မြို့။ |
| ဝဏ္ဏဓမ္မကျော်ထင် | ယင်းတော်မြို့။ |
| ဦးဖျော် | ပုလိပ်ရွာ၊ ကျောက်ရင်း တောင်သာမြို့။ |
| ဦးပေါ်ဦး | ယောမြို့၊ ဆောမြို့။ |
| ဦးစ | မြဝတီမြို့။ |
| *မောင်နဂါး | ပြင်စည်မြို့။ |
| ဦးမင်း(ဖိုးသူတော်) | စာမှန်းကြီးရွာ။ |
| ဦးမင်း | ကန်ပြာရွာ။ |
| ဦးရွှန်း | ဆိမ်းခုံရွာ၊ သာထွန်းရွာ၊ ငနန်ရွာ။ မြစ်ကိုင်းရွာ။ |
| ဦးရွှေခြည် | စောလှမြို့၊ မဲဇလီရွာ။ |
| ဦးပုည | ရွာစည်ရွာ။ |
| ဦးယမ် | မကွေးမြို့။ |
| ဦးကောင်း | သပြေငါးရွာ။ |
| ဦးလှိုင် | ယောမြို့။ |
| ဦးစိ | စဉ့်ကူးမြို့၊ ဆောမြို့။ |
| ဦးခြိမ့် | မြောင်လှမြို့။ |

---

* အချို့မြို့စားရွာစားရရှိကြသူများမှာ မင်းညီမင်းသား မင်းမှူး မတ်မြစ်ခြင်းကြောင့် ရရှိသည်လည်း ရှိလေသည်၊ သို့ရာတွင် အများအားဖြင့် ရာထူးဌာနန္တရခန့်အပ်ချီးမြှောက်ရာ၌ စာပေကဗျာလင်္ကာ ပိဋကတ်ကျမ်းဂန် တတ်ကျွမ်းမှု အရည်အချင်းအလျောက် ချီးမြှောက်လေ့ရှိပေရာ ရွာစားမြို့စား အရာချီးမြှောက်ခြင်းမှာ စာဆိုတော်ကျမ်းပြု ပုဂ္ဂိုလ်များအနေဖြင့် ချီးမြှောက်ရာ ရောက်သည်သာ ဖြစ်လေသည်။

## ဘွဲ့ရစာဆိုတော်များ

| | |
|---|---|
| နဝဒေး | နဝဒေဘွဲ့၊ မင်းလကျာဘွဲ့။ |
| လှော်ကား၃၀၀၀မှူး | လှော်ကား ၃၀၀၀ မှူး၊တောင်ငူ နဝဒေးဘွဲ့၊ ရာဇဗလဘွဲ့၊ ရာဇဗာဟုဘွဲ့၊ ရာဇဒေဝဘွဲ့။ |
| မောင်ထွန်း | မင်းဇေယျရန္တမိတ်ဘွဲ့။ |
| ပဒေသရာဇာ | လကျာ ရွှေတောင်ဘွဲ့၊ တုရင်ကျော်သူ ဘွဲ့၊ မင်းရဲမင်းလှကျော်ထင်ဘွဲ့၊ နတ်ရှင်နောင်ဘွဲ့၊ ဘုန်းတော်မြတ်ဘွဲ့၊ ပဒေသရာဇ်ဘွဲ့၊ ပဒေသရာဇာဘွဲ့။ |
| မောင်ဘူးကလေး | ရွှေတောင်နန္ဒမိတ်ဘွဲ့။ |
| ဦးမြတ်စံ | လက်ဝဲသုန္ဒရဘွဲ့၊ လက်ဝဲနော်ရထာဘွဲ့၊ မဟာသီဟသူရဘွဲ့။ |
| မောင်ထွန်းညို | မဟာသင်္ခါယာဘွဲ့၊ မဟာစည်သူဘွဲ့။ |
| ဦးညြ | ရွှေတောင်ရာဇကျော်ဘွဲ့၊ စိန္တကျော်သူဘွဲ့၊ မဟာဇေယျသင်္ခယာဘွဲ့။ |
| မောင်ပွား | သင်္ခသာရ။ |
| ဦးယာ | နေမျိုးမင်းလှ ကျော်သူဘွဲ့၊ ဒေဝသီရိကျော်ထင်ဘွဲ့။ |
| မောင်မြတ်အောင် | ဝဏ္ဏဓမ္မ ကျော်ထင်ဘွဲ့၊ မဟာဇေယျသူရဘွဲ့။ |
| ဦးဖျော် | မင်းရာဇာဘွဲ့၊ ဟူးရားညို့ဘွဲ့၊ သီရိပဏ္ဍိတ်ဘွဲ့၊ |
| ဦးညို | ရွှေတောင်နန္ဒမိတ်ဘွဲ့။ |
| ဦးတိုး | ဇေယျကျော်သူဘွဲ့။ |
| ဦးနု | ဒုတိယ နဝဒေးဘွဲ့၊ ကျော်ထင်ဇေယျသူဘွဲ့၊ မဟာသင်္ခယာစည်သူဘွဲ့၊ မဟာသီရိစည်သူဘွဲ့၊ ဥတ္တမသီရိမဟာသင်္ခယာဘွဲ့။ |
| မောင်လှ | ရွှေတောင်နန္ဒသူဘွဲ့၊ စလင်းနဝဒေးဘွဲ့။ |
| ဦးပေါ်ဦး | မဟာဇေယျသူရ သင်္ခယာဘွဲ့၊ သတိုးမင်းကြီး မဟာမင်းလှနော်ရထာဘွဲ့၊ သီရိမဟာနန္ဒသကြန်ဘွဲ့။ |

| | |
|---|---|
| ဦးစ | နေမျိုးဇေယျသူရဘွဲ့၊ မဟာသီရိဇေယျသူဘွဲ့၊ မင်းကြီးမဟာသီရိသီဟသူဘွဲ့။ |
| မောင်နဂါး | မင်းရဲသီရိဘွဲ့၊ မင်းရဲသီဟကျော်ဘွဲ့၊ သတိုးမင်းရဲနရာဘွဲ့။ |
| ဦးရောက်ကြီး | စည်သူသီရိရွှေတောင်ဘွဲ့၊ နေမျိုးဇေယျသူဘွဲ့၊ မဟာသီဟသူဘွဲ့။ |
| ဦးမင်း | မင်းထင်သက်ရှည်ဘွဲ့၊ စိန္တကျော်ထင်ဘွဲ့။ |
| ဦးရွှန်း | စန္ဒကျော်ခေါင်ဘွဲ့၊ မဟာမင်းလှမင်းခေါင်ဘွဲ့။ |
| ဦးရွှေခြည် | သီရိရာဇသူဘွဲ့၊နေမျိုးစည်သူဘွဲ့၊ မင်းလှရာဇကျော်ထင်ဘွဲ့။ |
| ဦးချိန် | မဟာဇေယျသင်္ခယာဘွဲ့။ |
| ဦးပုည | မင်းလှသင်္ခယာဘွဲ့။ |
| ဦးယမ် | မဟာသီရိဇေယျသူဘွဲ့။ |
| မောင်ဖါး | နေမျိုးဓမ္မကျော်သူဘွဲ့။ |
| မောင်မြတ်နေ | လက်ဝဲနေမျိုးရထာ၊လက်ဝဲသုန္ဒရ၊ နေမျိုးသီရိဇေယျကျော်ထင်၊ နေမျိုးမဟာ ကျော်ထင်၊ နေမျိုးမဟာသင်္ခယာ၊ မဟာသီဟသူရ၊ နန္ဒသူရကျော်ထင်၊ ရန္တကျော်စွာ၊ပုံချီကျော်ထင်၊ မင်းကြီးကျော်ထင်ဘွဲ့များ။ |
| ဦးကောင်း | မင်းလှသိင်္ခသူဘွဲ့၊မဟာစည်သူဘွဲ့။ |
| ဦးလှိုင် | မင်းလှစည်သူဘွဲ့။ |
| ဦးမြိမ့် | နေမျိုးဇေယျသူဘွဲ့၊ မင်းလှဇေယျသူဘွဲ့၊ သီရိမဟာဇေယျသူဘွဲ့။ |
| ဦးရှင်ကလေး | နေမျိုးမင်းထင်ကျော်ခေါင်ဘွဲ့။ |
| ဦးတင်(ပုဂံဝန်ထောက်) | နေဲရထာကျော်ထင်ဘွဲ့။ |

---

**မှတ်ချက်။** ။စာဆိုတော်များ၏ ဘွဲ့မည်ရည်များကို စူးစမ်းသောအခါ ထပ်တူ-တူညီသောဘွဲ့များနှင့်ဆင်တူသောဘွဲ့များကို သတိပြုမိနိုင်လေသည်။

မဟာသီဟသူရဘွဲ့ကို(၁) ဦးရောက်ကြီး။
(၂) ဦးမြတ်စံတို့ရရှိကြလေသည်။

ဦးစ၏ဘွဲ့မှာ မဟာသီရိသီဟသူရဖြစ်၍ (သီရိ)တလုံးပိုလေသည်။

နေမျိုးဇေယျသူဘွဲ့ကို (၁) ဦးရောက်ကြီး။
(၂) ဦးချိန်တို့ရရှိလေသည်။
(၃) ဦးမြတ်အောင်၏ဘွဲ့မှာမဟာဇေယျသူရ ဖြစ်၍(နေမျိုး)နှင့်(မဟာ)ကွဲသည့်ပြင် (ရ)တလုံးပိုလေသည်။
(၄) ဦးစ၏ဘွဲ့မှာ နေမျိုးဇေယျသူရ ဖြစ်၍ (ရ)တလုံးပိုလေသည်။

မဟာဇေယျသင်္ခယာ ဘွဲ့ကို (၁) ဦးချိန်။
(၂) ဦးသြတို့ရရှိလေသည်။
(၃) ဦးပေါ်ဦး၏ဘွဲ့မှာ မဟာဇေယျသူရသင်္ခယာဖြစ်၍(သူရ)တလုံးပိုလေသည်။

ဦးယမ်၏ဘွဲ့မှာ မဟာသီရိဇေယျသူဖြစ်၍ ဦးမြိမ့်၏ဘွဲ့မှာ သီရိမဟာဇေယျသူ ဖြစ်သဖြင့် (သီရိ)နှင့် (မဟာ)ရွှေနောက် အပြန်အလှန်သာ ကွဲလေသည်။

---

# အက္ခရာစဉ်အညွှန်း

## ရဟန်းတော်များဘွဲ့တော်စဉ်

က



ခ



ဂ

## ဣ



## ဥ

# ရဟန်းတော်များအနွတ္တသညာစဉ်

(ကျောင်း၊ သို့မဟုတ်ဇာတိစသည်ကို အစွဲပြု၍ ထင်ရှားသော အမည်များ ဖြစ်သည်။)

**က**



**ခ**



**ဂ**

## ရ

## လ



## ဝ



## သ



## ဟ



## အ

## အမျိုးသား,အမျိုးသမီးစာဆိုတော်များအကွရာစဉ်

# ပြင်ဆင်ချက်

| စာမျက်နှာ၊ | ကြောင်းရေ၊ | အမှား၊ | အမှန်၊ |
|---|---|---|---|
| ၂၅ | ၁၉ | ၁၁၃* | ၁၁၅* |
| ၃၇ | ၂၁ | မုန်တိုင်မင် | မှုံတိုင်ပင် |
| ၅၆ | ၉ | ၁၃၀၀ | ၁၂၀၀ |
| ၅၉ | ၂၁ | ခုတွင် | ခုလွန်မှ |
| ၇၀ | ၁၃ | သဒ္ဒါအတက် | သဒ္ဒါဗဟက် |
| ၁၀၇ | ၂ | သီမာလက်ာရဝိနိစ္ဆယ | သီမာ သက်ရဝိဝါ ဒဇ္ဇေဒနီပါဠိ |
| ။ | ၃ | ဒသမက်ာရအဋ္ဌကထာ | ဒသဇမ္မသုတ္တံာလက်ာရ ဝဏ္ဏနာပါဠိ၊ |
| ။ | ၁၅ | သန္နေသကထာ | သန္နေသ ကထာများ၊ |
| ။ | ၁၀ | ယွန္တီကာ | ယွာန္တီကာ၊ |
| ၁၄၁ | ၁ | ဘုရားကြီးဆရာတော် | တတိယ ဘုရားကြီး ဆရာတော်၊ |
| ၁၅၂ | ၃ | ၁၀၃၉ | ၁၃၀၉ |
| ၁၆၄ | ၁၆ | ၁၆၅၊ ရှင်++ | ၁၆၅၊ ရှင်နရိန္ဒ၊ |
| ၁၇၂ | ၁ | နောက်ဆက်တွဲ (က) | နောက်ဆက်တွဲ |
| ၁၀၃ | ၁ | ရှင်ကရဝိက+++ | (အတ္ထုပ္ပတ္တိကို စာမျက်နှာ ၂၁၁တွင်ဖေါ်ပြပြီး၍ဖြုတ်ပယ်ရန်) |
| ၂၀၂ | ၇ | မဟာဝိသုတာရာမ | မဟာဝိဇယာရာမ |
| ၂၁၂ | ၂၅ | မည်သရီ,မွှမ်းဓား | မည်သရီမွှမ်းဓား |
| ၂၁၇ | ၂၃ | †လက်ဝဲသုန္ဒရ | လက်ဝဲသုန္ဒရ၊ |
| ။ | ၂၅ | - ၃၀၄- | ၃၀၄ ရှု။ |
| ။ | ၂၇ | †တောင်တွင်းဆရာတော် | လက်ဝဲ နော်ရထာ လျှောက်ထုံးကို တောင်တွင်းဆရာတော် |

[ပုဒ်စဉ်ဂဏန်းအချို့ ချွတ်ယွင်းနေသည်ကို ပြင်ဆင်ကြပါရန်]

---

H. P. 12-10-61—2000

